# ချင်းလူမျိုးများနှင့်
# လူနည်းစုအရေး

KUKI-CHIN-ZOMI-MIZO



ဟန်ရှိန်

HANG SHING

# ZOMI NATIONAL EMBLEM

National Animal- Mithun- Sial, Sia, Se, Sel





National Flower- Rhododendroen- Ngeisok, Chokhlei, Hraithakphaw





National Bird- Hornbill- Vaphual, Vapual,Vakok





Designedby, Zam Lam Thang.

Compiled by Kham Lam Tuang, Kalay, 2013

# ချင်းလူမျိုးများ
# နှင့်
# လူနည်းစုအရေး

KUKI-CHIN-ZOMI-MIZO

ဟန်ရှိန်

HANG SHING

ဖြန့်ချိရေး

**Cosmo Publishing House**

အမှတ် ၁၅၇/၁၅၉ အခန်း ၇/ဒီ

၃၆ လမ်း (အထက်) ကျောက်တံတား

၀၉၄၅၁၀၀၀ ၁၅၃၉

**ပုံနှိပ်မှတ်တမ်း**

**ပုံနှိပ်ခြင်း–**
ပထမအကြိမ်၊ ဒီဇင်ဘာလ၊ ၂၀၁၃
အုပ်ရေ
၅၀၀
**စီစဉ်သူ**
Rev. Zambawi (သန်လျင်)
**ထုတ်ဝေသူ**
ဒေါ်သင်းသင်းမွန် (၀၄၂၃၁)
သင်းစာပေတိုက်
အမှတ် (၁၀) ရတနာမြိုင်လမ်း၊ ၁၂ ရက်ကွက်
ကမာရွက်မြို့နယ်၊ ရန်ကုန်။
**ပုံနှိပ်ထုတ်ဝေသူ**
**မျက်နှာဖုံးအတွင်းပုံနှိပ်**
ဒေါက်တာ ကောင်းမြတ်သူ
ရွှေမြို့တော်အဆင့်မြင့်ရောင်စုံပုံနှိပ်တိုက်
အမှတ် (၁၃၂)၊ ၃၄ လမ်း (အလယ်)
ကျောက်တံတားမြို့နယ်၊ ရန်ကုန်။

**တန်ဖိုး**–ကျပ် ၂၀၀၀

**ထုတ်ဝေသည့်ကတ်တလောက်အညွှန်း CIP**

ဟန်ရှိန် ၉၂၀
ချင်းလူမျိုးများနှင့် လူနည်းစုအရေး
သင်းစာပေ ၂၀၁၃
စာ–အလျား ၅.၂" X အနံ ၈.၂"
(၁) ချင်းလူမျိုးများနှင့် လူနည်းစုအရေး
စာ–၂၆၉

# မာတိကာ

# အမှာစာ

ဤစာအုပ်ထုတ်ဝေရခြင်း၏ အဓိကရည်ရွယ်ချက်မှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် မှီတင်းနေထိုင်သော တိုင်းရင်းသားလူမျိုး(၈)ခုထဲမှ လူမျိုးတစ်ခု အဖြစ်ရပ်တည်နေသော ချင်းလူမျိုးများ၏ရာဇဝင်ကို သိရှိစေရန်အတွက် ဖြစ်ပါသည်။ ထို့နောက် ချင်းလူမျိုးများ၏ဇာတိမှန်၊ အမည်မှန်ဖော်ပြချက်များ သမိုင်းသုတေသနပြုစုသူများက လေ့လာနိုင်ရန်နှင့်ပြန် လည်ကိုးကားနိုင်ရန် အတွက် ရေးသားထားခြင်း ဖြစ်သည်။ ဤစာအုပ်တွင် စာဖတ်ပရိတ်သတ် မသိရှိသေးသော သမိုင်းအချို့ ပါဝင်သလို သိရှိပြီးသော အကြောင်း တချို့ကိုလည်း ထည့်သွင်း ထားပါသည်။ ဤစာအုပ်တွင် ဖော်ပြထားသော အကြောင်းအရာများအား ငြင်းပယ်ခြင်း (သို့) လက်ခံခြင်းသည် စာဖတ်သူ ပရိတ်သတ်များ ၏ ဆုံးဖြတ်ချက်ပင် ဖြစ်သည်။

ယခုအခါ မြန်မာပြည်၌ ချင်းလူမျိုးများအား မြန်မာနိုင်ငံသား (Nationality) နှင့်ချင်းအမျိုးသား(National)၊ အိန္ဒိယနိုင်ငံတွင် အိန္ဒိယနိုင်ငံသားနှင့်မီးဇိုနှင့်ဇိုမီး ဟု ခေါ်ဆိုကြသည်။ စာရေးသူ၏နာမည်အရင်းမှာ ဦးခမ်လမ့်တွောင် ဖြစ်ပြီး ဟန်ရှိန် (Hang Shing)မှာ မျိုးရိုးအနွယ်မည်ဖြစ်သည်။ ယင်းကိုပင် ကလောင်နာမည်အဖြစ် အသုံးပြုထားခြင်း ဖြစ်သည်။

( ၁ )

သမိုင်း (ရာဇဝင်) အမျိုးမျိုးရှိသကဲ့သို့ ယခုစာအုပ်ထဲ၌ ပြည်ထောင်စုမြန်မာနိုင်ငံတွင် နေထိုင်သောတိုင်းရင်းသားလူမျိုးများ သမိုင်း နှင့်နိုင်ငံရေးသမိုင်း ပါဝင်ပါသည်။

ကျွန်တော်စာရေးသူသည် မြန်မာစာဖြင့် စာအုပ်တစ်အုပ် ရေးသားထုတ်ဝေနိုင်ဖို့ရန် ပညာအရည်အချင်း၊ မြန်မာစာရေးသား နည်းနှင့် မြန်မာစကားကျွမ်းကျင်မှု အားနည်းသဖြင့် မိမိကိုယ်ကို ယုံ ကြည်နိုင်စွမ်းမရှိပါ။ သို့သော် မျိုးချစ်စိတ်ဓါတ်ပြင်းထန်လွန်းခြင်း၊ မြန်မာစာကို ရုံးသုံးစာဖြစ်သကဲ့သို့ အနည်းဆုံး နိုင်ငံသား သန်း၅၀ ဆယ်က ဖတ်တတ်ရေးတတ်သောကြောင့် ဖြစ်သည်။ စာရေးသူသည် Tedim-Chin စကားဖြင့်စာအုပ်တစ်အုပ် ၂၀၁၀ ခုနှစ်တွင် ရေးထား ခဲ့ပြီး ယခု မြန်မာလိုဖြင့် ထုတ်ဝေသောစာအုပ်သည် ဒုတိယ မြောက် စာအုပ်ဖြစ်သည်။ သမိုင်းအကြောင်းရေးသားခြင်းထဲမှာ လူမျိုးသမိုင်း ရေးသားခြင်းသည် အခက်ဆုံးနှင့်သတိချပ်ရန် အလိုအပ်ဆုံးဖြစ် သည်။ အကြောင်း မှာ လူမျိုးနွယ်စုအမျိုးမျိုးနှင့်ပတ်သက်သော ကြောင့် အမှန်ဆုံးရေးဖို့ ခက်လှပါသည်။ မှားတာကို ရေးခဲ့မိလျှင် အပြစ်တင်ဝေဖန်ကြမည်မှာ သေချာသည်။ ဝတ္ထု၊ ကဗျာ ရေးသား ခြင်းကဲ့သို့ မဟုတ် ပါ။ လူမျိုးအကြောင်းရေးသည့်အခါ လူမျိုးအမည် နှင့် လူတစ်ယောက်အမည် ဖုန်းကွယ်၍မရပါ။ ကလောင်နာမည်သုံး၍ လည်းမရပါ။

တိဗက်-မြန်မာစကား စာပေရေးသားနည်း သုံးမျိုးဖြင့် ရေးသားနိုင် သည်။ အင်္ဂလိပ်စာ ရေးသားခြင်းနှင့်မတူပါ။

သာဓက-( က ) မုံရွာ မှ ရန်ကုန်သို့ ငါလာသည်။

( ခ ) ရန်ကုန်သို့ မုံရွာမှ ငါလာသည်။

( ဂ ) ငါမုံရွာမှ ရန်ကုန်သို့လာသည်။

တိဗက်-မြန်မာစကားအနွယ်ဝင် စာရေးသားနည်း မှာ သဒ္ဒါအရ ကံ + ကတ္တား+ ကြိယာ (Object+ Subject + Verb)။ ဤကဲ့သို့ မြန်မာစာ ရေးသလို တိုင်းရင်းသား တိဗက်-မြန်မာ စကားအနွယ်ဝင်များဖြစ်ကြသော ချင်းလူမျိုး၊ ကချင်လူမျိုးများ ကလည်း ရေးသားလေ့ရှိသည်။ အင်္ဂလိပ်စာရေးသား နည်းမှာ (Subject +Object+ Verb) ဖြစ်သည်။ ဤစာအုပ်ထဲတွင် အထက်ပါ မြန်မာစာရေးသားနည်း သုံးမျိုးစလုံးကို ရောနှောကာ အသုံးပြုထား ပါသည်။ မှားတာမရှင်းတာများကို ခွင့်လွှတ်ပေးပါရန် တောင်းပန် အပ်ပါသည်။ ဤစာအုပ် ဖြစ်မြောက်ရန်အတွက် ဉာဏ်ပညာ နှင့်ကျန်းမာရေးပေးသော ဖန်ဆင်းရှင်ဘုရားသခင်အပေါ်၌ သော်လည်းကောင်း၊ အဘက်ဘက်မှ ကူညီအားပေးသော သူငယ် ချင်းနှင့်မိသားစုများ၊ အထူးသဖြင့်၊ ငွေကြေးနှင့်ထောက်ပံ့ပေးသော Rev. Zambawi နှင့်မိသားစု (သန်လျင်)၊ ကွန်ပျူတာနှင့်ဒီဇိုင်းကို နွေ့ည မအားမလပ်ကြားထဲမှာ အစမှ အဆုံးအထိ ကူညီပေးသော

သူငယ်ချင်း ဆရာဦး ဇမ်လမ့်ထန်၊ ဒေးဗစ်(ယုဇန)၊ တာန် ကျင့်ဇခိုင် (Cosmos)ထုတ်ဝေသူခွင့်ပြုချက်ကူညီပေးသူနှင့် ဖြန့်ချိပေးသူ၊ စာအုပ်ဝယ်ယူသူများ၊ ဖတ်ရှုသူများ အားပေးသောသူအားလုံး အပေါ်မှာ ကျေးဇူးဥကာတရအထူးတင်လျက်ရှိကြောင်း ဖော်ပြလိုပါသည်။

ကျေးဇူးတင်လျက်

ခမ်လမ့်တွောင်
အမှတ် ၁၆၀/၄ ဗန္ဓုလလမ်း တောင်ဖီလာ–တာဟန်း
ကလေးမြို့ စစ်ကိုင်းတိုင်း။
အီးမဲလ်း– zhouscho@gmail.com

# နိဒါန်း

" ချင်း "ဟူသော ဝေါဟာရစကားလုံးသည် ချင်းလူမျိုး များ နေထိုင်ရာ နယ်မြေဒေသအသီးသီးမှာ သုံးနှုန်းထားခြင်း လုံးဝမရှိပါ။ "ချင်း" ဟူသော ဝေါဟာရစကားလုံး၏ အနက် အဓိပ္ပါယ်မှာ ယခုထိ ချင်းလူမျိုးများ မသိရှိသေးသော စကားလုံးပင် ဖြစ်နေသည်။ ပုဂံခေတ် ကျောက်စာများတွင် မြန်မာဘုရင်များက သတ်ပုံမှားယွင်းစွာ ရေးသားထားသောကြောင့် ဗြိတိသျှအစိုးရ လက်ထက်မှာ "CHIN" ချင်းဟု ရေးသားဖော်ပြထားခြင်းကို ယနေ့ထိ တိုင်အောင် နိုင်ငံတော်အစိုးရက တရားဝင် (official) အသိအမှတ်ပြုသုံးနှုန်းထားပါသည်။ ပြည်ထောင်စု မြန်မာနိုင်ငံတွင် နေထိုင်ကြသော တိုင်းရင်းသားလူမျိုး (၈)မျိုးထဲမှာပင် လူမျိုးကြီး တစ်ခုအဖြစ်ရပ်တည်လာခဲ့ပါသည်။ ယနေ့ခေတ် ကာလမှာပင် "ချင်း" ဟူသော စကားလုံးသုံးနှုန်းပုံကို မနှစ်သက်ကြသော်လည်း နိုင်ငံတော်အစိုးရ၏ အသိအမှတ် ပြုသော တိုင်းရင်းသားလူမျိုးကြီး တစ်မျိုးနိုင်ငံသားအစစ်အမှန်အဖြစ် ရပ်တည်နေထိုင်ကြလေသည်။ ချင်းလူမျိုးများသည် ချင်း ဟု ခေါ်ဝေါ်ခြင်းကို မငြင်းဆိုနိုင်ခဲ့

သော်လည်း ချင်းလူမျိုးများအား ဇိုမီး (Zomi) ဟု ခေါ်ဆို၍ ချင်းလူမျိုးများတွင် ''ချင်းပုတ်'' ဟု ခေါ်ဆိုသော လူမျိုးများ လုံးဝမရှိပါဟု စာရေးဆရာ ဦးသိန်းဖေမြင့်က သူ့စာအုပ် (ချင်းဝိသေသတိုင်း၏သမိုင်း အစ၊ ၁၉၆၇-စာ-၁၇၂) တွင် ဖော်ပြခဲ့ပါသည်။ နောင်တွင် လူမျိုးတစ်မျိုး၏ ဆင်းသက်ပုံနှင့် ခေါ်ဝေါ်ကြသော စကားလုံးအသုံးအနှုန်းအား မြန်မာစာပေလောကမှာ ဂရုတစိုက်သတိ ပြုသင့်ပါသည်။ တိုင်းရင်းသားလူမျိုးများ၏ အမည်များကို ရေးသားရာတွင် များစွာမှားယွင်း နေကြောင်း ထင်ရှားနေပါသည်။

ချင်းလူမျိုး စကားလုံး Chin pong ချင်းပုံကို ချင်းပုန်းဟု ရေး၍ Chinbok (Cho) ချင်းဘောခ်/ချင်းဘုတ်ကို မြန်မာအက္ခရာ ရေးသားရာတွင် ချင်းပုတ်/ချင်းပုပ်ဟု ရေးမှား၍ အဓိပ္ပါယ်များ ကွဲပြားခြားနားနေပါသည်။ Chon Bik ကြွမ်ဘိခ်ကိုလည်း ဆွန်ပက်ဟု ရေးမှားထားသောကြောင့် နိုင်ငံတော် အစိုးရက ဗိုလ်ဆွန်ပက်လမ်းဟု ရေး၍ လုံးဝမှားယွင်းဖော်ပြထားပါသည်။

ချင်းပုန်းဟူသော စကားလုံး၏ အနက်အဓိပ္ပါယ်နားမလည်သော်လည်း ချင်းပုန်းရွာကို ယင်းမသတ် ကျေးရွာအုပ်စု၊ ယင်းမာပင်မြို့နယ်၊ စစ်ကိုင်းတိုင်းတွင် တည်ရှိသည်။ ဗြိတိသျှခေတ်က ချင်းကင်းတပ်ကို ချင်းကင်းရွာဟု ခေါ်၍ ယခုအခါစည်သာကျေးရွာအုပ်စု၊ ကလေးမြို့နယ်တွင် တည်ရှိသည်။ ယခု စစ်ကိုင်းတံတားနား ရှေးမြန်မာဘုရင်မြို့ ပောင်းအမာရပူရမြို့ အနီး မြစ်ကမ်းနား

တွင် ချင်းရွာတစ်ရွာ တည်ရှိခဲ့၍ အချိန်ကြာမြင့်စွာ နေထိုင်ခဲ့ သည်။ ကျောက်ကဗ္ဗည်း အမြင့် ၁၃ ပေကို ယနေ့အထိ မြင်တွေ့နိုင်သည်။ ယင်းကို အနီးဝန်းကျင်၌နေထိုင်သော ဗမာလူမျိုးများက ချင်းဘုရား ဟု ခေါ်ကြသည်။ စစ်ကိုင်းတံတားအနီးမှာလည်း ချင်းစုရွာတစ်ရွာ သည် ယနေ့ အထိတိုင် ရှိသေးသည်။ (S.B Khan Tin Zam Vungh, 2001, Sukzo Bawmkhai Khang Tangthu, p. 109)ချင်းလူမျိုးများ၏ လူမျိုး ဆင်းသက်ပုံ၊ လူမျိုးအမည် အမှန်မှုရင်းကို ဤစာအုပ်အခန်း ၁ နှင့် ၂ မှာ ဖော်ပြပါသည်။ စာဖတ်သူက လက်ခံခြင်း၊ လက်မခံခြင်း ထက်ကိုယ့်သမိုင်း၊ ကိုယ်လူမျိုး ယေဘုယျအမည် **(Nomanclature/ Generic name)** အမှန်ကို ရေးသားဖော်ပြရန် "**နိုင်ငံသားတိုင်း သည် မိမိ၏ယုံကြည်ချက်၊ ထင်မြင်ယူ ဆချက်များကို ထုတ် ဖော်ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့်ရှိ သည်**"(ဥပဒေ–ဖွဲ့စည်းပုံ ၂၀၀၈ ပုဒ်မ ၃၅ (က))။

ဤစာအုပ်တွင် " ချင်း " ဟုဆိုသော စကားရပ်မှာ "KUKI-CHIN-LUSHAI" လူမျိုးစုများ အပါအဝင် ဖြစ်သည်။ KUKI က " ချင်း" ကိုယ်စား KUKI ( Thado စကားသုံး) ရွေး ချယ်သည်။ Lushai က ZOFA (Lusei) အစား Mizoram မှာ Mizo သုံး၍ မြန်မာပြည်မှာလည်း Chin အစား Mizo ရွေးချယ်သည်။ အိန္ဒိယနှင့် မြန်မာပြည်မှာ Kuki-Chin အစား TEDIM, PAITE, SIMTE, VAIPHEI, GANGTE, ZOU, THADO, KOM,

TEDIM-CHIN ကိုယ်စားပြု ယေဘုယျအမည် (Generic Name) ZOMI ရွေးချယ်သည်။ ZOMI နှင့် MIZO ဘာသာစကားကွဲပြား မှုရှိသော်လည်း Mizoram MIZO (Duhlian) စကားပြောသူများ သမိုင်းအမှန် သိရှိသည်ဖြစ်သောကြောင့် ZOMI နှင့် MIZO ကို အမှားအမှန် ခေါ်ဝေါ်ခြင်း မကွဲပြားအောင် "ZO" ဝေါဟာရ (Etymology of ZO) ကို အခြေခံ၍ Zota / Zofa, Zogam/Zoram, Zopau/Zotawng/Zonam/Zohnam ဟု အတိုကောက်ဖြင့် ခေါ်ဆိုခဲ့ကြ သည်ကို တွေ့ရသည်။ Kawlmi, Vaimi, Simmi, Laimi, Hmarmi, Zomi ဟုလည်း ခေါ်သည်။ Mizo, Mivom (Midum), Mikang (Mirang), Mingo ဟူ၍ ရှေ့နှင့်နောက်မှာ မိးဖိုနှင့်ဖိုမိးက Mi ကို အသုံးပြုသည်ကို တွေ့ရသည်။

မြန်မာပြည်ချင်းလူမျိုးထဲမှာ မြေပြန့်ချင်းများက "ချင်း" ကို ခိုင်မြဲစွာ အသုံးပြုချင်ပါသည်။ ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံ အခြေခံဥပဒေရေးဆွဲတဲ့အခါ ချင်းအစား Zomi ထည့်သွင်းမည်ဟု အဆိုရှိခဲ့သော်လည်း မြေပြန်ချင်းများ တချို့က ကန့်ကွက်ခဲ့သည်ဟု သိရှိရသည်။ ချင်းပြည်နယ် လူမျိုးများထဲမှာ Hakha က Laimi, Tedim က ZOMI, Paletwa က Khumi ဟူ၍ ၂၀၁၄ ခုနှစ်မတ်လ ၃၀ ရက်မှ ဧပြီလ ၁၀ ရက်နေ့အထိ သန်းခေါင်စာရင်းကောက်ယူရာတွင် လူမျိုးအမည်ထည့်သွင်းရေးသားခြင်းကို လိုလားကြပါသည်။

ဤကိစ္စနှင့်ပတ်သက်၍ ဇိုမီးအမျိုးသားများ ၃၀-၁၂-၂၀၁၃ (တနင်္လာနေ့) ရန်ကုန်တီးတိန်နှစ်ခြင်းအသင်းတော်၌ ဆွေးနွေးခဲ့ကြသည်။ စာရေးသူကိုယ်တိုင်လည်း တက်ရောက်သည်။ Tedim နယ်တွင် Zomi ကို လူအများစုက နှစ်သက်ကြသော်လည်း Chin ကို ပိုမိုနှစ်သက်သော သူများလည်းရှိသည်။ ထိုသူတို့က Salai နှင့် Mai ကို သုံးသည်။ ၂၀၁၄ ခုနှစ် သန်းခေါင်စာရင်းကောက်ယူရာတွင် မိမိလူမျိုး၏ အမည်အမှန် ရေးရမည်ဖြစ်၍ Zomi အစစ်နှင့် အမှန်ကို သိရမည် ဖြစ်သည်။ Zomi အနည်းဆုံး ၃ သိန်းကျော်ရှိမည်။ မဏိပူရ Kuki-Chin နှင့် ပေါင်းလျှင် ၇ သိန်းကျော် Mizoram နှင့် ပေါင်းလျှင် ၁၅ သိန်း ကျော်မည်ဟု အနည်းဆုံးခန့်မှန်းရသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတွင် တိုင်းရင်းသားလူမျိုး (၈)မျိုး၊ လူမျိုးနွယ်စု (၁၃၆)မျိုးကျော် နေထိုင်သော နိုင်ငံ ဖြစ်သည်။ ဗမာ၊ ချင်း (၅၃)၊ ကချင်၊ ရှမ်း၊ မွန်၊ ရခိုင်၊ ကယား၊ ကရင် ဟူ၍ အတူတကွ နေထိုင်သော်လည်း ဘာသာစကား နွယ်စုအရ ပညာရှင်များက မတူဟု ခွဲခြားထားခဲ့ကြသည်။ သို့သော် မွန်ဂိုလီးယားအနွယ်ဝင်များ ဖြစ်သည်ဟု ဆိုပါသည်။

ဗမာ၊ ချင်း၊ ကချင်၊ ရခိုင်တို့သည် တိဗက်-မြန်မာဘာသာစကားပြောအနွယ်ဝင်များဖြစ်သည်ဟု ဆိုပါသည်။ ဤစာအုပ်မှာ ချင်း (Zomi) အကြောင်းသာ ဖြစ်သောကြောင့် အခြေခံဦးစားပေး၍ ရှင်းပြပါမည်။

( ည )

မနုသဗေဒပညာရှင်များက လူတို့၏ အရောင်/ကိုယ်ခန္ဓာကို ကြည့်၍ မွန်ဂိုလီးလူမျိုးနွယ်ဟု ခေါ်ဆိုခြင်းဖြစ်သည်။ စစ်သားမဟုတ်သော လူတစ်ယောက်က စစ်သားဝတ်စုံဝတ်သောအခါ စစ်သားဖြစ်မည်ဟု ခန့်မှန်းပြောဆို သကဲ့သို့ ဖြစ်သည်ဟု ယူဆပါသည်။

ဘာသာဗေဒပညာရှင်များက တိဗက်–မြန်မာစကားပြောနွယ်ဝင်ဟု လေ့လာခြင်းကို လက်ခံသည်။ အကြောင်းက လူမျိုးနွယ်စုများ ရောနှောနေထိုင်ကာ ယနေ့အထိ တိဗက်–မြန်မာစကားအရ စာပေနှင့်စကားမှာ သုံးနေဆဲဖြစ်သည်။ (ဥပမာ – Object ကံ + Subject - ကတ္တား + Verb – ကြိယာဖြစ်၍ အင်္ဂလိပ်စကားနှင့် ဆန့်ကျင်ဘက် ဖြစ်သည်။ အင်္ဂလိပ်မှာ Subject + Verb + Object ဖြစ်သည်။ သို့သော် ယခုခေတ်မှာ မြန်မာစာရေးသားနည်းအဆင့်မြင့်မှာ အင်္ဂလိပ်စာရေးနည်းကို အသုံးများကြသည်။

ပညာရှင်များ လေ့လာတွေ့ရှိချက်အရ မြန်မာတိုင်းရင်းသားများတချို့ကို မွန်ဂိုးလီးယားအနွယ်ဝင်ဟုဆိုသော်လည်း ချင်းလူမျိုးအချို့နှင့် အနွယ်ဝင်များကို (Kuki-Chin-Lushai) Semitic အနွယ်ဝင်မှဆင်းသက်သော်လူမျိုးများဖြစ်၍ မွန်ဂိုရီးယား၊ တိဗက်ရောက်သောအခါ တခြားလူမျိုးများနှင့် သွေးရော (Cross Blood) ခြင်းကြောင့် တခြားလူမျိုးများနှင့် ရောယှက်နေထိုင်ကာ ဘာသာစကားမိသွားခြင်း၊ ကိုးကွယ်သည့် ဘုရား၊ ကိုးကွယ်နည်းမိသွား၍

ယခုအခါ မွန်ဂိုလီးယားအနွယ်ဝင် တိဗက်–မြန်မာစကားပြောနွယ်ဟု သတ်မှတ်ခံသည်ဖြစ်သည်။ စာရေးသူက Zomi များကို ရှေးခေတ် ဘိုးဘွားများ၏ ယဇ်ပူဇော်ခြင်း၊ ဘာသာရေးကို အခြေခံ၍ အစ္စရေး မျိုးနွယ်ဟု ယုံကြည်၍ အထက်ပါသမိုင်း လေ့လာနည်း။ ကျင့်သုံး သောအခါ မွန်ဂိုလီးယား အနွယ်ဝင်မဟုတ်ပါဟု နားလည်းပါသည်။

မေးခွန်း – အိမ်စာအတွက် အမှား (×) နှင့် အမှန် (✓) ဖြေပါ။ (Rhetorical question)

(၁) ချင်းလူမျိုးများ (Kuki-Chin-Lushai) ကိုမနုဿဗေဒပညာရှင် များက မွန်ဂိုလီးအနွယ်ဝင်များဟု၍ လည်းကောင်း၊ ဘာသာဗေဒပညာရှင်များက တိဗက်–မြန်မာစကားပြော အနွယ်ဟူ၍ သုတေသနအရ တွေ့ရှိခဲ့သည်။ မှန်သည်ဟု ဆိုလျှင် (______)မှားသည်ဟု ဆိုလျှင်(______) မှန်သည် ဟု ဆိုခဲ့လျှင် ဘာဖြစ်လို့ Mizoram နှင့် Manipur ပြည်နယ် များမှာ KuKi-Chin Lushai " (Zomi-Mizo) များ (Shinlung-Manmasi-Israel) အစ္စရေးလူမျိုးဗီဇ (DNA) သွေးစစ်ချက်အောင်သနည်း။ KuKi-Chin-Lushai မျိုးနွယ် များကို ပုဂံခေတ်ကတည်းက ချင်းလူမျိုးများဟု ခေါ်ဆို သည်။

(၂) မနုဿဗေဒပညာရှင်များအား လူတို့၏ ရုပ်ပိုင်းဆိုင်ရာ အရောင်အဆင်းကို ကြည့်၍ အာရှတိုက်သားများကို အဝါရောင်လူမျိုး (Yellow Colour) မွန်ဂိုးလီးယား အနွယ်ဝင်များဖြစ်သည်ဟု အသိအမှတ်ပြု၍ မြန်မာ သမိုင်းကလည်း လက်ခံသည်။ မှန်သည်ဟုဆိုရင်၊ (_____ )၊ မှားသည်ဟု ဆိုရင် (______)၊ မှန်သည်ဆိုပါက အဘယ်ကြောင့် ၁၉၉၁ ခုနှစ်လောက်တွင် အာဖရိကတိုက်မှ အီသီအိုပီးယားလူမျိုး(Ethiopia, Jeremiah 13: 23) လူမဲထက်မဲလူမှောင် (Darkmen) များက Israel မျိုးရိုးဗီဇ (DNA) သွေးစစ်ချက်အောင်ပါသနည်း။ မနုဿဗေဒအရ Israel လူမျိုး များက အသားနီ (Red) ဖြစ်၍ အာဖရိက လူမျိုးများကို အသားမဲ (Black) အာရှတိုက်သားများကို အသားဝါ (Yellow) ဟူ၍ သတ်မှတ်ထားသည်။ ပျောက်ဆုံးနေသော အစ္စရေးမျိုးနွယ်စုများကို ရှာဖွေသော ရှာဖွေရေးအဖွဲ့ (Manmashi- Shavei Israel)များက အာရှတိုက်သား အစ္စရေးများကို အရှေ့အိန္ဒိယမှာရှိ၍ ထိုလူမျိုးများကို (B'nai Menashe) ဟုခေါ်သည်။

**အခန်း (၁) ချင်းလူမျိုးများ၏ သမိုင်းအစ**

ချင်းလူမျိုး သမိုင်းအစမှာ လူမျိုးဆင်းသက်လာပုံနှင့် လူမျိုးအမည်မှည့်ခေါ်ရခြင်းအကြောင်းကို စားရေးသူမှာ ခရစ်ယာန် ဘာသာဝင်တစ်ယောက်ဖြစ်သောကြောင့် ကျမ်းစာအရ (Biblically) ရှင်းပြရခြင်း ဖြစ်ပါသည်။ ခရစ်ယာန်မဟုတ်သောသူများ (Non-Christian) များက နားလည်ပေးပါ။

**အခန်း (၂) ဇိုမီးနှင့် ချင်းအခေါ်အဝေါ်**

ဇိုမီးခေါ်ဆိုခြင်းအကြောင်းကို ရှင်းပြပါသည်။ အခန်း (၂) အားလုံး နီးပါးကိုသမိုင်း အခြေခံ၍ သမိုင်းအရ မလေ့လာဘဲ ပညာရပ်ဝေါဟာရ (Terminology) နှင့် ဝေါဟာရဇစ်ဗေဒ (Etymology) အရ အခြေခံ၍ ရေးသားရှင်းပြ ပါသည်။ မှားတာ၊ မပြည့်စုံတာတို့ ရှိမည်မှာ သေချာပါသည်။ တချို့ကိုစာရေးဆရာ များက ပြည့်စုံ၊ မှန်ကန်စွာ ရေးရန် ချန်ထားပါမည်။ အမှားတချို့ရှိမှသာ လူတစ်ချို့က အမှန်ကိုထောက်ပြအကြံပေးရမှာ ဖြစ်သည်။

**အခန်း (၃)တကောင်းပြည်တည်ထောင်သူများ** ခေါင်းစဉ် တပ်ထား၍ သက်လူမျိုးနှင့် ချင်းဆက်စပ်ပုံ၊ " မြန်လူ မျိုးမှ မြန်မာ" ဖြစ်လာခြင်း၊ ဗမာနှင့် မြန်မာဝေါဟာရ ရလာခြင်းကို ရှင်းပြပါသည်။ ဤလေ့လာရေးသားပုံကိုလည်း ဝေါဟာရအရင်း အမြစ်အရနှင့် ပညာရပ်ဝေါဟာရ အခြေခံ၍ ရေးသားခြင်း ဖြစ်သည်။ ခိုင်လုံသော

သမိုင်းအရ (Historically) (မဆလအစိုးရ) အခြေခံ၍ စိတ်ပညာအရ (Psychologically) ရေးခြင်းသာ မဟုတ်ပါ။

ချင်းမကြိုက်သော ဇိုမီးများဟု နံပါတ် (၄)မှာ ခေါင်းစဉ်တပ်၍ ရေးသားခဲ့သည်။ ချင်းမကြိုက်သောချင်းလူမျိုးများကို မြေပြန့်ချင်းမှလွဲလို့ ချင်းပြည်နယ်များ၌ နေထိုင်သော ချင်းလူမျိုးများက လက်မခံပါ။ သို့သော် ၂၀၁၀ ခုနှစ်မှစ၍ ပါတီစုံဒီမိုကရေစီဖော်ဆောင်လာသည့်အခါ "ချင်း" သုံးခဲ့လျှင် ပိုမိုကျယ်ပြန့်၍ အဖွဲ့အစည်းတခုခုကိုလည်းကောင်း ဖွဲ့စည်းသည့်အဖွဲ့ နာမည်၌ချင်းပါခဲ့လျှင် နိုင်ငံခြားမှသော်လည်းကောင်း၊ NGO မှ သော်လည်းကောင်း၊ အစိုးရမှသော်လည်း ကောင်း၊ ထောက်ပံ့ကြေး ပိုမိုရဘို့လွယ်သည်ဟု အချို့နိုင်ငံရေးနိုင်ငံရေး ပါတီခေါင်းဆောင်များက ယူဆကြသည်။ ၁၉၅၃ ခုနှစ်တွင် ချင်းနှင့် ချင်းခရစ်ယာန်နှစ်ခြင်းအဖွဲ့ချုပ်ကို Chin ဟေဘာယ္ယျအမည် (ကိုယ်စားပြု ) ZBC-Zomi Baptist Convention ဟု ဖွဲ့စည်း ခဲ့၍ ၁၉၉၅ ခုနှစ်တွင် ZBCM-Zomi Baptist Convention of Myanmar ခွဲထွက်ကာ " ZBC မှ Tedim Baptist Convention" ၂၀၁၁ ခုနှစ်တွင် ထပ်မံခွဲထွက်၍၊ ၂၀၁၃ ခုနှစ်မှာ KVBA - Kalay Valey Baptist Association ကို ခွဲထွက်၍၊ Convention အား ဖွဲ့စည်း၍ Chin ကြိုက်သောသူများသာ ကျန်ရစ်ခဲ့သည်၊ ZBA-Zo Baptist Association နှင့် SRBA-Sihzang

Region Baptist Association, Thado Baptist Associationကို ၂၀၁၁ ခုနှစ်၊ မတ်လ ၂၅ ရက် ကလေးမြို့တွင် ZBC မှ CBC - Chin Baptist Convention, အဖွဲ့မှာ ကျန်ရစ်ခဲ့ပါသည်။ ဤအကြောင်းကို ပြန်လည်စဉ်းစားသောအခါ ချင်းမကြိုက်သော ဇိုမီးများဟု ခေါင်းစဉ် တပ်ခဲ့ပါသည်။ ချင်းပြည်နယ်နှင့် စစ်ကိုင်းတိုင်း၊ မကွေးတိုင်း၊ ရခိုင်ပြည်၊ ဘင်္ဂလားဒေ့ရှ်၊ မီးဇိုရမ်း၊ မဏိပူရပြည်နယ်တို့နှင့် နယ်စပ် နယ်နိမိတ်ခြင်း ဆက်စပ်နေသောကြောင့် ကိုယ့်နယ်မြေ၊ ဒေသအမှန် ဆုံးဖြစ်အောင်လူငယ်များကအနာဂတ်မှာ စောင့်ထိန်းရမည်ဖြစ်သည်။

၂၀၀၈ ဖွဲ့စည်းပုံ အခြေခံဥပဒေကို ဗိုလ်ချုပ်မှူးကြီး (ငြိမ်း) သန်းရွှေက အတည်ပြုလက်မှတ်ရေးထိုးသော ဥပဒေဖြစ်၍ သူအငြိမ်းစားယူခဲ့သည်ဖြစ်စေဆုံးသွားသည်ဖြစ်စေ၊ သူ့အမိန့်နှင့် ရေးဆွဲအတည်ပြုခဲ့သော ဖွဲ့စည်းပုံဥပဒေတစ်လုံး မကျန်ကျင့်သုံး နေသည့် ကာလပတ်လုံး ဦးသန်းရွှေက နိုင်ငံသားအများနှင့် အစိုးရအပေါ်မှာလည်း အာဏာရှိသည်ဟု သတ်မှတ်၍ရသည်။ လူတစ်ယောက်၏မိန့်ခွန်းစကားအသက်ရှင်နေခြင်းသည် အရေးကြီးသည်။ လူသည် အငြိမ်းစားယူတတ်၊ သေဆုံးတတ်သည်။

**အခန်း (၄)**–ဤအခန်းလေးတွင် **ပင်လုံစာချုပ်၏အနှစ်သာရ** ဟု ခေါင်းစဉ်ပေးသည်။ ချင်းလူမျိုးနွယ်စု ၅၃ စု ကိုယ်စား လက်မှတ်ရေးထိုးသော ချင်းလူမျိုးသုံးယောက်လည်း ပါဝင်သည်။

ခွဲထွက်ခွင့် အကြောင်း၊ ၁၉၆၂ ခုနှစ်တွင် ဗိုလ်မှူးချုပ်အောင်ကြီး အာဏာသိမ်းဖို့ အရေးပါဆုံးဟု ပြောဆိုသောအကြောင်း ပြန်လည်ဖော်ထုတ်သည်။

**အခန်း (၅) – ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံဖွဲ့စည်းပုံအခြေခံဥပဒေ** ၁၉၄၇၊ ၁၉၇၄၊ ၂၀၀၈ မှ ကောက်နှုတ်ချက် များ ရေးသား၍ စစ်မှန်သော ဒီမိုကရေစီနိုင်ငံများ၏လူနည်းစုများ အခွင့်အရေးရသင့်ရထိုက်သောဥပဒေများကဲ့သို့ နိုင်ငံတော်အစိုးရက လည်း အခြေခံဥပဒေကို ပြင်ဆင်သင့်သည်ဟု ဖော်ပြပါသည်။

**အခန်း (၆) – နိုင်ငံသားများ၏အခွင့်အရေး** ခေါင်းစဉ်ပေး ထားသည်။ တိုင်းရင်းသားလူနည်းစုနှင့်လူများစုတို့၏ အခွင့်အရေး၊ နိုင်ငံရေး၊ ဘာသာရေး၊ စစ်တပ်ပိုင်းဆိုင်ရာ လူ့ဦးရေနှိုင်းယှဉ် ဖော်ပြထားပါသည်။ တိုင်းရင်းသားလူနည်းစုများ၏ အဓိကလို လားသော အချက် (၄)ချက်ကို (၁) ကိုးကွယ်သည့်ဘာသာ လွတ် လပ်ခွင့်၊ (၂) တိုင်းရင်းသားများစာပေမြှင့်တင်ရေး၊ (၃) ရိုးသိုးစာနှင့် ဘုံစကား၊ (၄) မည်သည့်အရပ်ဒေသမဆို နေထိုင်ခွင့်ပြုခြင်းကို ဖွဲ့စည်း ပုံအခြေခံဥပဒေ ၁၉၄၇၊ ၁၉၇၄၊ ၂၀၀၈ မှာ ပြဋ္ဌာန်း ခဲ့သော ဤအချက် (၄)များနှင့် စပ်လျဉ်းသော ဥပဒေများကို ညှိနှိုင်း၍ ရှင်းပြပါသည်။ ၂၀၁၃ နိုဝင်ဘာလ ၁၈ ရက်နေ့တွင် နေပြည်တော် သမ္မတရုံးသို့ ပို့ခဲ့သော အိတ်ဖွင့်စာဖွဲ့စည်းပုံ အခြေခံဥပဒေပြင်ဆင်ရန် လိုလားသော အဓိက (၄) ချက်ဖြစ်ပါသည်။

**အခန်း (၇)– နိုင်ငံခေါင်းဆောင်များ သတ္တိရှိရန်လိုအပ်**ဟု ခေါင်းစဉ်တပ်ထားသည်။ စစ်မှန်သော ဒီမိုကရေစီနိုင်ငံများတွင် နိုင်ငံ့ခေါင်းဆောင်များသည် ကွယ်လွန်သည့်တိုင်အောင် တိုင်းပြည်ဝန်ကို ထမ်း၍ စစ်တပ်ကလည်း အာဏာသိမ်းယူခြင်းမရှိပါ။ နိုင်ငံခေါင်းဆောင်များသည် တိုင်းပြည်အတွက် အသက်ပေးရန်လည်းမကြောက်ပါ။ စစ်တပ်မှ အာဏာသိမ်းသည့်အခါတိုင်း လက်ရှိတည်ဆဲဖွဲ့စည်းအုပ်ချုပ် ပုံအခြေခံဥပဒေ အပြောင်းအလဲဖြစ်ပါသဖြင့်၊ နိုင်ငံတော်ကို တိုးတက်ခြင်းနှေးကွေးစေသည်ဟု ဖော်ပြလိုရင်း ဖြစ်ပါသည်။

**အခန်း (၈ ) – ချင်းနှင့် ကချင်လူမျိုးများ ညီအစ်ကိုတော်စပ်ပုံ** ကို သမိုင်းအရသော်လည်းကောင်း၊ လက်တွေ့အရသော်လည်းကောင်း၊ ဒေါက်တာ ခမ်ဒိုနန်၏ ဇိုမီးသမိုင်းမှ ကောက်နုတ်တင်ပြထားသည်။ (*အခန်း (၉) - KUKI-CHIN-ZOMI- MIZO-NAGA လူမျိုးများသည် လူမျိုးတစ်မျိုးဖြစ်သော်လည်း အမျိုးသားလှုပ်ရှားမှုကို တကွဲတပြားသီးခြားလှုပ်ရှားခဲ့သည်ဟု ဖော်ပြထားသည်။ ဤအခန်း (၉)ကို တခြားစာအုပ်ထုတ်လုပ်ရန် ရည်ရွယ်သဖြင့် ပြန်လည်ဖျက်သိမ်းသည်။* )

**အခန်း (၉) – အဆင်းရဲဆုံးချင်းပြည်နယ်မှ ခေါ်သံ** ဟု ခေါင်းစဉ် ရေး၍ ချင်းပြည်နယ်ကို ၁၉၄၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်မှစ၍ ပြည်ထောင်စု မြန်မာနိုင်ငံ ပြည်နယ်အဖွဲ့ဝင်ဖြစ်သော်လည်း ယခု အခါ ချင်းပြည်နယ်အဆင်းရဲဆုံးပြည်နယ်ဟု သတ်မှတ်ခြင်းခံရ၍ ချင်းပြည်နယ်မှ ငိုသံဟု ခေါင်းစဉ်တပ်ရခြင်း ဖြစ်ပါသည်။ အချက် (၁ မှ ၁၀)အထိပါသော ချင်းပြည်နယ်ဖွံ့ဖြိုးတိုးတက်မှုနှင့် အားသာ ချက်နှင့် အားနည်းချက်ကို ဖော်ပြသည်။ နောက်ဆုံး နိဂုံးချုပ် ရေးခဲ့ပါသည်။

**အခန်း (၁၀) – နောက်ဆက်တွဲ**ဟု ရေးထား၍ အစိုးရမှသော်၎င်း၊ လူမှုရေးအသင်းမှသော် ၎င်း၊ အရေးပါသော ကြေငြာထုတ်ပြန်ချက် များကို ဖော်ပြထားပါသည်။

အခန်း ၁

## ချင်းလူမျိုးသမိုင်းအစ

### ၁။ လူမျိုးဆင်းသက်လာပုံ

"ထာဝရဘုရားသခင်သည် မိမိ၏ ပုံသဏ္ဌာန်နှင့်အညီ လူယောက်ျား (Adam) နှင့် လူမိန်းမ (Eve) ကို ဖန်ဆင်းတော်မူခဲ့သည်။ ထာဝရဘုရား သခင်ကလည်း လူမျိုးများပြားမွေးဖွားကြလော့" ဟု မိန့်တော်မူခဲ့သည်။ (ကမ္ဘာဦး ကျမ်း ၁း၂၇-၂၈)။ အာဗရာဟမ် (Abraham) ကလည်း ဟာဂရ (Hagar) နှင့် သား Ismael မွေးဖွား၍ Ismael က သား (၁၂) ယောက်ကို မွေးဖွားခဲ့ပါသည်။ (က ၁၆း၁၁) Abraham က Sarah နှင့် သား (Isaac) ကို မွေးဖွား၍ သား (Isaac) ကလည်း ဧသော (Esau) နှင့် (Jacob) ယာကုပ်ကို မွေးဖွားခဲ့ပါသည်။ (က ၂၁း၃၊ ၂၅း၂၅၊ ၂၆) ယာကုပ်မှာ သား (၁၂)ယောက် မွေးဖွား၍ ယနေ့ ထိပင် အစ္စရေးလူမျိုးကြီး အဖြစ်နေထိုင်ခဲ့ကြပါသည်။ (က၊ ၃၅း၂၃-၂၆)။ ၁၉၄၈ ခုနှစ် မေလ ၂၆ရက်တွင် ကမ္ဘာပေါ်တွင် အစ္စရေးနိုင်ငံသစ်ပြန်လည်ပေါ်ပေါက်လာခဲ့သည်။ လူမျိုးများ၏အစ (ဖန်ဆင်းခြင်း)ကို ခရစ်ယာန်ဘာသာရှုထောင့်မှ ရေးသားခြင်းဖြစ်၍ အခြားဘာသာအယူဝါဒနှင့် ညီညွတ်မှုမရှိပါက စာရှုသူများအား နားလည်ပေးပါရန် အသိပေးပါသည်။

## ၂။လူမျိုးမှည့်ခေါ်ခြင်း

ထာဝရဘုရားသခင်သည် ယာကုပ် (Jocob) ကို Israel "အစ္စရေး" ဟု အမည်ပြောင်းလဲခေါ်ဆိုခဲ့သည်ကို သိရှိရသည်။ Israel ဟူသော အဓိပ္ပါယ်မှာ ဘုရားသခင်၏ တပ်မတော် The Army of God ဟု ဆိုလိုသည် (က ၃၂း၂၈–၃၀) ။ယာကုပ်သားများကို Israel လူမျိုးဟု ခေါ်ကြသော်လည်း ယာကုပ်၏ သားတစ်ယောက်ယုဒ (Judah) အမည်ကို စွဲပြု၍ ဂျူး (Jews) လူမျိုးဟူ၍လည်း ခေါ်ဝေါ်ကြသည်။ ယာကုပ်သား ယောသပ် (Joseph) သည် သားနှစ်ယောက်ဖြစ်သော မာနရှေ (Manasseh) နှင့် အီဖရိမ် (Ephraim)တို့ကို မွေးဖွားခဲ့သည် (က ၄၈း၅)။ အစ္စရေးလူမျိုးများဖြစ်သော မာနာရှေနှင့် အီဖရိမ်လူမျိုးနွယ်များမှ ပျောက်ဆုံးနေသော လူမျိုးနွယ်စုအချို့သည် အရှေ့အလယ်ပိုင်း အီရန်၊ အီရတ်၊ အဖာဂန်နစ္စတန်မှ တိဗက်၊ တရုတ်၊ မြန်မာ၊ အိန္ဒိယ ပြည်များသို့ ပြောင်းရွှေ့နေထိုင်ခဲ့ကြ ပါသည်။ ၎င်းအား သမိုင်းအရ ယခုချင်းလူမျိုးများနှင့်လည်း ပတ်သက်နေကြသည်ကို သိရှိနိုင်သည်။

ဗြိတိသျှ လက်ထက်တွင် အိန္ဒိယစစ်တပ်များကလည်း AD 1790 ဝန်ကျင်းတွင် Chiang (ချီးအဲန်) လူမျိုးများကို ဘင်္ဂါလီ (Bengali) စကားမှ Korki ကို Kuki ဟု ခေါ်ဆိုကြသည်။ Kuki ကူကီး၏ အဓိပ္ပါယ်ဆိုလိုရင်းမှာ တောင်တန်း ဒေသလူမျိုးများ (Hills

Tribes Khamtungmi) ပင် ဖြစ်သည်။ Chiang နှင့် Kuki (Thado)ဆက်နွယ်မှုရှိ၍ အဓိပ္ပါယ်လည်းတူ၊ လူမျိုးတူများ ဖြစ်သည်။

ဒေါက်တာသန်းထွန်းက - "ယခုအခါ ချီးအဲန် (Chiang) လူမျိုးများကို တိဗက်မြန်မာဘာသာစကားပြောဆို နေသူများဖြစ်သည်။ Chiang လူမျိုးများသည် သိုးထိန်းသောအလုပ်ကို လုပ်ကိုင်ကြ၍ တရုတ်လူမျိုးများသည် ကျွဲ၊ နွား၊ ဝက်တို့ကို အဓိကမွေးမြူလုပ်ကိုင်ကြပါသည်။ ဤကဲ့သို့ ၎င်းလူမျိုးနွယ်စုများ အတူနေထိုင်ကြကာ စားကျက် မြေကိစ္စကြောင့် သိုးထိန်းနှင့် နွားထိန်းတို့ ဝါဒကွဲပြားမှုဖြစ်လာပြီး တရုတ်လူမျိုးများက Chiang လူမျိုးများကို ဖမ်းဆီး သတ်ဖြတ်၍ယဇ်ပူဇော်ရာတွင် အသုံးပြုသည်ကို ဖော်ပြထားကြပါသည်။ ထိုအခါ Chiang လူမျိုးများသည် အနောက်မြောက်ဘက်သို့ တိမ်းရှောင်၍ (Chi'n Dynasty 552-202) တွင် Shi Wang Di ရှိဟွန်တီက ပြန်လည်လာရောက် တိုက်ခိုက်မှုကြောင့် တောင်တန်းများကို ကျော်ဖြတ်ရင်းနှင့် မြန်မာနိုင်ငံအတွင်း မှာပင် ရောက်ရှိလာကြသည်"ဟု ဖော်ပြထားပါသည်။ ရှေးခေတ် မြန်မာသမိုင်းတွင် တိဗက်ကို Khawh a chan/ Gang Jong ဟု ခေါ်၍ ၉ ရာစုခန့်တွင် မွတ်စလင်သမိုင်း စာရေးဆရာများက Tubbet, နှင့် Tibbet ဟု ရေးသားဖော်ပြခဲ့ပြီး ၎င်းဆိုလိုရင်း အနက်အဓိပ္ပါယ်မှာ ပတ္တမြားဒေသ (Golden Region) ဟု အဓိပ္ပါယ်ရပါသည်။

(Rev. Thawng Go Thang)။ တခြားအဘိဓါန်မှာ An autonomous region of the Peoples Republic of China; located in the Hilmalayas. *Synonyms: Thibet, Xizang, Sitsang.* ဟုရေးသည်။ ရှေးခေတ်က စဉ်သမိုင်းပညာရှင်များက မြန်မာနိုင်ငံသား တချို့ကို မွန်ကိုရီးယားအမျိုးအနွယ်မှ ဆင်းသက်လာသည် ဟု ယူဆ ကြသည်။ Mongolian Race (N) An Asian Race Synonyms: Yellow race, Mongoloid Race. သို့သော် စာရေးသူက ချင်လူမျိုးနှင့်မျိုးနွယ်တူများကို မွန်ဂိုလီး ယားမျိုးနွယ် ထက် အစ္စရေး မျိုးနွယ်မှ ဆင်းသက်သည်ဟု ရှင်းပြလိုပါသည်။

CHIN ကို တရုတ်လူမျိုးဖြစ်ပြီး Chin မှ China,Chinese သို့ ခေါ်ဝေါ်ကြခြင်း ဖြစ်သည်ဟု ရေးသားခဲ့ပါသည်။ Capt. Sing Khaw Khai ၏ ဖော်ပြချက်မှာ Britanica Encyclopedia စာအုပ်ကို ကိုးကား၍ "ချင် ကို နိုင်ငံခြားသား ချင်းကို တရုတ်လူမျိုး" ဟု ခေါ်သည်။ ("Chi'n is foreigner,Chin is China" ) Chi'n နှင့် Chiang မတူသော်လည်း အသံထွက်အခြေခံ၍ သတ်ပုံပြောင်းလဲခြင်းသာ ဖြစ်သည်။ တရုတ်က Qin- Dynasty - the Chinese dynasty from BC426- 206 BC.) that establish the first Centralized imperial government and built much of the Great wall. Synonyms: Qin Dynasty Chi'n, Dynasty. Surname of Chinese origin- Chi'n , Zhou-"The end of Shang to the begining of of the Qin, the imperial dynasty of China from 1122 - 221 BC, notable for the rise of confucianism

and Taonism, Synonyms- Zhou dynasty, Chou, Dynasty, Chow Dynasty.(Arcus Dictionary) ချင်းနှင့် ဇို ဖြစ်ပေါ်လာခြင်းကို ဤအင်္ဂလိပ်စာမှာ ရှင်းလင်းစွာ ရှင်းပြထားသည်။ ချင်းသမိုင်း စာရေးဆရာက ချင်းလူမျိုးအမည်နှင့် ဇိုလူမျိုးအမည် ဖြစ်ပေါ်လာ ခြင်းကို ဤတရုတ်နိုင်ငံ Qin-Dynasty နှင့် Zhou-Dynasty က စသည်ဟု မှားယွင်း စွာ ရေးခဲ့သည်ကို တွေ့ရသည်။ ချင်းလူမျိုးနှင့် ချိုးအဲန်လူမျိုးတို့သည် လူမျိုးတူဖြစ်သည်။ ဥပမာ Yakhine နှင့် Rakhine, Kayin နှင့် Karen, Cin နှင့် Chin သတ်ပုံမတူသော်လည်း ဆိုလိုခြင်း အတူတူပင်ဖြစ်ပြီး လူမျိုးနွယ်တူ ဖြစ်သည်။ Laimi နှင့် Cimnuaimi ဘာသာစကားကို အခြေခံပြီးလူမျိုးနွယ်စုခွဲခြားခြင်း သာ ဖြစ်သကဲ့သို့ပင် ဖြစ်သည်။

အဆိုပါတိဗက်လူမျိုးတွေက Chiang ကို သူတို့၏ အသံထွက် ဝေါဟာရသတ်ပုံ ပြောင်းလဲရေးသားခြင်းကြောင့် (Chin) ဟု ရေးသား ခြင်းဖြစ်သည်ဟု ယူဆကြပါသည်။ မြန်မာတို့ကလည်း Chiang ကနေ "ချင်း" ဟု တိုက်ရိုက် ရေးသားဖော် ပြထားသည်ကို တွေ့ရသည်။

**၃။ချင်းလူမျိုးများ မွန်ဂိုရီးယားမျိုးနွယ်ဝင်များ ဖြစ်သလား။**

မနုသာဗေဒပညာရှင်များ (Anthropologist) များက အာရှလူမျိုးများကို ရုပ်ပိုင်းဆိုင်ရာ အရောင် (Colour) ကို ကြည့်၍ အသားဝါ (Yellow) မျိုးနွယ်များကို မွန်ဂိုးလီယား (Mongolian)

မျိုးနွယ်စုဟု သတ်မှတ်ခဲ့သည်။ ထို့ကြောင့် ပြည်ထောင်စုတိုင်းရင်းသားများကိုလည်း မွန်ဂိုလီယားအနွယ်ဝင်ဖြစ်သည်ဟု နိုင်ငံတော်အစိုးရက သမိုင်းအရ လက်ခံပါသည်။

၁၉၄၇ ခုနှစ် ပင်လုံအစည်းအဝေး ကျင်းပ၍ လွတ်လပ်ရေးအတူတကွ ယူမည်ဟု ဗိုလ်ချုပ်အောင်ဆန်း တောင်တန်းဒေသများတွင် ခရီးထွက်၍ စည်းရုံးရေးလှုပ်ရှားခဲ့သည်။

ဗိုလ်ချုပ်အောင်ဆန်းက–

၁။ ချင်းတို့ကို မွန်ဂိုလီးနွယ်ဝင်းများ၊ တိဗက်–မြန်မာစကားပြောအနွယ်ဝင်များဖြစ်၍ (ဗမာ) ကျွန်တော်နှင့် မျိုးတူဖြစ်သည်ဟုဆို၍သော်ငင်း၊ (ပင်လုံအစည်းအဝေး ၁၉၄၇)

၂။ ကချင်တို့ဘက်သွား၍ ချင်းနှင့် ကချင်၊ ဗမာတို့ကို မျိုးနွယ်တူ မွန်ဂိုရီးယားအနွယ်ဝင်၊ တိဗက်–မြန်မာစကားပြောအနွယ်စုဖြစ်ဟုဆိုကာ၊ (မြစ်ကြီးနား ၁၉၄၆၊ နိုဝင်ဘာ ၂၈ ရက်နေ့ ဆဘားဒူးဝါဒဆင်ဝါးနောင်အဖွဲ့ )

၃။ ရခိုင်ဘက်သို့သွား၍ မြန်မာနိုင်ငံမှာ ဘာသာစကားအရ ဗမာနှင့် ရခိုင်လူမျိုး နီးစပ်ဆုံးများဖြစ်၍ ရှမ်း၊ ရခိုင်၊ ဗမာများကို ကိုးကွယ်သော ဘာသာတူသော ဗုဒ္ဓဘာသာဝင်များဖြစ်သည်ဟု၍ငင်း၊ (စစ်တွေမြို့ ၁၉၄၆)

၄။ ရှမ်းတို့ ဘက်ရောက်သောအခါ ဗမာနှင့် ရှမ်းတို့ကို တခြားတိုင်းရင်းသားများထက် ကိုးကွယ်သော ဘာသာချင်းတူ၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံလည်း တူသောလူမျိုးများဖြစ်၍ ချင်း၊ ကချင်၊ ရှမ်း၊ ကရင်နီနှင့် မြန်မာပြည်ကို ပူးပေါင်း၍ လွတ်လပ်ရေးအတူတကွ ယူရမည်ဟု ကျွမ်းကျင်စွာ စည်းရုံးခဲ့ပါသည်။

ဗိုလ်ချုပ်ဆောင်ဆန်းပြောသော စကားများတွင် ချင်း၊ ကချင် လူမျိုးများနှင့် ဗမာလူမျိုးကို မွန်ဂိုလီးယားမျိုးနွယ်၊ တိဗက်–မြန်မာစကားပြောအနွယ်ဝင်များဟု စည်းရုံးခဲ့၍ မနုသာဗေဒပညာရှင်များ၏ လေးလာတွေ့ရှိခြင်းကိုလည်း လက်ခံသည်ဟု ထင်ရှားသည်။ သို့သော် စာရေးသူက လက်မခံပါ။

## ၄။ ချင်းလူမျိုးများ Israel မျိုးနွယ်စုများဖြစ်သလား။

ချင်းလူမျိုးများသည် မွန်ဂိုးရီးယား မျိုးနွယ်များမဟုတ်ပါ။ ဆီမီးတိခ် (Semitic-Hebrew)လူမျိုးနွယ်စုမှ ဆင်းသက်၍ တိဗက်နိုင်ငံရောက်သောအခါ တိဗက်ဘာသာစကားအသုံးပြုပါသည်။ ဘုရားတစ်ဆူသာ ယုံကြည်ကိုးကွယ်သူများဖြစ်သည်။ Xien- A city of Central China; Capital of ancient Chinese Empire 221-206 BC. Synonyms:- Sian, Singan, Changan, Hsian.... the Capital of Shaaxi province; formerly spelled Sian in psotal

system Pinyin. Noun- Plural Xians- Abbreviation of Christian, Adjectiv... ချင်းလူမျိုးများက ဘုရား (ဖန်ဆင်းရှင်၊ ထာဝရဘုရား၊ အသက်ရှင်ဘုရား)ကို Sian/Xian PASIAN/PATHIAN (Father God) အဖဘုရားဟု ခေါ်ဆိုသည်။ ဤ "SIAN" ဝေါဟာရနှင့်ဆက်စပ်ပုံရှိသည်။ မြန်မာနိုင်ငံသို့ရောက်ရှိလာသောအခါတိဗက်– မြန်မာဘာသာစကား အသုံးပြုသော မျိုးနွယ်စုများဟု သတ်မှတ်သည်။

အစ္စရေးလူမျိုးများမှ ပျောက်ဆုံးနေသော လူမျိုးများသည် ယနေ့ ချင်းလူမျိုးများနှင့် ဆက်နွယ်မှုရှိသကဲ့သို့ Joseph ယောသပ်ကို အစွဲပြု၍ Jo မှ (History and 20th Century Dictionary, cited by Mr. Kham Tuang, Naulak, Lamka Reproduced by Rev. Go Khan Dal, Zolai Simbu, 1913-1998 Zomi) ဟူ၍ ခေါ်ဝေါ်ကြခြင်းဖြစ်သည်။ အခြားအဘိဓာန်၌ အင်္ဂလိပ်လို ‘‘Jo- Arare spelling variant of Joe diminutive of the male given name Joseph. Joe (n) A common nickname for Joseph, also used as a formal male given name- (n-plural Joes)’’ ချင်းလူမျိုး များကလည်း "J" အစား "Z" ကို အသုံးပြု၍ Zomi ဟု ခေါ်ဝေါ်သမုတ်ကြပါသည်။ ဤကဲ့သို့ပင် သမိုင်းအရ လေ့လာသုံးသပ်သောအခါ အမှန်ပင် ဆက်နွယ်မှုရှိကြောင်း အသိအမှတ်ပြု ကြပါသည်။

တိဗက်ပြည်၊ တရုတ်နိုင်ငံမှ ချီးအဲန် (Chiang) လူမျိုးများ ခရစ်နှစ် မပေါ်မီအနှစ် ၇၂၁–၇၂၂ BC ၌ အစ္စရေးမြောက်ပိုင်းပြည်ကို

ဘုရင် ဟောစီခေတ်က ဆီးရီးယားဘုရင် ရှယ်မန်နဲ ဆာလ်– ၅ က သိမ်းပိုက်၍ တောင်ပိုင်းပြည်ကို ဘုရင်ဇဲဒီကဲ ခေတ် ၅၀၀ BC ခန့်တွင် (Babylon) ဘုရင်နဲဘို ခနဲရာလ်က သိမ်းပိုက်၍ ကျွန်အဖြစ် ဖမ်းဆီးခေါ်ဆောင် သွားကြသည်။ (ဓမ္မရာဇဝင် – ၁၇း၁–၈၊ ၂၅း၁–၂၀) ပျောက်ဆုံးနေသော Israel လူမျိုးများ ယခု ဇိုမီးလူမျိုးတို့သည် တိဗက်နိုင်ငံသို့ ရောက်ရှိကာ တောတောင်ဒေသများတွင် သိုးထိန်း လှေ့ရှိကြသည်။ Marcus Dictionary ၌ Chiang ကို Qiang နှင့် ရေး၍ the Tibeto-Burma Language Spoken in Sichuan, China , Synonyms: Qiangic ) တိဗက်လူမျိုး များက Jo/Zo လူမျိုးများကို CHIANG ဟု ခေါ်ဆိုကြကာ ၎င်းဆိုလိုရင်း အဓိပ္ပါယ်မှာ တောင်ကုန်း တောင်တန်းများသို့ နေထိုင်သော လူမျိုးများ၊ တောထဲတွင် သိုးထိန်း များ ဖြစ်သည်။ Chiang နှင့် KUKI (KORKI) အဓိပ္ပါယ်တူပါသည်။ Jo ကို တရုတ်လူ မျိုးများက "Chou" ဟု ခေါ်ဝေါ်ကြ၍ ယခုအခါ Zhou ဟု ရေးသားခေါ်ဝေါ်ကြပါသည်။

ချင်းလူမျိုးများသည် မွန်ဂိုရီးယားအနွယ်ဝင်များသော်၎င်း၊ Israel လူမျိုးနွယ်ဝင်များသော်၎င်း၊ အဖြေကို အောက်ပါ လူမျိုးများ သမိုင်းလေ့လာနည်းအရ မိမိကိုယ်တိုင် ဖတ်ပြီးလေ့လာလို့ရသည်။

## ၅။ လူ့သမိုင်းလေ့လာနည်း။

**ပညာရှင်များက မွန်ဂိုလီးယားနွယ်များခွဲခြားလေ့လာခြင်း** ပညာရှင်ဟူသော စကားရပ် (အသုံးအနှုန်း) ကို လူမျိုးနွယ်များ၏ သမိုင်းနှင့် ယှဉ်ပြီး အမှန်လေ့လာစုံးစမ်းသည့်အခါ သတိရဘို့ရန် အရေးကြီးလိမ့်မည်ဟု အသိပေးချင်ပါသည်။ ပညာရှင်ဟု ပါရဂူဘွဲ့ရ (Ph.D) များကိုလည်း ထိုသမိုင်း အကြောင်းကို သူတို့ပြောသည့်အတိုင်း မှန်သည်ဟု (၁၀၀%) လက်ခံနိုင်စရာ မရှိပါ။ ပညာရှိတိုင်းက ပါရဂူဘွဲ့ ရမဟုတ်၊ ပါရဂူဘွဲ့ မရသော သူများလည်း လူမျိုးအကြောင်း ပါရဂူ ဘွဲ့ရသောလူမျိုးကဲ့သို့ သူ့လူမျိုးများ၏ သမိုင်းပိုမိုသိရှိသည်။ TEDIM ဘာသာစကားဖြင့် စာ (Zolai) သင်ခန်းစာကျောင်းသုံး စာအုပ်ပြုစုသောအခါ ၁၉၂၇ ခုနှစ် Rev. Dr. J.H.Cope က Zomi လူမျိုးအကြောင်းကို Zomi များကို မေး၍ အသိအမှတ်ပြု၍ မှန်သည်ဟု လက်ခံပါသည်။ ထိုကဲ့သို့ ပညာရှင်တစ်ယောက်က ချင်းလူမျိုးများကို မွန်ဂိုလီးယားအနွယ်ဝင်များဖြစ်သည်ဟု လက်ခံသင့်သလော၊ လက်မခံသင့်သလော၊ စဉ်းစားစရာ (အိမ်စာ) ရှိသေးသည်။ စာရေး သူက Pu PC Biak Lian ရေးသားသော Bible & Sciense ဖတ်ခဲ့ဘူးသည်။ "တက္ကသိုလ်တစ်ခုမှ Ph. D ကျောင်းသားတစ်ယောက်ကို (သုတေသန)ကျမ်းပြုသူ (Disertation) အင်ဒိုနီးရှားကျွန်းစွယ် ကျွန်းငယ်တစ်ခုမှ ကျောက်တုံးများကို နှစ်ပေါင်း မည်မျှ

လောက်ရှိမည်ကို တိုင်းတာခိုင်းသည်။ ထိုကျောင်းသားအဖြေရသည့်အတိုင်း တက္ကသိုလ်က အသိအမှတ်ပြု၍ (Ph. D. Degree) ပါရဂူဘွဲ့အပ်နှံခြင်း ခံသည်။ ထို့နောက် တခြား Ph.D ကျောင်းသားတစ်ယောက် ရှေးဟောင်းသုတေသနပြုသူက (Archeology) ထိုကျွန်း ဆွယ်မှာ ကျောက်တုံးများ သက်တမ်းကို တိုင်းခိုင်းသည်။ ပထမ ကျောင်းသူက တိုင်းသောအခါ နှစ်သက်တမ်း ၂၀ သန်း ကျော်ဟု ဆိုကာ Ph. D ဘွဲ့ အပ်နှင်းခဲ့ပြီ။ သို့သော် နောက်ဆုံး ကျောင်းသားက ထိုကျွန်းဆွယ်အနီးအနားမှ နေထိုင်သော ဒေသခံသက်ကြီးရွယ်အိုများကို ထိုကျွန်းဆွယ်အကြောင်း မေးမြန်းခဲ့ရာ ဒီကျွန်းဆွယ်ငယ် (Island) ကို ငါတို့ ငယ်ငယ် တုန်းကစ၍ ရေတိုက်စားမှုကြောင့် ကျွန်းဆွယ်ငယ်အဖြစ် ပေါ်ပေါက် လာခဲ့သည်။ မြေပေါ်သို့ ပေါ်လာ သော ကျောက်တုံးများကိုလည်း သက်တမ်း ၁၀၀ မကျော်သေးပါဟု ပြောပြသည်။ ထို့ကြောင့် ကျောင်းသား သုတေသနပြုသူက ကျောက်တိုင်းကရိယာ အဟောင်း ဖြစ်၍ အရင်သုတနပြုသူသုံးသော တိုင်းကိရိယာ မမှန်ဘူးဟု ဆိုကာ တိုင်းကိရိယာအသစ်နှင့် ထိုကျောက်တုံး များကို သေချာ တိုင်း၍ အနှစ် ၁၀၀ ကျောလောက်ပေါ်လာသည်။ ထိုတက္ကသိုလ်များ Ph.D ဘွဲ့ပေးသော ကော်မီတီများက အံ့ဩသော်လည်း ပထမသုတေသနပြုကို Ph.D ဘွဲ့ အပ်နှင်းခဲ့ပြီး ဖြစ်၍ ပြန်သိမ်းယူခြင်း

လည်းမကောင်း၊ ဒုတိယ သုတေသနပြုကို လည်း Ph.D ဘွဲ့ (Archeology) နှင့် ရသည်”ဟု ဖော်ပြသည်။

ဤပညာရှင်ဟူသော စကားရပ်နှင့် ပတ်သက်သူ မြန်မာ့သမိုင်းရေးသားသော ဒေါက်တာဘွဲ့ရများစွာထဲမှာ နာမည်ကျော်ဒေါတာသန်းထွန်းရေးသားသော သမိုင်းအားလုံး သူက ပါရဂူဘွဲ့ရဖြစ်၍ အားလုံးမှန်သည်ဟု ပြောလို့ မရ လက်ခံလို့လည်း မရပါ။ ပါရဂူဘွဲ့ရ၊ ပညာရှင်မဟုတ်ရင်တောင်မှ သူရေးသားနည်း၊ သုတေသနပြုရေးကို အခြေခံကျစနစ်ဖြင့် ရေးသားပါက မှားသည်ဟုလည်းပြောလို့မရပါ။ အောက်ပါအတိုင်း ပညာရှင်များနှင့် လမ်းဘေးကလူများ၏ လူမျိုးခွဲခြားခြင်းကို ဖော်ပြပါသည်။ အစိုးရတည်ပြုသောသမိုင်းတချို့ အမှားအမှန်ကိုလည်း ရှိမည်ဟု သုံးသပ်ရမည်။

## လေ့လာစုံစမ်းနည်း (၇)မျိုး

### ၁။ ရုပ်ပိုင်းဆိုင်လေ့လာခြင်း

မနုသာဗေဒပညာရှင် (Anthropologist) များက ရုပ်ပိုင်းဆိုင်ရာ (Body Structure of appearence) ကို ကြည့်၍ အာရှလူမျိုးများကို အသားဝါ (Yellow) လူမျိုးဟု ခွဲခြား သတ်မှတ်ခြင်းဖြစ်၍ မွန်ဂိုလီးယားနွယ်ဝင်များဖြစ် သည်ဟု ဆိုသည်။ သူတို့လေ့လာယူဆချက် မြန်မာ့ သမိုင်းမှာလည်း လက်ခံသည်။ မြန်မာလူမျိုး တချို့က

ရုပ်၊ မျက်နှာကြည့်ခြင်းအားဖြင့် ကုလားရုပ်ရှိတိုင်းကို မွတ်ဆလင်ဟု ထင်မှတ်သည်။

## ၂။ ဘာသာစကားနှင့် လေ့လာခြင်း

ဘာသာဗေဒပညာရှင် (Linguist)များက တိဗက်မှ မလေးရှားကျွန်းဆွယ်အထိ ပြန့်နှံ့နေထိုင်သော လူမျိုးများကို ဘာသာစကားအရ တိဗက်–မြန်မာစကားအနွယ်များဖြစ် သည်ဟု ဆိုပါသည်။ သို့သော် တချို့အင်္ဂလိပ်အဘိဓာန် (Dictionary) နှင့် သမိုင်းများတွင်

♦Mon လူမျိုးများကို Austro-Asiatic Language Family ဟု ရေး၍

♦ Shan လူမျိုးများကို Tai-Kadai Language Family ဟု ရေးသည်။

ဤလေ့လာနည်းနှင့်ပတ်သက်၍ ပညာရှင်များဟု ခေါ်ဆိုသော သူ မနုဿဗေဒပညာရှင်များ လက်ခံမှာလား၊ ဘာသာဗေဒပညာရှင်များ လက်ခံမလား၊ အဘိဓာန်ရေးသူကို လက်ခံမှာလား၊ စာရှုသူ ဆုံးဖြတ်ချက်ဖြစ်သည်။ လူမျိုးနွယ်ဆိုတာ ဘာသာစကားပျောက်လျှင် လူမျိုးပျောက်၍ မျိုးရိုးစဉ်ဆက်များက တခြားလူမျိုးဘာသာစကားသုံး၍ လူမျိုးအမည်လည်း ပြောင်းလဲတတ်သည်။

## ၃။ အရိုးကို ခွဲလေ့လာခြင်း

ဂျပန်အစိုးရက သူ့လူမျိုးများ (မျိုးရိုးဗီဇ)ကို ဒုတိယကမ္ဘာစစ်စမှာ စစ်သားသေဆုံးလူများ၏ အလောင်းကို ပြန်လည်တူးဖော်ကာ ခွဲစစ်ဆေး၍ အရိုးကနေ ဂျပန် လူမျိုးဟုတ်မဟုတ် ခွဲခြားသိရှိသည်။

**၄။ သွေးစစ်လေ့လာခြင်း**

အစိုးရေးအစိုးရက သူ့လူမျိုးများအမှားအမှန်ကို ခွဲခြားနိုင်အောင် မျိုးရိုးဗီဇ (DNA) သွေးစစ်ဆေး၍ သွေးကနေ ခွဲခြားသိရှိနိုင်သည်။

**၅။ နိုင်ငံသားစိစစ်ရေးကတ်ပြား ကြည့်မှ ခွဲခြားခြင်း**

မြန်မာအစိုးရက နိုင်ငံသားစိစစ်ရေးကတ်ပြားကို ကြည့်ပြီးမှ တိုင်းရင်းသားလူမျိုးများ ခွဲခြားတတ်သည်။

**၆။ စကားဝဲလို့ ဗမာနှင့် တိုင်းရင်းသားခွဲခြားခြင်း**

လမ်းဘေးအရောင်းအဝယ်ဆိုင်ရှင်တချို့က စကားဝဲလို့ ခင်ဗျား ရခိုင်လား။ ဘိတ်လား။ ချင်းလား။ ကချင်လားဟု မေးလေ့ရှိသည်။ ကျွန်တော် ဗမာစကား မကျွမ်းလို့ စကား ဝဲတာ မြန်မာနိုင်ငံသားပါဟု ပြန်ဖြေ၍ ဘာလူမျိုးလဲ၊ မြန်မာပြည်မှာ တိုင်းရင်းသားအချင်းချင်း မေးစရာမလို။ နိုင်ငံ ခြားတိုင်းပြည်မှာ တွေ့သလို မေးစရာမလိုဘူးလို့ စဉ်းစား ပါသည်။

**၇။ နာမည်ရှေ့ပုဒ်နှင့် လိင်ခွဲခြားခြင်း**

လူမျိုးတိုင်းမှာ နာမည်မဟုတ်သော နာမည်မှာ လိင်ခွဲခြားခြင်းသုံးလေ့ရှိသည်။ လိင်ခွဲခြားနာမည်ဟု ဆိုရမည်။ ဥပမာ– ဦး ၊ ဒေါ် ၊ မောင် ၊ မ – (ဗမာ)၊ စော၊ နော် (ကရင်)၊ စိုင်း ၊ နန်း (ရှမ်း) တာန်၊ လျာ (Zomi) ဆလိုင်၊ မိုင်း (ချင်းအရှို) a နှင့် i (Mizo)

ဒီစကားလုံးများ တစ်ခုခုနှင့် တွဲ၍ နာမည်ရေး သောအခါ ယောကျ်ား၊ မိန်းမ ချက်ခြင်း ခွဲခြားလို့ရသည်။ တိုင်းရင်းသားများက သုံးသောအခါ စာဖတ်သူက သူ့လူမျိုး ခန့်မှန်းပြောဆို လို့ရသည်။ မြန်မာအစိုးရက ရုံးသုံးစာ မြန်မာ စာသုံးသောအခါ တိုင်းရင်းသားလူမျိုးများအားလုံး အမည် လည်း၊ ဦး ၊ ဒေါ် မောင်၊ မ ထည့်၊ ရုံးစာမှာလည်း ထည့်ရေး၍ ယခုအခါ ဗမာလူမျိုးဟု နာမည်ကြည့် ၊ ဖတ်ခြင်းအားဖြင့် ခွဲခြားလို မရတာများသည်။ ထူးခြားတစ်ခုက Zomi လူမျိုး အစစ်နာမည်ကို မောင်နှင့်မ မထည့်သော်လည်း တစ်ယောက် က သူ့နာမည် ပြောခဲ့လျှင် ယောကျ်ား၊ မိန်းမ ခွဲခြားလို့ရသည်။ ယောကျ်ား၊ မိန်းမ သာမ က တီးတိန်၊ ဖလမ်း၊ ဟားခါး လူမျိုးဖြစ်မည်ဟု နာမည်ကြားရုံဖြင့် ခွဲခြားလို့ရသည်။

လူ့သမိုင်း လေ့လာရေးသားနည်းလူမျိုးများ၏သမိုင်း၊ လူမျိုးနွယ်ခွဲများ၏သမိုင်း လေ့လာပါက စာများစွာ ကိုးကားခြင်း၊ ပညာရှင်များထံ အကြံပေးတောင်းခံခြင်း၊ စာအုပ်များများဖတ်ခြင်း အဓိက အချက်မဟုတ်ပါ။ အရေးပါဆုံးက လူ့သမိုင်းလေ့လာသည့်အခါ အောက်ဖော်ပြသောစာအုပ်များဖတ်ရှုလေ့လာသင့်သည်ဟု ထင်မြင်ယူဆပါသည်။

(၁) လူမျိုးအစကို မိမိယုံကြည်သောဘာသာ (Religious) ကျမ်းအခြေခံပြီး တခြားဘာသာကျမ်းဂန်ကို လေ့လာခြင်း

(၂) လူမျိုးအမည်ကို မျိုးရိုးဗီဇနှင့်ဆိုင်သော (Generic (adj) ) စာအုပ်ကို ပထမဆုံးလေ့လာ၍ ကိုယ်ရေးမည့်လူမျိုးကို ဦးစားပေးခြင်း။

(၃) ဝေါဟာရဇစ်မြစ်လေ့လာသူပညာရှင် (Etynologist) များ၏ စာအုပ်များကို လေ့လာ၍ ကိုးကားခြင်း။

(၄) ကိုးကွယ်သည့်ဘာသာ၊ ဓလေ့ထုံးစံနောက်ခံသမိုင်းကို လေ့လာခြင်း။ (Religious Background)

(၅) မနုဿဗေဒဆိုင်ရာပညာရှင် (Anthropology) များ၏ စာအုပ်ကို ဖတ်ရှုခြင်း။

(၆) ဘာသာဗေဒပညာရှင် (Linguist) များ၏ စာအုပ်များဖတ်ခြင်း။

(၇) ရှေးဟောင်းသုတေသနပညာရှင် (Archeologist) များ၏ စာအုပ်များကို လေ့လာခြင်း။

(၈) သမိုင်းပညာရှင် (Historian) များ၏စာအုပ်များကို လေ့လာခြင်း။

(၉) လူများအကြောင်း လေ့လာသော သိပ္ပံပညာရှင် (Ethnologicst) စာအုပ်လေ့လာခြင်း။

(၁၀) ဝေါဟာရဗေဒပညာရှင် (Philologist) များ၏ စာအုပ်ဖတ်ခြင်း။

(၁၁) ဝါဒ (Ism) နှင့် စိတ်ပညာ (Psychology) များကို နှစ်ရာခိုင်နှုန်းသာ ဦးစားပေးခြင်း။

အထက်ပါစာအုပ် (၁၁)မျိုးကို လေ့လာပြီးမှ စနစ်ကျစွာ (Systemitically) လေ့လာခဲ့လျှင် သမိုင်းကို များစွာ ငြင်းစရာမရှိပါဟု ယုံကြည်ပါသည်။ သမိုင်းကို လေ့လာလိုသူများက စာအုပ်များများ ဝယ် ပိုက်ဆံကုန်၊ အချိန်လည်း ကုန်သည်။ ဝါသနာပါလို့ သမိုင်းရေး တာထက် လူမျိုးချစ်စိတ်ဓာတ်ပြင်းထန်းလို့ ရေးသားခြင်း ဖြစ်သည်ဟု ယုံကြည်ပါသည်။ လူမျိုးများသမိုင်းရေးတာကို သာမန်စာရေးဆရာ၊ ဆောင်းပါး၊ ဝတ္ထုများနှင့် မတူပါ။ ကွာခြား ပါသည်။ လူမျိုးများ၏ သမိုင်းရေးမှားခဲ့လျှင် လူမျိုးအများစု ထိခိုက်သည်။ စည်းလုံးရေးပျက်ပြားစေတတ်သည်။ စာရေးသူက ချင်းလူမျိုးများနှင့် မျိုးနွယ်တူများကို အစ္စရေးလူမျိုးနွယ်စုဖြစ်၍ မွန်ဂိုလီးယားလူမျိုးနွယ်စုမဟုတ်ဟု ရေးသားရှင်းပြသော်လည်း သမိုင်းအမှန်လေ့လာသူများအတွက် မိတ်ဆက်ခြင်းသာဖြစ်သည်။ Israel လူမျိုးအဖြစ် ခံယူပါက ခရစ်ယာန်ဘာသာကနေ ဂျုးဘာသာ (Judaism) သို့ ပြောင်းလဲမည်ဖြစ်၍ Israel လူမျိုးအဖြစ် ခံယူ ပြောင်းရွှေ့ခြင်းကိုလည်း စာရေးသူအနေနှင့် အားမပေးပါ။ မြန်မာ နိုင်ငံသားဖြစ်ရတာ ဂုဏ်ယူဝမ်းသာပါသည်။ သို့သော် ၁၉၄၇ ခုနှစ်မှ စ၍ ယနေ့ (၂၀၁၃) ပြည်ထောင်စု ပြည်နယ်များမှာ ချင်းပြည်နယ် အဆင်းရဲဆုံးဖြစ်၍ အဆင်းရဲ ဆုံးပြည်နယ်များနေတာထက် အစ္စရေးနိုင်ငံသားဖြစ်၍ ချမ်းသာခြင်းကိုလည်း အနာဂတ်မှာ ရွေး ချယ်စဉ်းစားတဲ့ အချိန်မရှိဘူးလို့ ပြောလို့မရပါ။

အထက်ပါ လူမျိုးလေ့လာနည်းအမျိုးမျိုးကို ကြည့်သောအခါ ပညာရှင်များ သုတေသနပြုတိုင်း မှန်သည်၊ မှားသည်ဟု စာဖတ်သူနှင့် သမိုင်းလေ့လာသူများ ဆုံးဖြတ်ချက်ဖြစ်သည်။ Ph.D တစ်ယောက်ဖြစ်လို့ ပညာရှင်ဖြစ်သောကြောင်း သူပြောတဲ့အတိုင်း လိုက်နာမည်ဟု အတင်းအကျပ်မရဘူး၊ လူမျိုးတစ်မျိုး၏ အခွင့်အရေးမှာ လူမျိုးအုပ်စုနှင့် စာပေ၊ ဘာသာစကား၊ ကိုးကွယ်သည့်ဘာသာများ အပြည့်အဝခံစားခြင်း၊ အသုံးပြုခြင်းကို အလိုအပ်ဆုံးဖြစ်သည်။ ခေါင်းဆောင်ကောင်းရဖို့ နောက်လိုက်ယော်သားများက ဖန်တီးလို့ရသလို၊ နောက်လိုက်ကောင်း ပျိုးထောင်ဖို့ရန် ခေါင်းဆောင်ကောင်းတစ်ယောက်လိုအပ်သည်ဟု (Rev. Lang Khan Hau ZBCM) က ဆိုခဲ့သည်။ မှန်သည်။ လူမျိုးရေး၊ စာပေ၊ ဘာသာစကားများ ခေါင်းဆောင်ပညာရှင်တစ်ယောက် ပြုစုသောသမိုင်း၊ စာတမ်းများကို ပြည်သူလူထုက ဖတ်သည့်အခါ စာဖတ်နည်းသုံးမျိုးကွမ်းယားစားသလို၊ အုန်းသီးအခွံခွာ၍ စားသလို၊ ကြံကိုလှီး၍စားသလို စဉ်းစားသင့်သော အဓိကလိုအပ် ချက်ဖြစ်သည်။ လူတစ်ယောက်က သူငယ်ချင်းကို ကျွေး သော ဝက်သားသည့် သူငယ်ချင်းက သွေးတိုးရောဂါရှိ၍ မစားချင်သလိုစာပေသမိုင်း လောကလည်း ဤကဲ့သို့ စာဖတ်သူအတွက် ဖြစ်တတ်သည်။

အခန်း ၂

# ဇိုမီးနှင့်ချင်းအခေါ်အဝေါ်

## ၁။ဇိုမီးဟူသော အမည်ဆင်းသက်လာခြင်း

ချင်းလူမျိုးများကို ယောသပ် (Joseph) ၏ အမည်ကို အစွဲပြု၍ ဇို (Jo, Zo) ကနေ ဇိုမီး၊ မိဇိုး ဟု ခေါ်ဝေါ်ကြသော လူမျိုးများသည် အစ္စရေးသမိုင်း တွင် ပျောက်ဆုံးသော လူမျိုးများ ဖြစ်သည်ဟု ခံယူကြသည်။ ချင်းလူမျိုးများနှင့် အစ္စရေးလူမျိုးများ အား လုံးဝ ဆက်နွယ်မှုမရှိဟု ငြင်းဆိုမည်ဆိုလျှင် အိန္ဒိယပြည်မှ ကူကီးချင်း (Kuki-Chin-Lusei) တို့ကို ချင်းတွင်းမြစ်ဝှမ်းတစ်လျှောက်၌ ပုဂံခေတ် တွင် ချင်း (Chiang) ဟု ခေါ်ဆို ကြသော လူမျိုးများပင် ဖြစ်သည်။ အစ္စရေးအစိုးရက အိန္ဒိယပြည်တွင် နေထိုင်သော ဇိုမီး/ချင်း လူမျိုးများသည် အစ္စရေး လူမျိုးနွယ်အဖြစ် မျိုးရိုးဗီဇစစ်ဆေး (DNA)အောင်သောကြောင့် နှစ်စဉ်ငင်းလူမျိုးများသည် အစ္စရေး နိုင်ငံသို့ ပြောင်းရွှေ့နေထိုင်ခဲ့ပါသည်။ ထိုကဲ့သို့ပင် သမိုင်းအရ မြန်မာ ပြည်တွင် နေထိုင်သော ချင်း၊ ကချင်၊ နာဂ၊ ယောဒေသများတွင် နေထိုင်ထူမျိုးထဲမှာ တချို့ကို အစ္စရေးလူမျိုးများရှိမည်ဟု ယူဆကြ ပါသည်။

၁။ တစ်ချို့သောသူများသည် သမ္မာကျမ်းစာ၌ပါရှိသော ယောသပ်(Joseph)၏ အမည်ကို အစွဲပြု၍ ဇို (Nickname-Jo) ကနေ ဇိုမီး/မီဇိုးဟု ခေါ်ဆိုခြင်းဖြစ်သည်ဟု ယူဆကြပါသည်။ တီဗက်ပြည်၌နေထိုင်သော Jo ကို Chou ဟု ခေါ်ဆိုကြ၍ တရုတ်လူမျိုးတို့ကလည်း Chou ဟု ခေါ်ဆိုကြ၍ ယခုအခါ Zhou, Yao ပြောဆိုကြသည်။ ချင်းလူမျိုးတို့ကလည်း Zomi နှင့် Mizo, Asho, Cho, Jo, Khu, Sho, Zo ဟု သုံးနှုန်းထား၍ လူမျိုးအများစုမှာ မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတွင်များစွာ နေထိုင်ကြပါသည်။

၂။ တစ်ချို့က တရုတ်ပြည် Cho မင်းဆက်မျိုးနွယ်မှ ဆင်းသက်လာသောကြောင့် ဇို၊ ဇိုမီးဟု ခေါ်ဆိုခြင်းဖြစ်သည်ဟု ယူဆကြပါသည်။

၃။ တစ်ချို့က အလွန်ပင် အေးချမ်းသောဒေသတောင်ကုန်းတောင်တန်းများတွင် နေထိုင်ကြသောကြောင့် ဇိုဂမ် (Zogam) ဟု ခေါ်ဆိုခြင်းဖြစ်၍ ယနေ့မှာ ဇိုလူမျိုးများဟု ခေါ်ဆိုခြင်းဖြစ်သည်။ ချင်းတောင်တန်းမှာ Zo-Tedim, Zotung, Zophei, Zo- Hakha ရှိသည်။

၄။ တစ်ချို့က ကျွန်ုပ်တို့၏ ဘိုးဘွားနာမည် Phu Cho ကို အစွဲပြု၍ (Zo, Zomi) ဇိုမီးဟု ခေါ်ဆိုခြင်းသာဖြစ်သည်။ ချင်းလူမျိုးများသမိုင်းတွင် ဇိုမီးလူမျိုးများဟု ဖော်ပြကာ စာပေများ ထုတ်ဝေခဲ့ကြပါသည်။

ဤအချက်(၄)ချက် လက်ခံနိုင်မှသာ ဇိုမီး လူမျိုးများ၏ သမိုင်းတွင် ရှုပ်ထွေးမှု လုံးဝ မရှိပါဟု ယူဆပါသည်။ ယခုအချိန်တွင် အချို့သော ချင်းလူမျိုးများသည် “ ချင်း ” ဟူသော ဝေါဟာရကို လက်မခံကြ၍ ဇိုမီး (Zomi) မျိုးနွယ်စုက ချင်းအားလုံးကို Zomi ဟု ခေါ်သည်။ ထိုကဲ့သို့ မီးဇို (Mizo)ကလည်း ချင်းလူမျိုးအားလုံးကို မီးဇို Mizo ဟု ခေါ်ဆိုလက်ခံကြပါသည်။ Thahdo (KNA) က ချင်းလူမျိုး အားလုံးအစား KUKI နာမည်ကို နှစ်သက်ကြသည်။ ယနေ့ ချင်းပြည်နယ်အတွင်းမှာပင် နေထိုင်သော ဇိုတုန် (Zotung) လူမျိုးတွေက ချင်းလူမျိုးအားလုံးကို Zo ဟု ခေါ်ဆိုကြပါသည်။ အိန္ဒိယနိုင်ငံတွင် နေထိုင်သော ချင်းလူမျိုးများကို ဇိုမီးနှင့် မီဇိုဟု ခေါ်ဆိုကြပါသည်။ ဇိုကို (Zo) လူတစ်ယောက်အမည်၊ မီးကိုလူ (Mi) ဟု အဓိပ္ပါယ်ရသည်။ လူမျိုးကို ရေးတဲ့အခါ ဇိုမီးဟု ရေးသည်။ ဇိုမီး(လူ) ဇိုဂမ်(ပြည်) ဇိုပေါ်(စကား) ဇိုသား (မျိုးနွယ်) ဖြစ်သည်။ အချို့သောသူများက ဇိုမီးနှင့်မီးဇို သတ်ပုံပြောင်း လဲရေးသားခြင်းကို မှန်သည်/ မှားသည်ဟု ငြင်းနေကြသည်။ နှစ်မျိုးစလုံး “ဇို”က နေ ဆင်းသက်လာသော စကားလုံးဖြစ်ပြီး အဓိပ္ပါယ်တူပါသည်။ သမိုင်းအရ “ဇိုမီး”ကို ပုဂံခေတ် အေဒီ ၈၅၀ မတိုင်မီ အသုံးပြုခဲ့ပြီး ဖြစ်သည်။ အေဒီ ၁၂၀၀ ခန့်က ချင်းတောင်တန်း (Thangdung/ Kenedy) ရောက်သောအခါ လူတစ်ယောက်က ဝက်ဝံကိုဖမ်း၍

အလွန်အမင်း ပျော်ရွှင်မြူးတူးသောကြောင့် "မီးဇို"ဟု ကဗျာသီချင်း စပ်ဆိုခဲ့သည်။ "ဇိုမီး" ဘာသာစကားတွင် "R" သံထွက်မရှိ၊ "မီးဇို"ဘာသာစကား၌ သာ "R" အသံထွက်ရှိသည်။ "ဇိုမီး"နှင့် "မီးဇို" ခေါ်ဝေါ်ခြင်းကို စကားအရ လေ့လာလျှင် "Mivom/Midum (blackman), Mikang/Mirang (Whiteman)"ဟု ခေါ်ဆိုကြသည်။ "ဇိုမီး" နှင့် "မီးဇို" အခေါ်အဝေါ်ခြင်းတွင် မှန်သည်/မှားသည် ငြင်းဆိုစရာမလိုအပ်ပေ။ ၎င်းထက် ပို၍အရေး ကြီးသောအရာမှာ "ဇို"မှ စတင်ပေါက်ဖွားလာသောလူမျိုး ဖြစ်ခြင်းကို သိရှိခြင်း ဖြစ်သည်။

## ၂။" ချင်း "(Chiang) ဟူသော အမည်စတင်ဖြစ်ပေါ်လာပုံ

"Chiang" လူမျိုးကို "ချင်း" အစားသာမကဘဲ KUKI-CHIN, Naga-Lusei, Katte တို့လည်း ပါဝင်သည်။

**ပထမအချက်** – တစ်ချို့သော သမိုင်းစာရေးဆရာများသည် ချင်းဟု ခေါ်ဆိုခြင်းမှာ တရုတ်ပြည်၊ ချင်းကေရာဇ်၏ အမည်ကို အစွဲပြု၍ ခေါ်ဆိုခြင်းဖြစ်သည်ဟု ဖော်ပြကြပါသည်။ တရုတ်ပြည်တွင် (Chi'n Dynasty) Chin ဟု လုံးဝမရေးပဲ Chi'n နှင့် Cho ဟု ရေးသား ဖော်ပြထားသည်။

**ဒုတိယအချက်** – တချို့သော စာရေးဆရာများက ချင်းလူမျိုးများသည် ချင်းတွင်းမြစ်တဝှမ်းတွင် နေထိုင်ကြပြီး ဗမာ–ချင်း ချစ်ကြည်ရေးမိတ်သဟာယဖွဲ့ ၍ သူငယ်ချင်းဟု ခေါ်ဆိုခြင်းမှ “ **ချင်း** ” ဟု ခေါ်ဆိုခြင်းသာဖြစ်သည်ဟု ဖော်ပြထားသည်။

**တတိယအချက်** – ချင်းလူမျိုးများသည် ကျောကုန်းပေါ်မှာ “**ခြင်း**” တောင်း (ပလိုင်း)ကို ထမ်းကြသောကြောင့် ချင်း ဟု ခေါ်ဆိုခြင်းဖြစ်သည်ဟု တစ်ချို့က ရေးသားကြပါသည်။ **ခြင်း** ဟူသော စကားလုံးနှင့် **ချင်း** ဟူသော စကာလုံး၏ အနက်အဓိပ္ပါယ်က လုံးဝခြားနားနေပါသည်။ “ခြင်း” ကို ထမ်း သောလူမျိုးများဖြစ်သောကြောင့် ချင်း ဟု ခေါ်ဆိုခြင်းဖြစ်သည် ဟု ယူဆပါက ကမ္ဘာပေါ်မှာ “ခြင်း” ကို ထမ်းသော လူမျိုးများ အလွန် ပင် များပြားလှပါသည်။ အာရှတိုက်၊ အာဖရိကတိုက်၊ အိန္ဒိယပြည်၊ မြန်မာတိုင်းရင်းသားတစ်ချို့တို့ကလည်း “ခြင်း” ကို ထမ်း၍ အသုံးပြုကြပါသည်။ ဤယူဆချက်တွေကို လေ့လာသောအခါ သမိုင်း မှာ ရေးစရာမရှိလို့ ပုံဖော်ပြီး ရေးသားခြင်းသာဖြစ်သည် ဟု ယူဆနိုင်ပေသည်။ နောက်နောင် ချင်းသမိုင်းကို ရေးသားပြု စုရာတွင် ဤယူဆချက်များကဲ့သို့ပင် ပြန်လည်ကိုးကားရေးသားခြင်း မပြုရန် သတိထားသင့်ပါသည်။ အထက်ပါချင်းလူမျိုးများဖြစ်လာခြင်း (၃) ချက်ကို စာရေးသူက လက်မခံပါ။

## ၃။ ချင်း (Chiang) ဟူသောဝေါဟာရအား ဘာသာစကား အရလေ့လာမှု

၁။ တိဗက်စကားမှာ ဇို (Jo, Zo, Cho) ကို Chiang ဟု ခေါ်ဆို ဖော်ပြ ထားသည်။ Chiang ဟု ခေါ်ဆိုသော အဓိပ္ပါယ်မှာ တောထဲတွင် သိုးထိန်း၍ နေထိုင်သော လူမျိုးများ (Hill Tribes) ဟု အဓိပ္ပါယ်ရပါသည်။

၂။ တရုတ်လူမျိုးများသည် "Chiang" ကို Chien, Jen, Qin, Cho, Zhou ဟု ရေးသားဖော်ပြခြင်းသည် နိုင်ငံခြားသား များကို ခေါ်ဆိုရာတွင် အသုံးပြုထားသည်ကို တွေ့ရှိရသည်။

၃။ ကချင်လူမျိုးများသည် Chiang ကို "Hkang" ဟု ခေါ်ဆိုသည်။ (ဤစာအုပ်အခန်း ၈– စာ–၁၃၇မှ ၁၄၅တွင် ချင်းနှင့်ကချင် ခေါင်းစဉ်တွင် ရှင်းပြသည်)။

၄။ ရခိုင် လူမျိုးများသည် Chiang ကို "Klang" ဟု ရေးရာတွင် "ခြင်း" ကို "Krang" ချင်းကို Klang ဟု ပြောင်းလဲခေါ်ဆို ရေးသားကြပါသည်။

၅။ မွန်လူမျိုးများသည် Chiang ကို Chilang (သို့) Khyeng ဟု ရေးသားခေါ်ဆိုသည်။

၆။ ရှမ်းလူမျိုးများသည် Chiang ကို Hkang ဟု ခေါ်သည်။

၇။ အရှိုချင်းက Chiang ကို Khyeng ဟု ခေါ်သည်။

၈။ ဗမာလူမျိုးများကမူ Chiang ကို Khlang ဟု ရေးသောအခါ Chin ဟု ရေးမှားခြင်းဖြစ်သည်။

Major. C. M Enriquez က "Lai မျိုးနွယ်များဖြစ်သော Klang-Klang Haka နှင့် Zahau လူမျိုးများသည် ဟားခါးခရိုင်ခွဲ၏ မြောက်ပိုင်းနယ်မြေတစ်ဝက်တွင် နေထိုင်သည်ဟု မှတ်တမ်းတင်သည်" (Races of Burma, Delhi: Manager of Publication, 2nd print 1933, p. 51) ထန်တလန်ကို ကာလန် (Klang)ဟု ရေးသည်ဟု ယူဆပါသည်။

အထက်ပါဖော်ပြခဲ့သော Chiang ၏အဓိပ္ပါယ်များကို စာအုပ်အချို့ကို ကိုးကားပြီးမှ ရေးသားဖော်ပြခြင်း ဖြစ်သည်။ မှားသည်/မှန်သည်ဟု ဆုံးဖြတ်ရခက်သည်။

"Chiang or Chiangmin, 250 thousand people in China. This tribe had been living especial Israel way of life for 2300 years. Chiangmin meaning is Miu (Man). The language of the Chiang tribe had been forgotten and they had also lose their ancient script. Today they spelt Chinese and two other languages one, that originated from Tibet and the other is Asland which is called Chiaring." (http://www.moshiach. com/ China.html).

Thailand ထိုင်းနိုင်ငံမှာရှိသော Chiangmai ကို **ချင်းမိုင်မြို့** Chiang Rai ကို **ချင်းရိုင်**မြို့ တရုတ်နိုင်ငံ Tsinhua University ကိုလည်း **ချင်းဟွာ**တက္ကသိုလ်ဟု ရေးသားကြပါသည်။ "Beijing

City" ကိုလည်း "ဘေဂျင်း" မြို့တော်ဟု ရေးပေသည်။ အင်္ဂလိပ် ဘာသာစကားမှာ "Ginger" ဟုခေါ်သော "**ဂျင်း**" အစား၊ စာရေး ဆရာတချို့က "ချင်း"ဟု ရေးလေ့ရှိသည်။ အထက်ပါ ဖော်ပြချက်ကို လေ့လာရာတွင် "Chiang" ဟူသော စကားလုံးကို "**ချင်း**"ဟု မြန်မာအက္ခရာဖြင့် မှားယွင်းစွာ ရေးသားထားခြင်း ဖြစ်သည်ကို တွေ့ရှိရပေသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ရုံးသုံးစာကို မြန်မာ စာဖြစ်သော်လည်း လူတစ်ယောက်၏အမည်နှင့် တိုင်းရင်း သားလူမျိုးများ၏နာ မည်ကို ရေးသောအခါ တခြားစကားလုံးများနှင့် ခွဲခြားတတ်အောင်အောင် သတိပြုသင့်သည်။ လူတစ်ယောက်၏ အမည်နှင့် တိုင်းရင်းသားလူမျိုးများ၏လူမျိုးနာမည်ကို မှန်ကန်စွာ ရေးသားခြင်း ဥပဒေကို ပြည်သူ့လွှတ်တော်ကတင်ပြ၍ မြန်မာသတ် ပုံအက်ဥပဒေထဲမှာ(Myanmar Clause Act)ပြဌာန်းသင့်သည်။

David Brallay (Linguistic)လေ့လာချက်အရ ရှင်းပြပါက–

"မြန်မာကို လူမျိုးခြားဘာသာသာခြားပေါင်းစုံသော လူမျိုး အမည် (Neonmys)ဖြစ်သည်။ ဗမာနှင့်ချင်း (Chin)ကို တခြားလူမျိုး ပေးသော လူမျိုးအမည် (Exonmyms)ဖြစ်သည်။ Jou (Joseph) မှရသော Jomi/Zomi-Mizo ကို မျိုးရိုးနာမည် ကလာသော လူမျိုး အမည် "Ethnonyms"ဟုခေါ်သည်။ Zomi, Mizo, Asho, Khumi တို့ကို လူမျိုးတစ်မျိုး သတ်ပုံစလုံးရေးသားခြင်းမတူသော

"Allograms" ဟုခေါ်သည်။ Laimi, Ciimnuaimi, Falam, Hakha, Matu, Tedim, Mindat, Kanpalet, Paletwa, Zotung, Zote, Zophei, Ngawnte, Vaiphei, Teizang နှင့်တခြားဒေသအလိုက်ခေါ် ဆိုသောလူမျိုးနွယ်စုများကို "Loconyms" ဟုခေါ် ဆိုသည်" (Khoi Lam Thang, 2013, p.2 )။

မြန်မာစာမှာ "Ch" အစား "Ky" ကို သုံးနှုန်းထားကြောင်း သိရှိရပါသည်။ ကျန်စစ်သားကို Chyien Sitta အစား Kyant Sitta ကလန်စစ်သားကို Klan Sitta ဟုလည်း ရေးထားလေ့ရှိသည်။ ဒေါ်အောင်ဆန်းစုကြည်ကို Suhchi အစား Suh Kyi ဟု ရေး၍ မြန်မာငွေကို Chyat အစား Kyat ဟု ရေး၍ မြင်းခြံကိုလည်း Myan Chyan အစား Myant Kyan၊ ချောစုကို "Chaw Su" ချမ်းချမ်းကို "Chyant Chyant" အစား "Chan Chan"၊ ကျော် ကို "Chyaw" အစား "Kyaw" ယော် ကို "Zaw" အစား "Yaw" ဟု ရေးသည်။ Rakhine ကို Yakhine, ကရင်ကို Karen အစား Kayin ဟု အမျိုးမျိုး ရေးသားခြင်းကို တွေ့ရပါသည်။ နိုင်ငံခြားသားများ "Kh/Khy" ကို "ခီ" ဟု အသံထွက်၍ Suh Kyi ကို "စုခီ" Kyat ကို "ခီအတ်" ဟု ပြောဆိုသည်။ ဤကဲ့သို့ပင် Chiang ကို တိုက်ရိုက် "ချင်း" ဟု ပြောင်းလဲရေးထားခြင်းဖြစ်သည်ကို ပေါ်လွင်စေပါသည်။

## ၄။ ''ချင်း''ဟုခေါ်ဆိုသောသမိုင်းမှတ်တမ်းများ

၁။ ဒေါက်တာသန်းထွန်း၏ ဖော်ပြချက်အရ ''ချင်းလူမျိုးများနှင့်ကန်တူလူမျိုးတို့ ချင်းတွင်းမြစ်ဝှမ်းတစ်လျှောက်ကိုပိုင်ဆိုင်ဖို့ရန်အတွက် သူတို့သည် အပြိုင်အဆိုင်ဖြစ်နေသည်ကို သိရှိနိုင်သည်။ မြန်မာလူမျိုးများက ချင်းလူမျိုးများကို စစ်မဟာမိတ်ပြုဟန်တူပါသည်။ ထို့အပြင် ချင်းတွင်းမြစ်တစ်ဝှမ်းရှိ မြန်မာလူမျိုးများသည် မုံရွာမြို့ အလုံမြို့အထက်ကျော်၍ ကျူးကျော်နေထိုက်ခြင်း မရှိပေ။ သမိုင်းကို လေ့လာသောအခါ ချင်း–ဗမာစစ်ဖြစ်ပွားနေ သည်ကိုလည်း မှတ်တမ်းတွင် မတွေ့ရှိရပေ။ ချင်းလူမျိုးများ နေထိုင်ခြင်းမရှိသောဒေသများ ကိုမူ မြန်မာလူမျိုးများက နယ်ချဲ့၍ သိမ်းပိုက်ထားနေသည်ကို တွေ့ရှိရပါသည်။ ဥပမာ– ထီးလင်းနှင့်ကျော်ဒေသ၊ (ခေတ်ပေါင်းမြန်မာရာဇဝင် ရန်ကုန်မုံရွေးစာပေ၊ ၂၀၀၄၊ စာ–၁၄၆) အေဒီ ၆၀–၁၀၀ အကြားဟု ခန့်မှန်းသည်။

၂။ B.Lal thangliana က – အေဒီ၁၂၃ ရာစုတွင် ရှေ့ခေတ်မြန်မာကျောက်စာတွင် ချင်း (Chin) ကို Chi'n, Kyien ဟု ရေးသားဖော်ပြထားပါသည်။ ချင်းတွင်းကို ကြံတွင်း ''ကလန်းတွင်း'' ဟု ရေးသားခဲ့ပါသည်။ (Chi'n-Chin, Kyan Twan, Klantwien, Mizo Chan Chin, Ai Zawl 2009, P.17)

၃။ **အေဒီ–၁၃၀** ခန့်က ပုဂံကျောက်စာ၌ အနောက်ဘက်တောင်တန်းဒေသများတွင် နေထိုင်ကြသော လူမျိုးတို့ကို ချင် (Chien, Chiang) ဟု ဖော်ပြထားပါသည်။ ရောဝတီမြစ်၏ မြစ်လက်တက်အကြီးဆုံး ချင်းတွင်း (သို့) ''ခင်တွင်'' ဟု ရေးထိုးကြ၏။ ထိုမြစ်တလျှောက် မြောက်ဘက်အကျဆုံးဟုသိရသော ဒေသတို့မှာ **ကြံ့တူ** (အနိမ့်အမြင့်) **ပင်ကိ** ၁၀တိုက်တို့ဖြစ်ရကား၊ ထိုဒေသတို့၏မြောက်ဘက်သို့ ထိုခေတ်က မြန်မာတို့မရောက်ရှိသေး ဟုယူဆပေသည်။ (မြန်မာ့စွယ်စုံကျမ်း ၁၉၅၃–စာ– ၃၈၉) ''**တိုက်**'' ဟူသော အဓိပ္ပါယ်ကို ''ဇမ္ဗူဒီပဥဆောင်ကျမ်းတွင် အုပ်ချုပ်ရေးနယ်မြေအခေါ်အဝေါ်အရ''တိုက်''သည် သာမန်အားဖြင့် နယ်မြေအပိုင်းအ ခြားတစ်ခုဖြစ်ပြီး မြို့တွင်းရှိငယ်သောရေိယာကို'' ရည်ညွှန်းသည်ဟု ရေးသည်။ (ဒေါက်တာ ဂျေအက်ဖာနီဗဲလ်နှင့် ဒေါက်တာဖေမောင်တင်၊ ဇမ္ဗူဒီပဥဆောင်၊ စာ ၁၀၊ ညွှန်း–ဦးကျော်စာ ၅)။ ချင်းတွင်းမြစ်ကို **တနိုင်းခ၊ တရောင်ခ**နှင့် **တဝေါင်ခ**ချောင်း (၃)မျိုးပေါင်း၍ သာရာဝါဒီမြစ် (Tarawadi) ဟု ခေါ်သည်။ ချင်းလူမျိုးများ နေထိုင်ကြသောအခါ ချင်းတွင်းမြစ်ဟု ခေါ်သည်။ တချို့က ချင်းသွေးမြစ်ကို ချင်းတွင်းမြစ်ဟု ခေါ်ဆိုခြင်းဖြစ်သည်ဟု ယူဆပါသည်။

Capt. Sing Khaw Khai, (The Culture Meaning of Racial Zomi, edited by Dr. Tual Cin Neih Sial, Lamka, 1984,

p.4) တွင် ချင်းတွင်းမြစ်ဝှမ်း တစ်လျှောက်တွင် နေထိုင်သော လူမျိုးများ၏ ဒေသကို ဇိုပြည် (Jo province) ဟု ရေးသားဖော်ပြပြီး၊ ဒေါက်တာသန်း ထွန်းကလည်း "ချင်ပြည်–Chi'n" ဟု ရေးကာ Jo ကနေ Chiang အဖြစ် ပြောင်းလဲ၍ Chiang ကို မြန်မာလူမျိုးများက " ချင်း" ဟု ခေါ်ဆိုသည်။ တရုတ်လူမျိုးက Chiang ကို "Chi'en" ဟုရေးသည် ချင်းဝေါဟာရ အစစ်အမှန်ကိုကား "Chin" မဟုတ်ဘဲ "Chiang" က ဆင်းသက်လာသည်။

၄။ အေဒီ၁၇၈၄ ခုနှစ်တွင် ရောမန်ကာသို လိပ်သာသနာပြုဆရာတော် (Father Vicentus Sanger Mono) ဆိုသူက Chiang ကို Chien ဟု ရေးသားဖော်ပြထားပါသည်။ (A Description of the Burmese Emperor Edited by Sir John Jardine; Rangon, 1884) တွင် Chiang ကို Chien ဟု ရေးသားထားသောကြောင့် ချင်းနှင့် ကချင် ဟူ၍ နာမည်နှစ်မျိုးကွဲပြားခြားနားလာသည်ကို သိရှိရပါသည်။ ကချင်ကိုလည်း မြန်မာတို့ပေး သောအမည် ဖြစ်ဟန်တူသည်။

၅။ အေဒီ၁၈၈၀ ခုနှစ်တွင် Sir Arthur Pyayre, Lower Burma Commissioners) ဆိုသူက ဖော်ပြချက်မှာ Sho, Jo, Zo ကို Kyeng Chiang လူမျိုးများမှ ဆင်းသက်လာသောကြောင့် Kyeng မှ အသံထွက် Klang အဖြစ် ပြောင်းလဲရေးသားထားပါသည်။ ရခိုင်လူမျိုးတွေက Kyang၊ ဗမာစာဖြင့် Kyeng

ဟု ရေးပြီး Chin ဟု ပြောင်းလဲရေးသားထားပါသည်။ ငါကတော့ အသံထွက် Klang စကားလုံးနှင့် ရေးသည်ဟု (Gazetter of Burma, Vol.1, 1880, P.184) တွင် မှတ်တမ်းတင်ထားပါသည်။

၆။ အေဒီ ၁၈၈၀ ခုနှစ်တွင် Major W. Gwynne Hughes (North Eastern Frontier Commander,AD 1870-1880-Assam-Lusei-Chin Arakan) အစီရင်ခံစာတွင် Chien ကို Chin ဟု ဖော်ပြထားပါသည်။ ချင်း (Chin) ကို ဗြိတိသျှအစိုးရက တရားဝင် (Official) အဖြစ် အသုံးပြုခြင်းဖြစ်သည်ကို သိရှိရပါသည်။

၇။ အေဒီ ၁၈၉၆ ခုနှစ်တွင် ဗြိတိသျှတို့က ချင်းတောင်တန်းများ အုပ်ချုပ်ရေး အက်ဥပဒေပြဋ္ဌာန်းခဲ့၍ (Chin Hills Regulation Act 1896) တွင် ချင်းတွင်းမြစ်ဝှမ်းတစ်လျှောက် နေထိုင်သော Lusei-Mizo, Kuki-Chin, Thado, Naga, Katte တို့ လူမျိုးတို့သည်လည်း ချင်းလူမျိုးများ ပင်ဖြစ်ကြောင်း ပုဂံခေတ် ကပင် သတ်မှတ် အတည်ပြုထားကြောင်းကို သိရှိရပေသည်။

၈။ အေဒီ ၁၉၀၉ ခုနှစ်တွင် R.H Sneyd Hutchison က "Khyang" or "Khayengs" လူမျိုးများသည် ဘင်္ဂလာဒေ့ရှ်နိုင်ငံနှင့် ရခိုင်တောင်တန်း ဒေသများတွင် နေထိုင်သော လူမျိုးများကို Cho, Sho, Zo မှ ချင်းလူမျိုး များဖြစ်သည်ဟု (Chittagong Hills Tracts 1909- P.45) တွင် ဖော်ပြထားပါသည်။

## ၅။ ချင်းမကြိုက်သော ဇိုမီးများ

Chi'n ဟူသော စကားလုံးကို ချင်းလူမျိုးများက လုံးဝ အဓိပ္ပါယ်မသိသော လူမျိုးအမည်ဖြစ်၍ မြန်မာလူမျိုးကလည်းမသိ၊ အင်္ဂလိပ်စကားမှာ ချင်းကိုမေးရိုး ဟုခေါ်ဆိုသော်လည်း ချင်းလူမျိုး အမည်နှင့် လုံးဝဆက်စပ်မှုမရှိပါ။ နာဂလူမျိုး များက ချင်းလူမျိုးအဖြစ် လက်မခံသော်လည်း ရှေးခေတ်ကစပြီး ချင်းလူမျိုး အနွယ်ဝင်များဖြစ်ကြသည်။ နာဂလူမျိုးများ၏နာမည်အဓိပ္ပါယ်မှာ Naked အဝတ်အချည်းစည်းဖြစ်၍ သူတို့က လက်ခံကြသည်။ ဇိုမီးနှင့် မီးဇို မျိုးနွယ်စုက Chin အစား၊ Zomi နှင့် Mizo ကို ပိုမိုနှစ်သက်သည်။ "Chi'n" ကို ''ချင်''ဟု အသံထွက်ပြီး "Chin" ကို ''ချင်း''ဟု အသံထွက်သည်။ Chiang နှင့် KUKI အဓိပ္ပါယ်တူသည်။

## ၆။ နာမည်နှင့်လိင်ခွဲခြားခြင်းအသုံးအနှုန်း

လူမျိုးတိုင်းမှာ နာမည်ရှေ့မှာ တပ်ထားသော စကားလုံးက ယောကျ်ား၊ မိန်းမ ခွဲခြားထားသော ထုံးစံရှိသည်။ ထိုကဲ့သို့ အင်္ဂလိပ်တို့က Mr. နှင့် Miss ကို အသုံးပြုသည်။ ချင်းလူမျိုးထဲမှာ– ဇိုးမီးတို့က Lia နှင့် Taang (အပျို နှင့်လူ ပျို)၊ မီးဇိုတို့က ယောကျ်ား နာမည်နောက်ဆုံးတွင် a ကို ထည့်၍ မိန်းမနာမည် နောက်ဆုံးတွင် i ကို အသုံးပြုသည်။ လေ့လာသူများက မြန်မာပြည်မှ ရွှေ့ပြောင်း နေထိုင်သောသူများဖြစ်၍ ကုလားလူမျိုးများ၏ Lalki မိန်းမ၊ Lalka

ယောက်ျား ဟုအသုံးပြုသကဲ့သို့ သူတို့က အတုယူအသုံးပြုသည် ဟု ဆိုကြသည်။

နာမည်ရှေ့ဆက်ပုဒ်မများ (Prefix) Taang နှင့် Lia, Salai နှင့် Mai, "a" နှင့် "i" ကိုလည်း ဖော်ပြပါသည်။ မြန်မာကလည်း မောင်နှင့်မ၊ ဦးနှင့် ဒေါ် သုံးသည်။ အစိုးရရုံးများတွင် တိုင်းရင်းသား လူနည်းစုများ၏ ဘာသာစကားစာပေမြှင့်တင်ရေး ဟန့်တားခြင်း ကြောင့် ဦးတာန်ဆလိုင်းဟု သုံးမျိုးရေးသော လူငယ်တစ်ချို့လည်း ရှိသည်။ (သာဓက – Salai Tawna - ဆလိုင်းသောန)။ ချင်းလူမျိုးက ဦးအစား Pu, ဒေါ်အစား Pi သုံးသည်။

ချင်းလူငယ်များနှင့် သမိုင်းမလေလာသူများက လူပျိုနှင့် အပျိုများ Tang နှင့် Lia, Salai နှင့် Mai သုံး၍ လူကြီးပိုင်းမှာ မသုံးရ ဟု ယူဆပါသည်။ Tang ကို ယောက်ျားဟု ခေါ်ဆိုခြင်း၊ Lia ကို မိန်းမဟု ခေါ်ဆိုခြင်းဖြစ်၍ လိင်ခွဲခြားခြင်း (Gender) သာဖြစ် သောကြောင့် သက်ကြီး/သက်ငယ်ခွဲခြားခြင်း မဟုတ်ပါ။ ဆလိုင်း နှင့် မိုင်ကို တောင်ပေါ်ချင်းက အသုံးရှိသော်လည်း မြေပြန့်ချင်း များသုံးသော စကားမှ ငှား၍ သုံးခြင်းသာဖြစ်၍ သူတို့လည်း အဓိပ္ပါယ် မသိပါ။ ချင်းလူမျိုးများ၏ ရောဂါတစ်ခုလည်း ဖြစ်သည်။ ၁၉၈၁ ခုနှစ် ရန်ကုန်တက္ကသိုလ် ချင်းကျောင်းသား များထဲမှ ပြဿနာပေးခဲ့ဖူးသည်။ အဆိုတော်တာန် T.S Khai ကို ဆလိုင်း

T.S. Khai က သီချင်းဆိုမည်ဟု ခေါ်ဆိုသောကြောင့် ဖြစ်သည်။ ၁၉၈၂ နောက်ပိုင်း ရေဒီယိုမှာ ဆယ်တန်းအောင်စာရင်းကို ကြေငြာတဲ့အခါမှာ Lia နှင့် Tang သုံးသည်။ ဆလိုင်းနှင့် မိုင်ကို ကျောင်းသားအရေးအခင်း ခေါင်းဆောင် ဆလိုင်းတင်မောင်ဦး (အရှိုချင်း–ပဲခူး) သေဆုံးသည့် ၁၉၇၆ နောက်ပိုင်းတွင် အသုံးများလာသည်။ ထိုသို့ ဖြစ်ရခြင်းအကြောင်းရင်းမှာ လူမျိုးရေးစိတ်ဓါတ်ပြင်းပြမှုကြောင့် ဖြစ်သည်။ ထိုသို့သော လူမျိုးရေးစိတ်ဓါတ်ကို နောင်ကာလတွင် လူမျိုးခေါင်းဆောင်များက မရှိသင့်ပေ။

၇။ **ZORO-(ZO) နှင့် ZRO**

၁၉၈၈ ခုနှစ်၊ မေလ ၁၉–၂၀ ရက်နေ့အထိ Champhai မြို့ Mizoram မှာ ZORO-ZO Re-Unification Organization, T.Pu Thenphung-Sailo နှင့် Pu R. Thangmawia ယခု ဥက္ကဋ္ဌ ဦးဆောင်၍ Manipur, Chin State မှ PNC, ZNC များ တက်ရောက်ခဲ့သည်။ လူထု ၅၀၀၀ ကျော်ဟု ခန့်မှန်းခဲ့သည်။ ပထမအကြိမ် ကမ္ဘာလုံး ဆိုင်ရာ ဇိုအမျိုးသား/ဇိုမီးအစည်းအဝေး (1st World Zomi Convention) ဟု သတ်မှတ်သည်။ ၁၉၉၁ ခုနှစ်တွင် ဒုတိယအကြိမ် ZO Re-Unification Convention ကျင်းပသည်။ တတိယအကြိမ် အစည်းအဝေးကို ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်နေ့တွင် Aizawl ၌ ကျင်းပခဲ့သည်။

ယင်းညီလာခံကြီးတွင် မီဇိုရမ်ပြည်နယ်မှ လက်ရှိအတိုက်အခံပါ တီများဖြစ်ကြသော Mizo National Front (MNF)/ Mizoram People Conference (MPC)/ Zoram National Party (ZNP)/ BJP ပါတီအသီးသီးမှ ပါတီဥက္ကဋ္ဌများ တက်ရောက်ခဲ့ကြပြီး ဇိုမျိုး နွယ်စုများပြန်လည်သွေးစည်းညီညွတ်ပြီး အုပ်ချုပ်မှုတစ်ခုအောက်တွင် အတူတကွပြန်လည်နေထိုင်နိုင်ရန် ZORO အဖွဲ့၏ ကြိုးပမ်းလုပ်ဆောင်ချက်များကို အပြည့်အဝ ထောက်ခံကြိုဆိုကြကြောင်း၊ မိမိတို့တတ်စွမ်းသမျှ ပူးပေါင်းပါဝင်ကြမည်ဖြစ်ကြောင်း ပြောဆိုသွားကြသည်။

ညီလာခံကို အိုင်ဇောလ်မြို့ အခြေစိုက် ဇိုမျိုးနွယ်စုများပြန်လည်သွေးစည်းညီညွတ်ရေးအဖွဲ့ (ZORO)က ဦးဆောင်ကျင်းပခဲ့ခြင်းဖြစ်ပြီး အိန္ဒိယ၊ ဘင်္ဂလားဒေ့ရှ်နှင့် မြန်မာနိုင်ငံတွေမှာ တကွဲတပြားရှိနေကြသော ဇိုမျိုးနွယ်စုများအုပ်ချုပ်ရေးတခုအောက်၌ အတူတကွပြန်လည်ပေါင်းစည်းနေထိုင်နိုင်ရန် ရည်ရွယ်ချက်ဖြင့် ယခုလိုကျင်းပရခြင်းဖြစ်သည်ဟု ZORO အဖွဲ့ဥက္ကဋ္ဌ Pu. R. Thang Mawia ကပြောသည်။

ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့မှ ၂၀၀၇ ခုနှစ်က ပြဋ္ဌာန်းခဲ့သော ဌာနေတိုင်းရင်းသားလူမျိုးများဆိုင်ရာ အခွင့်အရေးကြေညာချက်ကို အခြေခံပြီး လာမည့်နှစ် ၂၀၁၄ စက်တင်ဘာလတွင် ကမ္ဘာလုံးဆိုင်ရာ ညီလာခံမှာ တင်ပြသွားရန် ဆုံးဖြတ်ခဲ့ကြသည်ဟု ဆက်ပြောသည်။

"၁၈၉၀" ခုနှစ်မှာ ဗြိတိသျှတွေက ချင်း၊ လူရှိုင်း၊ ကူကီး တိုင်းပြည်ကို သိမ်းပိုက်ပြီး တကွဲတပြားစီ ဖြစ်အောင်လုပ်တယ်၊ ၁၈၉၂ ခုနှစ် Chin-Lushai ညီလာခံမှာ ဗြိတိသျှတွေက သူတို့ကြောင့်တကွဲတပြား ဖြစ်ခဲ့တဲ့ ချင်း၊ လူရှိုင်း၊ ကူကီးတွေကို အုပ်ချုပ်မှုတစ်ခုအောက်မှာ ပြန်လည်ထားရှိဖို့ ပြန်လည်ဆုံးဖြတ်ခဲ့တယ်၊ ဒါပေမယ့် အဲဒီဆုံးဖြတ်ချက်မှာ ဒီကနေ့အထိ အကောင်အထည် မဖော်ခဲ့ဘူး။

ရှည်လျားလှသော သမိုင်းကြောင်းအရ ချင်း၊ လူရှိုင်း၊ ကူကီး လူမျိုးများသည် အင်္ဂလိပ်ကိုလိုနီ လက်အောက်မကျရောက်ခင်တွင် မိမိဘာသာ ဇို လို့ခေါ်ဆိုပြီး ဘင်္ဂလားဒေ့ရှ်နိုင်ငံ စစ်တကောင်းတောင်တန်းဒေသ၊ မြန်မာနိုင်ငံချင်းတောင်တန်းဒေသနဲ့ အိန္ဒိယနိုင်ငံလူရှိုင်းတောင်တန်းဒေသတွေမှာ သီးခြားလွတ်လပ်စွာ နေထိုင်ခဲ့ကြသည်ဟု သိရသည်။ (Khonumthung Journal, Vol.1. No.7, November 2013, p. 7-8).

ZRO-(Zomi) ၁၉၉၃ ခုနှစ်၊ ဧပြီလ ၉ ရက်နေ့တွင် Pu Khai Za Song-Guite (Ex-MLA-Karbilong) က လိုင်ဇာ-ကချင်ပြည်နယ်တွင် ZRO-Zomi Re-Unification Organization ဖွဲ့စည်း၍ ဥက္ကဋ္ဌအဖြစ် ပထမဆုံး Lt.Col.Hang Khaw Lian HatLang (ဆုံး)က တာဝန်ယူသည်။ ၁၉၉၇ ခုနှစ်တွင် Manipur ZRO နှင့် KNA- Kuki National Assembly ပဋိပက္ခဖြစ်ပွားသောကြောင့် ZRO ခေါင်းဆောင် အဖြစ် G. Thang Lian Pau က

တာဝန်ယူ၍ (ယနေ့ထိ ၂၀၁၃) ယခုအခါ Zomi Council အောက်မှ KNA အဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့သည်။ ၁၉၉၇ ခုနှစ်တွင် ZRA (Zomi Re-Unification Army) နှင့် ၂၀၁၂ တွင် စက်တင်ဘာလ ၁၀ ရက်နေ့တွင် ZIA (Zomi Independent Army) ဇိုမီးအမျိုးသားလွတ်မြောက်ရေးတပ်ဖွဲ့ ဖွဲ့စည်းသည်။

Chiang (or) Chiangman ကို "Miu" ဟု ခေါ်ဆိုပြီး အဓိပ္ပါယ်မှာ လူ (Man)ဟု ခေါ်ဆိုသည်။ KUKI လည်း တောင်ပေါ်လူ၊ တောထဲလူဟု ခေါ်ဆိုခြင်းဖြစ်ပြီး "Chiang" အဓိပ္ပါယ်နှင့်တူသည်။ ထို့ကြောင့် လူမျိုးအမည်မူပြု (ကိုယ်စား) "Chiang"မှ ချင်းဖြစ်၍၊ Chiang ကိုသော်လည်းကောင်း၊ Chin ကို သော်လည်းကောင်း၊ Kuki သော်လည်းကောင်း၊ မြန်မာစကားမှာ "ဟော့လူ၊ ဟော့ကောင်"ဟု ဆဲဆိုခြင်း၊ နှိမ်ချခြင်း စကားမှ ဆင်းသက်လာသည်ဟု အဓိပ္ပါယ်ရသည်။ ဤစကားလုံးကို ချင်းစကားမှာ "Mihing, Mihring, Milai, Hrang"ဟု ခေါ်ဆိုသည်။ တချို့ချင်းလူမျိုး Zomi နှင့် Mizo တို့က Zo ကို အခြေခံ၍ Kuki-Chin, Lushei အစား Zomi (or) Mizo ဟု ခေါ်ဆိုကြသည်။ Chiang, Chin, Kuki ကို အထက်ပါအတိုင်း အဓိပ္ပါယ်အရင်းအမြစ်လေ့လာသောအခါ မြန်မာစကားတွင် ဟော့လူ၊ ဟော့ကောင် ဟု အဓပ္ပါယ်ရသည်။ ထို့ကြောင့် ဇိုမီးနှင့်မီးဇိုအမျိုးသားများက ချင်း အမည်ကို လူမျိုးအမည်အဖြစ် လုံးဝလက်ခံရသည့်အကြောင်းရင်းဖြစ်သည်။

အခန်း ၃

# တကောင်းပြည်တည်ထောင်သူများ

## ၁။ သက်လူမျိုးများနှင့် ချင်းလူမျိုးများ

သမိုင်းမှတ်တမ်းအရ လေ့လာရမည်ဆိုလျှင် မွန်ခမာရ် (မွန်–ခမာ၊ ခမာရ်)လူမျိုးများသည် မြန်မာနိုင်ငံအတွင်းသို့ ရောက်ရှိလာကြသော မွန်ဂိုလီးယားအမျိုးနွယ်ဝင်များဖြစ်သည်။ တိဗက်–မြန်မာမျိုးနွယ်စုနှင့် ပျူ ကရင်(ကယန်း) သက်လူမျိုးများပင်ဖြစ်သည်။ "သက်" (Tet/Thet/Sat)လူမျိုးများကို ရောဝတီမြစ်နှင့် ချင်းတွင်းမြစ်မြောက်ပိုင်းဒေသ၌ အခြေစိုက်၍ နေထိုင်ကြသောကြောင့် ချင်းလူမျိုးဟု ခေါ်ဆိုခြင်းဖြစ်သည်။ သက်လူမျိုးများနှင့် နွယ်တူသောလူမျိုးများသည် မြန်မာနိုင်ငံတွင် ရှေးအကျဆုံးတကောင်းမြို့ကို တည်ထောင်သည်။ တကောင်းမင်းဆက်ကို ဗုဒ္ဓမပွင့်မီ ၅၅၀ ဘီစီ – ၅၀၀ ဘီစီတွင် အဘိရာဇာခေါ် သာကီမျိုးနွယ်များက အိန္ဒိယနိုင်ငံမှလာ၍ သိမ်းပိုက်ခဲ့သည်။ (ကမ္ဘာ့သမိုင်း၏မှတ်တိုင်းများ ပထမတွဲ – ရန်ကုန် မဆပလပုံနှိပ်တိုက်၊ ပဥ္စမအကြိမ် ၁၉၇၁၊ စာ– ၄၇၊ ၄၉၊ ၅၃)တွင် ဖော်ပြထားပါသည်။ သက်လူမျိုးကို ချင်းလူမျိုးဟု ခေါ်မည့်သူများဟု ရေးသားခဲ့သည်။ သက်လူမျိုးများဟု

ခေါ်ဆိုရာတွင် ချင်း၊ ကချင်၊ နာဂလူမျိုးတို့လည်း ပါဝင်နေပါသည်။ သာကီမင်းမျိုးနွယ်များကို ကုလားလူမျိုးဟု ယူဆတာထက် ဘုရားသားဂျူး (Jews) မျိုးနွယ်စုမှ ဆင်းသက်သည်ဟု ယူဆ ပါသည်။

## ၂။ "မြန်"လူမျိုးမှ မြန်မာ

တရုတ်ပြည်အနောက်မြောက်ဘက်တွင် နေထိုင်သောကန်စုဒေသ၌ မွန်ဂိုလီယားအမျိုးအနွယ် "**မြန်**" လူမျိုး များသည် ခရစ်နှစ် AD. ၆၅၀ ခန့်တွင် ရှမ်းကုန်းမြင့်ကို ကျော်ဖြတ်၍ ကျောက်ဆည်မြို့တွင် နေထိုင်ကြသည်။ ၎င်းလူမျိုးများသည် ရောက်ရှိကြပြီးသော မွန်(ခမာ)လူမျိုးများနှင့် ရောနှောနေထိုင်ကြကာ မြန်မာလူမျိုးဖြစ်လာသည်။ (ကမ္ဘာသမိုင်းမှတ်တိုင်များ စာအုပ်–ပထမတွဲ ၁၉၇၁၊ စာ–၄၇၊ ၄၈) သက်လူမျိုးဟု ခေါ်သော "**ချင်း**" **လူမျိုးများနှင့်မျိုးနွယ်တူများက တကောင်းပြည်ကို တည်ထောင်သည်**ဟု ဆိုသော်လည်း မြန်မာနိုင်ငံအစိုးရမြန်မာသမိုင်းပြောင်းလဲမှုက မြန်ဆန်လွန်းလှသည်ကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

- **မြန်မာအစတကောင်းက**
- **မြန်မာအစ ကျောက်ဆည်က**
- **မြန်မာအစ ပုံတောင်ပုံညာက** ဟုပင် ကျောင်းသင်ခန်းစာများတွင် သင်ကြားပို့ချလျှက်ရှိပါသည်။ ဤကောက်နှုတ် ချက်ကို

ကြည့်ခြင်းအားဖြင့်မြန်မာလူမျိုးများ၏ လူမျိုးအရင်း အမြစ်မှာ ''မြန်''(Mein - တရုတ်စကား)ဖြစ်၍ ယခုအခါ "Myan" ဟု ရေးသားဖော်ပြထားပါသည်။ ''မြန်'' လူမျိုးတို့ကို မွန်-ခမာတို့နှင့် ကျောက်ဆည်မြို့နယ်တွင် ရောနှောနေထိုင်ကြသောအခါ တိုင်းရင်းသားလူမျိုးများဟုပင် ခေါ်ဆိုလေ့ရှိကြသည်။ ထိုမှတဆင့် ''မြန်မာ'' ဟူသော ဝေါဟာရ ဖြစ်ပေါ်လာရခြင်းပင်ဖြစ်သည်။ ''မြန်''နှင့် မွန်ခမာပေါင်း= မြန်မွန်ခမာမှ ''မွန်''နုတ်၊ မြန်+ခမာ=မြန်ခမာ-ခ=မြန်မာ ဖြစ်လာသည်။ မြန်မာလူမျိုးများကို မြန်မာလူမျိုးအရင်း (Generic name, Root word) သည် တရုတ်နိုင်ငံမှစ၍ ''မြန်''လူမျိုးအမည်နှင့်ရှိပြီး ဖြစ်သည်။ သချာတွက်နည်းအရပင် ဤသို့ပင် အတည်ပြုသည်။ သို့သော် ဘမင်းမောင်က ''မြန်လည်း မြန်၊ မာ လည်း မာ၊ မှ မြန်မာ ဖြစ်လာသည်ဟု ရှင်းပြသည်။ (ဗမာလား၊ မြန်မာလား ၂၀၁၁)။ စီထန်ဇသွင်း ကလည်း ဗိုလ်မှူး ဘရှင်၊ တောစိန်ရေးသော ၁၉၃၂ စာအုပ်ကိုးကား၍ အေဒီ ၈၃၂ ခုနှစ်ခန့်တွင် ရှမ်းတရုတ်များက ကျောက်ဆည်မှာ နေထိုင်သော မြန်မာ လူမျိုးများကို မြင်းစီးရင်း တိုက်ခိုက်သည်။ ပါဠိစကားမှာ မြင်းကို ''မာရန်'' ဖြစ်၍ မြင်းစီးသူကို ''မာ''ဟု ခေါ်ပြီး ''မာရန်မာ''မှ မြန်မာဖြစ်လာသည်ဟု ကိုးကားတင်ပြသည်။ ဤယူဆချက်မှာ

လုံးဝပင်လက်ခံနိုင်စရာ အကြောင်းမရှိနိုင်ပေ။ အကြောင်းမှာ တိဗက်တရုတ်ပြည်ကနေ မြန်ဟူသောလူမျိုးများရှိခဲ့ပြီး ဖြစ်သည်။

## ၃။ ဗမာနှင့်မြန်မာ

ဗမာ (Burma) ကို ဟိန္ဒူတို့၏ ဘုရားတပါးဖြစ်သော ဗြဟ္မ (Bhrama) ကနေ ဆင်းသက်လာခြင်းဖြစ်သည်။ မြန်မာကို အထက်မြန်မာ ပြည်မှ လာ၍ ပုဂံခေတ်က တဖြည်းဖြည်းခေတ်အလိုက် မြန်မာဘုရင်၊ မြန်မာစာ၊ မြန်မာစကား၊ မြန်မာပြည်၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်နှင့်မြန်မာနိုင်ငံသား ဖြစ်ပေါ်လာသည်။ ဗမာဟူသော ဝေါဟာရကို ဗြဟ္မမှ ဆင်းသက်လာ၍ အောက်မြန်မာပြည် ရခိုင်ပြည်ကို ဖြတ်သန်းကာ သီရိလင်္ကာ (Srilanka) နိုင်ငံကနေ မြန်မာနိုင်ငံသို့ ရောက်ရှိလာခြင်းပင်ဖြစ်သည်။ ၁၈၅၂ခုနှစ် ဒီဇင်ဘာလ ၂၀ရက်၌ဗြိတိသျှအစိုးရက ပဲခူးကိုသိမ်းပိုက်သောအခါ Lower Burma ဟုခေါ်ဆိုသည်။ ရခိုင်တိုင်း၊ တနင်္သာရီတိုင်းကို သိမ်းပိုက်ပြီးနောက် "Province of British Burma" ဟု ခေါ်ဆိုသည်။ ဤ Burma ကိုလည်း ဗမာဟု တရားဝင် စတင်အသုံးပြုခြင်းဖြစ်သည်ဟု ယူဆရသည်။ သက်လူမျိုးများနှင့် ပတ်သက်ပြီး ရခိုင်ပြည်နယ်၊ ဘင်္ဂလာဒေ့ရှ်နိုင်ငံ၊ အိန္ဒိယနိုင်ငံ မီဇိုရမ်းပြည်နယ်တွင် များစွာနေထိုင်ကြသည်။ မန်မန်းလူမျိုးတို့သည် မြင်းစီးသူရဲကောင်းများဖြစ်၍၊ Chiang

လူမျိုးများကို ချင်းလူမျိုးများနှင့် ဆက်နွယ်မှုရှိကာ သိုးမွေးသော လူမျိုးများဖြစ်သည်။ မွန်လူမျိုးများက မြန်မာကို '' မိရ်မ'' ဟု ခေါ်သည်။

Major. C. Enriquez က

''မြန်မာနိုင်ငံ၏ပထမဆုံးမြို့တော် ''တကောင်း''သည် အချို့ ဩဇာရှိသူများ (အားလုံးမဟုတ်)က ရှမ်းလူမျိုးများနှင့်စပ်ဆိုင်သည်ဟု အဆိုပြုသည်။ Tangaung ''တကောင်း (သို့) "Takawng" သည် ရှမ်းဝေါဟာရဖြစ်ပြီး အဓိပ္ပါယ်မှာ ''Ferry of the Drumz'' အိုးစည်ကူးတို့ ဖြစ်သည်ဟု ရေးသည်။ (Races of Burma, 1933. p. 72). တကောင်းအကြောင်းနှင့် ပတ်သက်၍ ခေတ်ဟောင်းမြန်မာမြို့များသမိုင်း၊ မှန်နန်းရာဇဝင် စာအုပ်နှင့် မဆလအစိုးရ သမိုင်းများ ဖတ်ရှုသောအခါ တခုနှင့်တခု မတူညီပါ။ ထို့ကြောင့် သမိုင်း အမှားအမှန်ကို သမိုင်းပညာရှင်များက ဆက်လက်လေ့လာ ဖို့ရန် ချန်ထားပါမည်။

တကောင်းမြို့ကို မြို့နယ်ခွဲအဖြစ် ပြည်ထဲရေး ဝန်ကြီး ဌာန၏ စာအမှတ် ၁၀၀/၂၄-၃၄/ဦး- ၁ ရက်စွဲပါ (၁-၁-၂၀၁၃) တွင် ဖော်ပြထားသည်။ မြန်မာ့ဆိုရှယ်လစ် အစိုးရက ရှေးအကျဆုံးမြို့ဟု မှတ်တမ်းတင်ထားသော်လည်း နဝတ၊ နအဖ၊ ဦးသိန်းစိန် အစိုးရက တကောင်းမြို့ကို ရှေ့ဟောင်းအမွေအနှစ်မြို့ဟု အသိအမှတ် မပြုဟု သိရှိရပါသည်။

## ၄။ ၁၉၉၃ ဒုတိယဗိုလ်ချုပ်ကြီးခင်ညွန့်ရှင်းပြသော ဗမာနှင့်မြန်မာ

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ(၂၀၀၈)ရေးဆွဲရာတွင် ပါဝင်မည့် နိုင်ငံတော်အခြေခံမူများ သတ်မှတ်ရေးအတွက် ၁၉၉၃ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် အမျိုးသားညီလာခံ စုံညီအစည်းအဝေးက ချမှတ်ခဲ့သော အခြေခံရမည့်မူများမှ**

**ဒုတိယဗိုလ်ချုပ်ကြီး ခင်ညွန့်၏ မိန့်ခွန်း**

ယင်းအခမ်းအနားတွင် နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ အတွင်းရေး မှူး (၁) ဒုတိယ ဗိုလ်ချုပ်ကြီးခင်ညွန့်က ကချင်တိုင်းရင်း သား သွေးချင်းများနှင့် သက္ကရာဇ် ၂၀၀၀ နှင့် ၂၁ ရာစုတတိယထောင်စုနှစ်ကို ကြိုဆိုနှုတ်ခွန်းဆက်ပြီး နိုင်ငံတော် အတွင်း တိုင်းရင်းသား သွေးရင်းသား ချင်းများအကြား အပြန်အလှန်ချစ်ကြည်လေးစားမှု၊ ယုံကြည်မှု၊ နားလည်စာနာမှု များ အတိုင်းအဆမရှိ တိုးတက်လာပုံကို ဝမ်းမြောက်အား ရပြောကြားသွားသည်ကို သတိပြုလိုက်မိပါသည်။ ပြည်ထောင်စုကြီး၏ သွင်ပြင်လက္ခဏာ သမိုင်းကြောင်းနှင့် ပြည်ထောင်စုသဏ္ဌာန် အခြေခံအကြောင်းတရားများနှင့် ဖြစ်တည်နေသည့် အခြေအနေ ကောင်းများကို အမြဲထာဝရ အလေးထား ထိန်းသိမ်းကာကွယ်ပေး ခဲ့ကြ

သည့် အစဉ်အလာကောင်းကို ရှင်းလင်းပြောကြားသွားသည်။ ကောင်းမြတ်သောအစဉ်အလာနှင့်အညီ ပြည်ထောင်စုကြီး ကမ္ဘာ့အလယ်၌ ဝင့်ဝင့်ထည်ထည် ရပ်တည်နေနိုင်ပုံများကို အတွင်းရေးမှူး (၁) က ဤသို့ ရှင်းပြသည်။

“ယခုလို ပြည်ထောင်စု မြန်မာနိုင်ငံတော်ကြီးအတွင်း တိုင်းရင်းသားမျိုးနွယ်စုအားလုံးသည် မိမိယုံကြည် ကိုးကွယ်ရာ ဘာသာတရား၊ မိမိနှစ်ခြိုက်လက်ခံရာ ရိုးရာယဉ်ကျေးမှု ဓလေ့ စရိုက် ကောင်းများကို လွတ်လွတ်လပ် လပ်ကျင့်သုံးပြီး နှစ်ပေါင်း ထောင်နှင့်ချီကာ ညီညီညွတ်ညွတ်ပေါင်းစည်း နေထိုင်နိုင်ခဲ့ကြ သည့်အတွက် မေခနှင့် မေလိခမြစ်နှစ်သွယ် ပေါင်းဆုံပြီး ဧရာဝတီမြစ် ကြီး ခိုင်ခိုင်မာမာ ပေါ်ထွန်းလာရသကဲ့သို့ ကချင်၊ ကယား၊ ကရင်၊ ချင်း၊ ဗမာ၊ မွန်၊ ရခိုင်၊ ရှမ်း တိုင်းရင်းသား မျိုးနွယ်စုများ ပေါင်းစည်းပြီး မြန်မာလူမျိုးနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်ဟူ၍ နိုင်ငံတကာ အလယ်တွင် ယနေ့ဝင့်ဝင့်ထည်ထည် ရပ်တည်နေနိုင်ခြင်း ဖြစ်သည်”

တိုင်းရင်းသားမျိုးနွယ်စုအားလုံးကို **မြန်မာ**မှုပြုနေ သည်ဟူ သော အသုံးအနှုန်းမှာ အဖျက်သမားတို့က မလိုတမာ ယုတ်မာ ကောက်ကျစ်သောအကြံဆိုးဖြင့် သုံးစွဲပုတ်ခတ်လိုက်ခြင်းဖြစ်သည်။ မြန်မာဟူသော အသုံးအနှုန်းသည် မြန်မာ့အချုပ်အခြာ ချာအာဏာ ပြန့်နှံ့ရာ ပိုင်နက်နယ်မြေ တစ်ခုလုံး၏ ကိုယ်စားပြု နာမည်ဖြစ်သည်။

ယင်းပိုင်နက်နယ်မြေတည်းဟူသော ယနေ့ပြည် ထောင်စု မြန်မာနိုင်ငံတော်အတွင်း တိုင်းရင်းသားလူမျိုး ၁၃၅ မျိုးရှိသည်။ ထိုတိုင်းရင်းသား ၁၃၅ မျိုးကို ကိုယ်စား ပြုသော လူမျိုး အမည်လဲဖြစ်သည်။ ဗမာသည် ဤနိုင်ငံ၌ လူဦးရေအများဆုံးရှိသော တိုင်းရင်းသားလူမျိုး တစ်မျိုးဖြစ်သည်။ တိုင်းရင်းသားများကို ဗမာမှုပြုနေသည် မဟုတ်၊ အများဆိုင် နာမည်ဖြစ်သည့် "မြန်မာ" ကို သုံးနှုန်းခေါ်ဝေါ်နေခြင်းသာဖြစ်သည်။ တရုတ်ပြည်တွင် တိုင်းရင်း သား ၅၅ မျိုးရှိသည်။ ဟန်လူမျိုးမှာ အများစုကြီးဖြစ်သည်။ တရုတ်လူမျိုး ဟူ၍သာခေါ်၏။ တရုတ်နိုင်ငံဟူ၍သာသုံးသည်။ တရုတ်ကို အင်္ဂလိပ်တို့က ချိုင်းနား၊ မြန်မာတို့က ရှေးယခင်စိန၊ စိန့်တိုင်း နောက်ပိုင်း တရုတ်ဟု သုံး၏။ ဂျပန်တို့က ရှီနား ဟု ဂျပန်အ သံဖြင့်ထွက်၏။ တရုတ်တို့ကမူ မိမိတို့ဘာသာစကားဖြင့် တွန်းကိုဟု ခေါ်၏။ တွန်းကိုခေါ် ချိုင်းနားခေါ် တရုတ်သည် ဟန်အပါအဝင် တိုင်းရင်းသာ ၅၅ မျိုးကို ကိုယ်စားပြုလေသည်။

အမေရိကန်တွင် ယနေ့အမေရိကန်ဟု သတ်မှတ်ထားသော လူဖြူများ (ရှေးယခင်အင်္ဂလိပ်၊ ဝေလ၊ ကော့၊ အိုင်းရစ်ရှ်၊ ဒတ်ချ်၊ ပြင်သစ်၊ ရုရှား စသည့် ဥရောပ နွယ်ဖွားများ)၊ လူမည်းနီဂရိုးများ၊ အင်ဒီးယန်းလူနီများ၊ ဟစ်စပင်းနစ် ခေါ် စပိန် မျိုးနွယ်များ၊ အာရှမျိုးနွယ်များ၏ အများဆိုင်နာမည် မှာ အမေရိကန် ဖြစ်သည်။

လူမျိုးပေါင်းစုံကို အမေရိကန်မှုပြုသည်ဟု မည်သူကမှ မစွပ်စွဲချေ။ ယူကေခေါ် ဗြိတိန်ခေါ် အင်္ဂလန် သည်၊ ဝေလ၊ စကော့၊ အိုင်းရစ်ရှ်နှင့် အခြားမျိုးနွယ်များ၏ ကိုယ်စားပြု အများဆိုင်နာမည်ဖြစ်သည်။ ဗြိတိသျှမှု ပြုသည်၊ အင်္ဂလိပ်မှုပြုသည်ဟု မည်သူကမျှမဆိုပါချေ။ အဘယ့်ကြောင့် မြန်မာ့မြေပေါ်မှ တိုင်းရင်းသား ၁၃၅ မျိုးတို့ နှစ်ပေါင်းထောင်ချီသုံးစွဲခဲ့သော အများဆိုင်ကိုယ်စားပြုနာမည်ဖြစ်သည့် "မြန်မာ" ကို မလိုတမာစွပ်စွဲကြပါ သနည်းဟု ရှင်းပါသည်။ မြန်မာနိုင်ငံ၏ ညီညွတ်မှု၊ သွေးစည်းချစ်ကြည်မှု၊ တိုင်းရင်းသားရိုးရာယဉ်ကျေးမှုနှင့် ကိုးကွယ်ရာ ဘာသာတရားများ ထွန်းကားစည်ပင်မှုကို အဖျက်စိတ်ဖြင့် မလိုမလားဖြိုချဖျက်ဆီး လိုမှုတို့ကြောင့် ဖြစ်ပါသည်။ အတွင်းရေးမှူး (၁) ဒုတိယဗိုလ်ချုပ်ကြီး ခင်ညွန့်က ဘာသာတရားနှင့် ပတ်သက်သော နိုင်ငံတော်၏ သဘောထားကို ဤသို့ပြောကြားလိုက်ပေသည်။

"မြန်မာနိုင်ငံသူ နိုင်ငံသားတိုင်းရင်းသားများအား လုံးမိမိတို့ကိုယ်စီကိုယ်စီ ယုံကြည်ကိုးကွယ် ကြသည့် ဘာသာတရား၏ဆိုဆုံးမမှုဖြစ်သည့် မေတ္တာထားခြင်း၊ သဘောထားကြီးခြင်း၊ ခွင့်လွှတ်ခြင်း ဆိုသည့် မှန်မြတ်သော သဘောထားများကို လေးစားလိုက်နာ ခံယူကျင့်သုံးကြသည်နှင့်အမျှ တိုင်းရင်းသားအချင်းချင်း

ချစ်ကြည်သွေးစည်းမှုနှင့် လက်တွဲပူးပေါင်း ဆောင်ရွက်မှုအစဉ်အလာ ကောင်းတွေကို ဆက်လက် ဖော်ဆောင်နိုင်မည်ဖြစ်၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် ကြီးအတွင်း ဘာသာတရားအားလုံး လွတ်လပ်စွာ ရှင်သန် လှုပ်ရှားနိုင်ရန် နိုင်ငံတော်အစိုးရ အနေဖြင့် အစဉ်အလာ မပျက် ဆက်လက်အားပေး စောင့်ရှောက်သွားမည်ဖြစ်သည်။”

***(ညွန်း – ကြေးမုံ – ၂၀.၈.၂၀၀၀)***

အခန်း ၄

## ၁၉၄၇ ပင်လုံစာချုပ်၏အနှစ်သာရ

### ၁။ ပင်လုံစာချုပ်လက်မှတ်ရေးထိုးသော ချင်းအမျိုးသား ကိုယ်စားလှယ် (၃) ဦး

**သမိုင်းအစ**

၁၉၄၆ ခုနှစ်၊ ဇန်နဝါရီလ (၁၇)ရက်နေ့တွင် ကျင်းပသော ပထမအကြိမ် ဖဆပလနိုင်ငံလုံးဆိုင်ရာညီလာခံ နေသူရိန်း အစည်းအဝေး ရန်ကုန်မြို့ တွင် ကျင်းပခဲ့ပါသည်။ ထိုညီလာခံ၌ ဦးဖေခင်က ''တောင်တန်းဒေသများ (Frontier Area)နှင့် မြန်မာပြည်ကို ပူးပေါင်း၍ အတူတကွ လွတ်လပ်ရေးရယူမည်ဟု အဆိုတင်သွင်းခဲ့ရာ ပိုဝမ်းသူမောင် (ထန်ပက်မောင်–မထမဆုံး ချင်းရေးရာဝန်ကြီး) က ထောက်ခံသည်။ ထို့နောက် ၁၉၄၆ နှစ်၊ ဖေဖော်ဝါရီလ (၈)ရက်နေ့တွင် ကျင်းပသော ဖဆပလအဖွဲ့ချုပ် အမှုဆောင်များနှင့် ရှမ်း၊ ချင်း၊ ကချင်၊ ရခိုင် ကိုယ်စားလှယ်များ ဆွေးနွေးပွဲသို့ ဦးဝမ်းသူမောင်နှင့် ဦးအောင်ခင်တို့တက်ရောက်သည်။ ထို့အစည်းအဝေးကျင်းပပြီးနောက် ဝမ်းသူမောင်ကို ချင်းတောင် အနှံ့တွင် ခရီးသွား၍ ဖဆပလအဖွဲ့ချုပ်၏ အဖွဲ့ ခွဲ ဖွဲ့စည်းကာ လွတ်လပ်ရေးရဘို့ရန် စည်းရုံးလှုပ်ရှားခဲ့သည်။ စည်းရုံးရေးကို

ပြည်သူလူထုက ထောက်ခံ၍ ၁၉၄၆ ခုနှစ်၊ ဇန်နဝါရီလတွင် ပင်လုံညီလာခံမှာ တက်ရောက်မည့် ချင်းကိုယ်စားလှယ်များ အုပ်ပိုင်းထဲမှ ရွေးချယ်၍ စကားပြန်မည့်သူများလည်း ရွေးချယ်ခဲ့ သည်။ ပင်လုံစာချုပ်အရ မြန်မာပြည်မနှင့် ချင်း၊ ကချင်၊ ရှမ်း၊ ကရင်နီလည်း ပါဝင်သွားပြီဖြစ်၍ ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေလည်း ထိုဒေသများအတွက် အကျုံးဝင်ပါသည်။ သို့သော်ထို ဖွဲ့စည်းပုံအခြေခံဥပဒေကို လွတ်လပ်ရေးရပြီး ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်မှစ၍ အတည်ပြုသုံးခဲ့ပါသည်။ ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ (၁၂) ရက်နေ့တွင် ချင်းကိုယ်စားအုပ်ပိုင်း(ဇော်ဘွား) သုံးဦးဖြစ် သော ပိုကီးယိုမန် –ဟားခါးနယ်၊ ပိုလျှလ်မုန် –လုမ်ဘမ်း–ဖလမ်းနယ်၊ ပို ထောင်းဇခုပ် – ဆိုင်းဇံ–တီးတိန်နယ်တို့က ပင်လုံစာချုပ် လက်မှတ်ရေးထိုးခဲ့ကြသည်။ အုပ်ပိုင်း(ဇော် ဘွား)ကို ZOMI စကားဖြစ်၍ ရှမ်းက စဝ်ဖ၊ ကယားက စော်ဖျား၊ ကချင်က ဒူးဝါးဟုခေါ်၍ စော်ဘွားများ အုပ်ချုပ်သော နယ်မြေများကို ပဒေသရာဇ်ဖြင့် အုပ်ချုပ်ခဲ့သည်။ ချင်းတောင်တန်းတွင် ပထမဦးဆုံး ဖဒရယ်စနစ် ကောင်စီကို Tlaisun လူမျိုးများက ၁၆၅၀ ခန့်က စတင် ကျင့်သုံးခဲ့သည်။ ချင်းတောင်တန်း ဟားခါး နယ်တစ်ချို့နှင့် ယခု ဖလမ်းခရိုင်အားလုံး အုပ်ချုပ်၍ ဘုရင်တစ်ပါးလိုဖြစ်သည်ဟု ဆိုပါမည်။

ဤရွေးချယ်ကျင်းပသော အစည်းအဝေးပွဲကို ဖလမ်းမြို့၌ ကျင်းပသည်။ ဘုရင်ခံချုပ်က တောင်တန်းဒေသများ ညွှန်ကြားရေး မှူးချုပ် Mr. Stevensonကို ညွှန်ကြား၍ ခရိုင်ကော်မီရှင်နာ ဦးသိမ်းမောင်က ဦးစီးကွပ်ကဲသည်။ ပင်လုံပထမအစည်းအဝေး တက်ရောက်ရန် ချင်းကိုယ်စားလှယ်များအဖြစ် အုပ်ပီးပိုကီးအိုမန် (Hakha)၊ ပိုလူ့လ်မှုန် (Lumbang-Falam)၊ ပိုပုမ်းဇမန် (Tonzang-Tedim) တို့ကို ရွေးချယ်ခဲ့သည်။ စကားပြန်သူအဖြစ် Pu Kawl Sum က ရွေးချယ်ခဲ့ သည်။ ၁၉၄၆ ခုနှစ်၊ မတ်လ ၂၀-၂၈ ရက်အထိ ပင်လုံပထမအကြိမ် အစည်းအဝေး၊ ဒုတိယအကြိမ် အစည်းအဝေး ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်မှ ၁၂ ရက်နေ့အထိ ကျင်းပ၍ စကားပြန်သူအဖြစ်ပိုဝမ်းကိုဟော (Vum Khaw Hau) ရွေးချယ်ခြင်း ခံရသည်။ ပထမအကြိမ်အစည်းအဝေး၌ ပိုပုမ်းဇမန် ပါဝင်ခဲ့သော် လည်း ဒုတိယအစည်းအဝေး၌ ကျန်းမာရေးကြောင့် မတက်ရောက် ခဲ့ပါ။ ထို့ကြောင့် ချင်းကိုယ်စား သုံးယောက်ထဲမှ ပိုထောင်းဇခုပ် (Sukte Tribal Chief-Saizang Tedim) က လက်မှတ်ရေးထိုး ခဲ့ခြင်းဖြစ်သည်။ ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ (၁၂)ရက်တွင် ကချင်၊ ချင်း၊ ရှမ်းကိုယ်စားများနှင့် မြန်မာပြည်မ ကိုယ်စား ဗိုလ်ချုပ်အောင် ဆန်းက သဘောတူ လက်မှတ်ရေးထိုး၍ ၁၉၄၈ ခုနှစ်၊ ဖေဖော် ဝါရီလ(၄)ရက် နေ့တွင် လွတ်လပ်ရေးရသည်။

## က–က ပထမအကြိမ်ပင်လုံအစည်းအဝေး

၁၉၄၆ ခုနှစ်၊ မတ်လ ၂၀–၂၈ ရက်နေ့အထိ ကျင်းပ၍ ရှမ်း၊ ချင်း၊ ကချင်ကိုယ်စားလှယ်များ တက်ရောက်ခဲ့သည်။ ချင်းနှင့် ကချင်ကိုယ်စားလှယ်များအတွက် ပထမအကြိမ်ဖြစ် သော်လည်း၊ ရှမ်းစော်ဘွားများကို ၁၉၄၆ ခုနှစ်၊ မတ်လ ၁၉ ရက်တွင် သီးခြား ကျင်းပခဲ့ပြီးဖြစ်သည်။ ဤအစည်းအဝေးတွင် ဖဆပလ အဖွဲ့ချုပ် ဒု–ဥက္ကဋ္ဌ ဦးနု၊ ဦးစော (ဂဠုန်ဦးစော မိုလ်ချုပ်လုပ်ကြံသူ) Mr. Steven Son လည်း တက်ရောက်ခဲ့ပါသည်။ ၁၉၄၆ ခုနှစ်၊ မတ်လ (၁၉)ရက်နေ့တွင် မြန်မာပြည်မနှင့် တောင်တန်းဒေသများ ပူးပေါင်းရေးကော်မီတီအဖွဲ့အစည်းအဝေး၌ ဖွဲ့စည်း၍ ဥက္ကဋ္ဌအဖြစ် စဝ်ရွှေသိုက် (ပထမဆုံးသမ္မတ)ကို ရွေးချယ်ခဲ့သည်။ ချင်းကိုယ် စားလှယ် ပိုလှူလ်မှုန်းက Rs.50 အဖွဲ့ဝင်ငွေ (India) ထည့်ဝင်ခဲ့သည်။ ကချင်ခေါင်းဆောင်လာမ်ဇော်ထောင်လည်း ပါဝင်သည်။

### ၁။ ချင်းကိုယ်စားလှယ်အုပ်ပိုးများ (၃) ယောက်

(က) ပိုကီးအိုမြန် –Hakha Tribal Chief Hakha -Hakha

(ခ) ပိုလှူလ်မှုန်း –Lumbang Tribal Chief-Lumbang - Falam

(ဂ) ပိုပုမ်းဇမန် –Tedim (Kam Hau) Tribal Chief - Tonzang - Tedim

## ၂။ ပညာအရည်အချင်း နှင့် အုပ်ချုပ်သည့်နယ်မြေ

(က) ပိုကီးအိုမန်သည် ပညာအရည်အချင်းမှာ မြန်မာစာ–အင်္ဂလိပ်စာ ၇ တန်းကို ၁၉၁၂ ခုနှစ်မှ အောင်မြင်ခဲ့သည်။ HaKha နယ်ကို အုပ်ချုပ်ခဲ့သည်။

(ခ) ပိုလှူလ်မှုန် (A.T.M) သည် ဖလမ်းမြို့ အလယ်တန်းကျောင်းမှ ၁၉၁၂ ခုနှစ်တွင် ၇ တန်းအောင်မြင်ခဲ့သည်။ ၁၉၁၄ ခုနှစ်မှစ၍ Zaniat, Tapong, Ngawn, Lunghawh နှင့် Lumbang မျိုးနွယ်စု (၅)မျိုး အုပ်ချုပ်ခဲ့သည်။ ၁၉၁၈–၁၉၁၉ ပြင်သစ်နိုင်ငံသို့ သွားသည်။

(ဂ) ပိုပုမ်းဇမန် (K.S.M., A.T.M) သည် ၁၉၁၅–၁၉၁၈ ခုနှစ်အထိ စစ်ကိုင်းမြို့၌ ကျောင်းတက်၍ ၇ တန်းအောင်မြင်ခဲ့သည်။ Tonzang မြို့မှာ ရုံးစိုက်၍ Zo, Thado နှင့် Kam Hau မျိုးနွယ် (ယခု Tedim ) များကို အုပ်ချုပ်ခဲ့သည်။

ချင်းကိုယ်စားလှယ် အုပ်ပိုင် (Chief) များသည် ထိုခေတ်အခြေအနေအရ ပညာအရည်အချင်းမနိမ့်ပါ။ ထိုခေတ်တွင် ၇ တန်းအောင်အဆင့် ရှိသူများက အင်္ဂလိပ်စကားလည်း ကျွမ်းကျင်၍ မြန်မာစကားမကျွမ်းသော်လည်း ရေးတတ်ဖတ် တတ်သည်။ ဗိုလ်ချုပ်အောင်ဆန်းနှင့် ပြေလည်ချောမောစွာ စကားပြောရန်

စကားပြန်သူကို ရွေးချယ်ခြင်းသာ ဖြစ်သည် ဟု သိရသည်။ လူတစ်ချို့က အုပ်ပိုင်းများကို အပြစ်တင်၍ သူတို့ဘာမှမသိ၊ နားမလည်၊ သူတို့ကြောင့် လွတ်လပ်ရေးရသော်လည်း မတိုးတက်ဟု ဝေဖန်သည်။ မတိုးတက်တာသူတို့ကြောင့် မဟုတ်ဘူး။ ယခုခေတ် လူငယ်များကြောင့်ဟု ယူဆသည်။ သူတို့ ဆုံးသွားခဲ့ပြီမဟုတ်ပါ လား၊ ဖွံ့ဖြိုးတိုးတက်ခြင်းကို အလုပ်ကြိုးစားမည်။ လုပ်မှ ရမည်။ ရပြီးမှ လုပ်မည် မဟုတ်ဘူး။

## ၃။ စကားပြန်သူ

ပထမပင်လုံအစည်းအဝေး၌ စကားပြန်သူအဖြစ် လိုက်ပါလာသူအမည်စာရင်းကို အောက်ပါအတိုင်း စာရေးသူများက တမျိုးစီရေခဲ့သည်။

၁။Pu Tual Khaw Mang က Pu Kawl Sum -Tai Kwal က လိုက်ခဲ့သည်ဟု ရေးသည် (Sukte Chronicle, XV, 2005. P.23)

၂။Gamngai 21st Century စာအုပ်မှ Pu Van Thang ဟု ရေးသည်။ စကားပြန်သူ Pu Kawl Sum က Falam စကားသုံးခဲ့လျှင် ထိုခေတ်၌ Tlaison မျိုးနွယ်အုပ်ချုပ်သော လက်အောက်မှ Falam နယ်တစ်ခုလုံး၊ Falam နယ်စော်ဘွား Zahau (Khuang Cheu, Van Nawl) လက်အောက်မှာ Tedim နယ်အဆင့်ဆင့်အုပ်ချုပ်ခဲ့သည်။ ထို့ကြောင့် Pu Kawl Sum နှင့် ချင်းကိုယ်စားလှယ် ၃ ယောက်တို့

ဖလမ်းစကား (Laizo/ Zahau) နှင့် သော်လည်းကောင်း၊ အင်္ဂလိပ် စကားနှင့်သော်လည်းကောင်း အတင့်အတင့်စကားပြော လို့ရမည်ဟု ယူဆပါသည်။

အထက်ပါ အုပ်ပီးသုံးယောက်လိုက်ခဲ့သော Pu Kawl Sum ဓာတ်ပုံကို TonZang Golden Jubilee Magazine, ၂၀၀၀) ပါရှိခဲ့သည်။ တစ်ချို့က Pu Pum Za Mang ကို Thawng Za Khup ဟု ရေးမှားခဲ့သည်။

**ခ – ခ။ ဒုတိယအကြိမ်ပင်လုံညီလာခံတက်ရောက်မည့်သူများ ရွေးချယ်ခြင်းနှင့် ပြင်ဆင်ခြင်း အစည်းအဝေး**

၁၉၄၆ ခုနှစ်၊ ဧပြီလ (၂)ရက်နေ့တွင် ဖလမ်းမြို့၌ လူထု ဆန္ဒခံယူပွဲ အစည်းအဝေးကျင်းပခဲ့ပါသည်။ ဒုတိယပင်လုံအ စည်းအဝေးတက်ရောက်မည့်သူ ကိုယ်စားလှယ် (၁) ပိုကီးအိုမန် (၂) ပိုလူလ်းမှုန် (၃) ပိုပုမ်းဇာမန်တို့လည်း တက်ရောက်၍ လူထုတို့၏ ဆန္ဒကို ယူကာ အချက်များကို စုစည်းသည်။

ချင်းလူထုကိုယ်စားလှယ်များနှင့် တွေ့ဆုံပြီး မြန်မာပြည်မှနှင့် ပူပေါင်း၍ လွတ်လပ်ရေးယူရေး၊ မယူရေးကိစ္စကို ဆွေးနွေးကြသည်။ အောက်ပါအချက် (၄)ချက်ကို သဘောတူညီမှုရခဲ့သည်။

(၁) လောလောဆယ်တွင် ဘုရင်ခံ၏ တိုက်ရိုက်အုပ်ချုပ်မှု အောက်တွင် နေရန်၊

(၂) တိုင်းရင်းသားညီအစ်ကိုများဖြစ်သည့် ရှမ်း၊ ကချင်တို့နှင့် လက်တွဲ၍ ချစ်ခင်ရင်းနှီးစွာ ပူးပေါင်းဆောင်ရွက်သွားရန်၊

(၃) ပင်လုံအစည်းအဝေး ၁၉၄၆ ခုနှစ်၊ မတ်လ ၂၀-၂၈ ရက်မှာ ဖွဲ့စည်းခဲ့သည့် မြန်မာတိုင်းရင်းသားများ ယဉ်ကျေးမှုအသင်းတွင် ချင်းတို့ကလည်း အဖွဲ့ဝင်အဖြစ် ပါဝင်ရန်၊

(၄) ချင်းလူထုသည် ယခုထက်ပို၍ နိုးကြားလာကာ မိမိတို့အရေးကို မိမိကိုယ်တိုင် စီမံဆောင်ရွက်နိုင်သည့် အချိန်ရောက်လျှင် ဗြိတိသျှတို့၏ မြန်မာပြည်ဆိုင်ရာ စက္ကူဖြူစာတမ်းနှင့် ပင်လုံအစည်းအဝေး (ပထမ-၁၉၄၆)တွင် ဖတ်ကြားသည့် ဘုရင်ခံ၏ အမိန့်တို့တွင် ဖော်ပြထားသည့်အတိုင်း ပြည်မနှင့် ပူးပေါင်းရေး၊ မပူးပေါင်းရေးစဉ်းစားရန်၊

အထက်ပါ အချက်နံပါတ် (၄) ကို လူထုကိုယ်စား တီးတိန်ကိုယ်စားပြုသူ (၁၅)ဦး၊ ဖလမ်းကိုယ်စားပြုသူ (၆) ဦးနှင့် ဟားခါးကိုယ်စားပြုသူ (၂၉)ဦးတို့က လက်မှတ်ရေးထိုး၍ တောင်တန်းဒေသအုပ်ချုပ်ရေးဌာနသို့ ပေးပို့ ခဲ့ကြပါသည်။ တီးတိန်း၊ ဖလမ်း၊ ဟားခါးကိုယ်စားများသာဟု ဆိုသော်လည်း ချင်းကိုယ် စားပြုဟု

ဆိုရမည်။ တောင်းပိုင်းချင်းလူမျိုးများကို ဦးဝမ်းသူမောင်က စည်းရုံးခဲ့ပြီးပြီဖြစ်သည်။ သူသည် အဓိကလမ်းဖွင့်ပေးသူလည်း ဖြစ်သည်။

## ၈ – ၈။ ဒုတိယအကြိမ်ပင်လုံ ညီလာခံအစည်းအဝေး တက်ရောက်သော ချင်းကိုယ်စားလှယ်များ

ဒုတိယပင်လုံညီလာခံအစည်းအဝေးကို ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၇–၁၂ရက်နေ့အထိ ကျင်းပခဲ့သည်။ ချင်းကိုယ်စားလှယ်၊ ကချင်ကိုယ်စားလှယ်၊ ရှမ်းကိုယ်စားလှယ်များနှင့် မြန်မာပြည်မ ကိုယ်စားလှယ်များလည်း ဗိုလ် ချုပ်အောင်ဆန်းနှင့် တက်ရောက်ခဲ့ပါသည်။

**ရှမ်း၊ ချင်း၊ ကချင် တို့သဘောတူညီချက် (၃) ရပ်**

ကချင်အမျိုးသားခေါင်းဆောင် ဆမားဒူးဝါး ဆင်ဝါးနောင်က ရှမ်း၊ ချင်း၊ ကချင် ကိုယ်စားလှယ်များနှင့်တွေ့ဆုံ၍ အောက်ပါအချက် (၃) ရပ်ကို အဆိုတင်သွင်း သဘောတူလက်မှတ်ရေးထိုးခဲ့သည်။

(၁)တောင်တန်းဒေသများအားလုံး မြန်မာပြည် ပြည်မနှင့်အတူတကွ တပြိုင်တည်း လွတ်လပ်ရေးယူရန်၊

(၂) ရှမ်း၊ ချင်း၊ ကချင်ပြည်နယ်များ ဖွဲ့စည်းရန်၊

(၃) ထိုနောက်ပြည်ထောင်စုဖွဲ့စည်းရန် ဖြစ်သည်။ (ညွှန်း– ရန်ကုန်တိုင်းမ်– နိုင်ဝင်ဘာ ၂၁–၂၇၊ ၂၀၁၃၊ စာ ၁၄)။

ကရင်ကိုယ်စားလှယ်များ အစည်းအဝေးတက်ရောက် နောက်ကျခြင်း အကြောင်းရင်းမှာ ရန်ကုန်မြို့၌ ကရင်အမျိုးသား ညီလာခံတွင် KNU/O ဖွဲ့စည်းလိုက်သောကြောင့် ဖြစ်သည်။ ကရင်အမျိုးသားအဖွဲ့ချုပ်မှ ဦးလှဖေ၊ စောစံကော၊ စောဝီရီကျော်နှင့် စောချစ်တီးတို့ ပင်လုံညီလာခံသို့ နောက်ကျပြီး ရောက်လာကြသည်။ ၎င်းတို့၏ တာဝန်မှာလည်း ညီလာခံ၌ ပါဝင်ဆွေးနွေးရန် မဟုတ်ဘဲ လေ့လာသူများအဖြစ် တက်ရောက်ရန်သာ ဖြစ်သည်။ တောင်တန်းဒေသအုပ်ချုပ်ရေးနယ်အတွင်း မပါသော (Excluded Areas) ကရင်နီနယ်မှ စောဝဏ္ဏနှင့် စောသိန်းတို့လည်း လေ့လာသူအဖြစ် တက်ရောက်ခဲ့ကြပြီဖြစ်သည်။ (ညွှန်း–တိုင်းရင်းသား လူမျိုးများ အရေးနှင့် ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ၊ ၁၉၈၉ စာ–၂၆၅)။

## ၁။ ချင်းကိုယ်စားလှယ် (၃) ဦးက သဘောတူလက်မှတ်ရေးထိုး

(၁) Pu Kio Mang - Hakha

(၂) Pu Hlur Hmung - Lumbang - Falam

(၃) Pu Thawng Za Khup - Saizang - Tedim Sukte Chief

Pu Kio Mang, Pu Hlur Hmung နှင့် Pu Pum Za Mang တို့အကြောင်း ရှင်းပြခဲ့ပြီး Pu Pum Za Mang ကျန်းမာရေးကြောင့် မတက်ရောက်နိုင်သဖြင့် Pu Thawng Za Khup ဒုတိယအကြိမ်ပင်လုံ

အစည်း အဝေးနှင့် ပင်လုံစာချုပ်တွင် ချင်းကိုယ်စားလှယ်လက်မှတ် ထိုးသူတစ်ယောက်အဖြစ် ပါဝင်ခဲ့သည်။ ၁၉၂၇ ခုနှစ် မော်လိုက်မြို့ အထက်တန်းကျောင်း၌ ၇ တန်း အောင်မြင်ခဲ့ပါသည်။

ပင်လုံစာချုပ်မှာ လက်မှတ်ရေးသော သူများကို လူအချို့က လူမျိုးနွယ်စုများ၏ ကိုယ်စားလှယ်မှ ရွေးချယ် ခြင်းဟု ယူဆသော လူအချို့ရှိပါသည်။ ယခု မြန်မာနိုင်ငံသားချင်းလူမျိုးနွယ်ဝင် ၅၃ မျိုးများ (ကသည်း/ Meitei နှင့်နာဂါးလူမျိုးများအပါအဝင်) ကိုယ်စားလှယ်အဖြစ် လက်မှတ်ရေး ထိုးခဲ့ခြင်းဖြစ်သည်။ ပါတီနှင့် အဖွဲ့အစည်းတစ်ခုခု ကိုယ်စားသော် လည်းကောင်း လုံးဝမဟုတ်ပါ။ အမျိုးသား (National) ကိုယ်စား အုပ်ပီး (Ukpi) သုံးယောက်က သဘောတူလက်မှတ် ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၂)ရက်နေ့တွင် ကချင် (၆)ယောက်၊ ရှမ်း(၁၃) ယောက်၊ ချင်း (၃)ယောက်၊ မြန်မာ ပြည်မ ကိုယ်စားလှယ် ဗိုလ်ချုပ်အောင်ဆန်းက လွတ်လပ်ရေးအ တူတကွ ရယူရန် သဘောတူ လက်မှတ်ရေးထိုးခဲ့ပါသည်။

**၂။ စကားပြန်သူ**

(၁) Pu Tual Khaw Mang က Pu Vum Khaw Hau

(၂) Pu Cin Khen Zam က Dr. Vum Khaw Hau, Pu Savuta နှင့် Pu Ngun To ဖြစ်သည်ဟု ရေးသည်။ Pu Tual Khaw Mang က အဖေ Pu Thawng Za

Khup ကို ပင်လုံအစည်းအဝေး ဒုတိယအကြိမ်၌ လိုက်ခဲ့သည်ဟု ဆိုခဲ့သဖြင့် သူက နားလည်အသိဆုံးဖြစ်မည်ဟု ယုံကြည် လက်ခံသည်။ ၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ ရက်တွင် Pu Tual Khaw Mang အသက်အရွယ်တိကျမသိရသော်လည်း သူ့အဖေ ၁၉၂၇ ခုနှစ်မှာ ၇ တန်းအောင်သည်ဟု သိရသောကြောင့် ၁၉၂၅ မှ ၁၉၄၇ ကို အနှစ် ၂၂ ရှိသည်။ ထို့ကြောင့် Pu Tual Khaw Mang ၁၉၄၇ ခု ပင်လုံ အစည်းအဝေး၌ အသက်အရွယ်အနည်းဆုံး ၁၆ နှစ်မှ ၁၈ နှစ်အရွယ်လူပျိုဖြစ်မည်ဟု ခန့်မှန်းလို့ရသည်။

**ဃ - ဃ။ နာမည်ကျော်စကားပြန် ဦးဝမ်းကိုဟော နှင့် ပင်လုံစာချုပ်**

ဦးဝမ်းကိုဟော (ခ) ဗုမ်းခေါ်ဟောက် (Dr. Vum Khaw Hau ဆုံး) ဗိုလ်ချုပ်အောင်ဆန်း၏ ကာဗီနက်မီနီစတာ (Cabinet Minister) ဟောင်း၊ ချင်းရေးရာဝန်ကြီး–ဒု အတိုင်ပင်ခံဟောင်း (Duputy Councillor) နှင့် သံအမတ် ဟောင်းတစ်ယောက် ဖမ်းခရိုင် Commissioner ရုံး အငယ်တန်းစာရေးနှင့် လက်ရေးတိုစာရေး (Stenographer) ဝန်ထမ်းဟောင်းလည်း ဖြစ်သည်။ သူ့ကိုယ် ရေးရာဇဝင်အကျဉ်းမှာ ပင်လုံစာချုပ် လက်မှတ်ရေးထိုးခဲ့ ဟန်ရှိသလို မှတ်တမ်းတင်ခဲ့သည်ကို တွေ့ရှိ၍ သူ့စာအုပ်ကို စာရေးသူတစ်ချို့က ညွှန်း၍ မြန်မာပြည်ဂျာနယ်နှင့် စာအုပ်တစ်ချို့တွင်ပါသည်ကို တွေ့ရ

သည်။ ထို့ကြောင့် တစ်ဘက်မှ တချို့စာရေးသူများအမြင်ကိုလည်း ဖော်ပြ၍ ပင်လုံအစည်းအဝေးနှင့် စာချုပ်အကြောင်း ဒေါက်တာ ဗုမ်းခေါ်ဟောက်နှင့် ပတ်သက်ခိုင်လုံသော အခြားစာအုပ်ကိုး ကား၍ ရှင်းပြလိုပါသည်။ ပုဂ္ဂိုလ်ရေးအရ ဒေါက်ဗုမ်းခေါ်ဟောက် ဂုဏ် သိက္ခာကျအောင် ရည်ရွယ်ခြင်း မဟုတ်ပါ။ လာမည့် အနာဂတ် ကာလတွင် ချင်း သမိုင်းအမှန်၊ မြန်မာ့သမိုင်းအမှန်သိစေ လိုကြောင့်သာဖြစ်သည်။

**၁။ ပင်လုံစာချုပ်လက်မှတ်ရေးထိုးသူ ချင်းကိုယ်စားလှယ် (၃) ယောက်**

**(က–က)** Pu Zahre Lian ၏ မှတ်တမ်း (ချင်းရေးရာဝန်ကြီးချုပ် ဟောင်း သံအမတ်ကြီးဟောင်း (ဆုံး))မှာ– “ ၁၉၄၇ ခုနှစ်မှာ ချင်းတောင်တန်းခရိုင်၊ ဖလမ်းမြို့ ကောမီရှင်ရုံးမှာ ကော်မီရှင်နာ မရှိ၍အရေးပိုင် (Assistant Superintendent) ဦးထောင်းကျော့ထန်က ပူးတွဲတာဝန် ယူခဲ့သည့်အချိန်ဖြစ် သည်။ သူ၏ရုံးစာရေးအငယ်တန်းနှင့် လက်ရေးတိုစာ ရေး ဦးဝမ်းကိုဟောကို ဦးထောင်း ကျော့ထန်၏ ခွင့်ပြုချက် (ခွင့်ပေးမှုသာ)ဖြင့် ပင်လုံ အစည်းအဝေးချင်းကိုယ်စား လှယ်များ၏ စကားပြန်အ ဖြစ်လိုက်ပါခဲ့သည်ဖြစ်သည်” ဟုရေးသည်။အင်္ဂလိပ်စာဖြင့် အောက်ပါအတိုင်းဖြစ်သည်။

"Vum Khaw Hau was selected to be the interpretered in Panlone Conference for the Chiefs at the meeting Gen Aung San. Vum Khaw Hau was Lower Divison Clerk and Stenographer at the office of the Deputy Commissioner. Naturally Thawng Cin Thang granted a leave of absence to Vum Khaw Hau to travel to the Panlone meeting. (Rev. Dr. Stephen Hre Kio, Zahre Lian of Burma, Chiang Mai, Wanide Press, 2000, 2nd Edition, p.53 )

**(ခ – ခ) Robert Siang Lian က**

" In accordiance with the instructions of the Governor to the Frontier Areas administrative Officer Pul Hlur Hmung of Falam, Pu Kio Mang of HaKha and Chief Thawng Za Khup of Sai Zang-Tedim (Representatived of Kam Hau Tribal Chief Pum Za Mang) were Selected by the Dupty Commissioner of Falam to reprensent Chins at Panlone Second Conference. (No.1. Telim B.E.H.S, 1948-1948 p. 576).

ပင်လုံအစည်းအဝေးသို့ ဦးဝမ်ကိုဟောသည် ချင်းကိုယ်စား လှယ်များ၏ စကားပြန်အဖြစ် လိုက်သွားခြင်းသာဖြစ်သည်။

**(ဂ – ဂ) ဦးထွန်းအောင်ချိန်က အောက်စာခြေ (Footnote)မှာ–**

(၁) စာချုပ်မူရင်းတွင် စမားဒူးဝါးဇော်လ ကချင်ကိုယ်စားလှယ် အမည်ပါသော်လည်းသူ၏လက်မှတ်မပါဟုဖော်ပြပါသည်။

(၂) ပင်လုံအစည်းအဝေး၌ တက်ကြွစွာ ပါဝင်သော ဦးဝမ်းကိုဟောသည် အစိုးရဝန်ထမ်းဖြစ်နေပါသဖြင့် တင်းကြပ်သော ကိုလိုနီဝန်ထမ်းစည်းကမ်းအရ ထိုစဉ်က လက်မှတ်မရေးထိုးရဘဲ နောက်တစ်လခန့်ကြာမှ လက်မှတ်ရေးထိုးခဲ့သည်ဟု ဦးဝမ်းကိုဟော (Vum Ko Hau)၏ကိုယ်ရေးရာဇဝင် အကျဉ်းကို ညွှန်း၍ ပြန်လည်ဖော်ပြခဲ့သည်။ (တိုင်းရင်းသားလူမျိုးများ အရေးနှင့် ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ ၁၉၈၉ စာ–၂၀၁) ကို ဖော်ပြသောစာကို တရားဝင်စာအုပ်မဟုတ် ဦးဝမ်းကိုဟော ကိုယ်တိုင်ရေးသော ကိုယ်ရေး ရာဇဝင် အကျဉ်း” စာအုပ်ကို ကိုးကား၍ စာပိုဒ်၏ အောက်ဆုံး စာခြေတွင် ရေးသားဖော်ပြခြင်းသာဖြစ် သည်ဟု ဆိုရမည်။ ပင်လုံစာချုပ်မူရင်းစာမိတ္တူမှာလည်း ဦးဝမ်းကိုဟော နာမည်မပါတာကို စာဖတ်သူများ (လူတိုင်း)သိသည်ဖြစ်သည်။ သမိုင်းအမှန်ကို သိရက်သားနှင့် လူတစ်ယောက်၏ မျက်နှာကို ကြည့်ပြီး အမှားကိုအမှန်ကဲ့သို့ အားနာလို့ မရေးသင့်ပါ။ သမိုင်းအမှန်ကိုဖုံးကွယ်ခဲ့လျှင် အနာဂတ်မှာ လူငယ်အကြား ပြဿနာဖြစ်ပေါ်လာမည် သေချာသည်။

**(ဃ-ဃ)** **Salai Van Cung Lian က –**

“ ဗိုလ်ချုပ်အောင်ဆန်းသည် ဦးဝမ်းကိုဟောကို ဗြိတိသျှ အစိုးရအမှုထမ်းအဖြစ်မှ နုတ်ထွက်၍ ချင်းရေးရာ ဝန်ကြီးအဖြစ် အရွေးခံပြီးမှ လက်မှတ်ရေးထိုးရန် အကြံပေးသည်။ ဗိုလ်ချုပ်အောင်ဆန်း အကြံပေးသည့် အတိုင်း ချင်းရေးရာ ဝန်ကြီးအဖြစ် အရွေးခံရပြီး ၁၉၄၇ ခုနှစ် မတ်လ (၂၁)ရက်နေ့တွင် ဗိုလ်ချုပ်အောင်ဆန်း ရှေ့မှာ ပင်လုံစာချုပ် လက်မှတ်ရေးထိုးခဲ့သည်ဟု ဖော်ပြသည်။ (ChinWorld Journal, Vol. 1, No.11, 2013, P 10, 11) ဤစာပိုဒ်ကို ကြည့်သောအခါ ၁၉၄၇ ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်မှ ၁၉၄၇ မတ်လ ၂၁ ရက်နေ့အကြား ဖြစ်ပျက်ခဲ့သော ကိစ္စဖြစ်သကဲ့သို့ ၁၉၄၇ မတ်လမှာပင် တိုင်းပြည်လွှတ်တော် ကိုယ်စားလှယ်ကို ရွေးချယ်ခဲ့ပါသည်။ ဦးဝမ်းကိုဟောချင်းရေးရာဝန်ကြီး မဟုတ်ပါ။ တောင်တန်းဒေသ အုပ်ချုပ်ရေးဆိုင်ရာဌာန ဝန်ကြီး – ဒု–တိုင်ပင်ခံဝန်ကြီး (သို့) ဗိုလ်ချုပ်ကာဗီနက် မီနီစတာ ခေါ် ပြည်ထောင်စုဝန်ကြီးဖြစ်သည်။ ၁၉၄၇ ခုနှစ် မတ်လ ၁ ရက်နေ့မှစပြီး တောင်တန်းဒေသရေးရာ ဌာန ဝန်ကြီးကို စစ်ရွှေသိုက်–ရှမ်း (ပထမဆုံးသမ္မတ)

ကချင်အတိုင်ပင်ခံ ကောင်စီဝင် ဆာမားဒူးဝါးဆင်ဝါးနောင် ဖြစ်၍ ချင်းအတိုင်ပင်ခံ ကောင်စီဝင် ဦးဗုမ်းခေါ်ဟောက်နှင့် ဒု–ဝန်ကြီး ဟုဆိုရမည်။ ကြားဖြတ်အစိုး ရအဖွဲ့ဟုလည်း ခေါ်သည်။ Cung Lian ရေးသားသော စာကြောင်း တစ်ချို့ကို ပြန်လည် ရှင်းပြလိုပါသည်။ ဗိုလ်ချုပ်အောင်ဆန်းရှေ့မှာ ပင် ပင်လုံစာချုပ် သဘောတူ လက်မှတ်ရေးထိုးခြင်းကို ရှေ့နောက်ဆက်စကား မသုံးသပ်လို့ ဖြစ်မည်ဟု ယူဆပါသည်။ မီဒီယာမှာလည်း အယ်ဒီတာများ အားနည်းချက်ကြောင့် သမိုင်းအမှန်ကို အမှားဖြစ်စေတတ်သည်။ ပင်လုံစာချုပ် လက်မှတ်ရေး ထိုးခြင်းကို ဗိုလ်ချုပ်အောင်ဆန်းတစ်ယောက်နှင့် လူတစ်ယောက်က သဘောတူ၍ ရေးထိုးနိုင်တဲ့ စာချုပ်မျိုး မဟုတ်ပါ။ ထိုသို့သာမကဘဲ ဦး ဗုမ်းခေါ်ဟောက်နှင့် ပင်လုံစာချုပ်သဘောတူလက်မှတ် ရေးထိုးခြင်းကို သူနှင့် မဆိုင်သောကိစ္စမလုပ်သင့်သောအလုပ် ဖြစ်သည်။ သူက စကားပြန်အဆင့်သာ ချင်းအမျိုး သားကိုယ်စားပြု အုပ်ပိုး (Chiefs) လည်းမဟုတ်ပါ။ သမိုင်းအမှန်ကို အမှန်တိုင်း ရေးရမည်။ ကြားသလောက် တွေ့သလောက် ရေးခဲ့လျှင် စာရေးသူ သေသော်လည်း သူရေးသော စာမှာ မှာတမ်းမှတ်ရာ

အပြစ် ကျန်ရစ်ခဲ့မည် ဖြစ်ရာ သမိုင်းအမှန် အနာဂတ်ကာလတွင် ပြည်လည်ရဘို့ မလွယ်သောကြောင့် သင်ရေးသော စာကို စာနှင့်ပင် ပြန်လည်ရှင်းပြဖို့လိုပါလိမ့်သည်။

ချင်းအမျိုးသားအားလုံး ကိုယ်စားပြု ပင်လုံစာချုပ်သဘောတူလက်မှတ်ရေးထိုးသူများစွာအုပ်ပိုး (စော်ဘွား) သုံးယောက်သာဖြစ်သည်။

## ၂။ ဦးဝမ်းကိုဟော ခုအတိုင်ပင်ခံဝန်ကြီးဖြစ်တဲ့အကြောင်း

**(က–က) Pi Luan Za Cing စာအုပ်မှ –**

၁၉၄၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ ရက် ရက်နေ့တွင် ပင်လုံစာချုပ်ပြီးခဲ့၍ မတ်လတွင် တီးတိန်မြို့နယ်မှ တောင်တန်းဒေသများကောင်စီ (Hill Peoples Supreme Council) အစည်းအဝေးသို့ တက်ရောက်မည့် ကိုယ်စားလှယ်တစ်ယောက်ကို တီးတိန်မြို့ အားကစားကွင်း၌ ပြည်သူလူထုမဲဆန္ဒဖြင့် ရွေးချယ်ခဲ့သည်။ Pu Vum Khaw Hau ကို အုပ်ပိုးများဖြစ်ကြသော Pu Pum Za Mang (Tonzang), Pu Thawng Za Khup (Saizang) နှင့် Pu Thuam ZaMang (Mualbem) က ထောက်ခံ၍ S.T. Hau Go ကို ဆိုင်းဇန်ကျေးရွာ Kham Khaw Tual အဆိုဖြင့် ပြည်သူလူထုက ထောက်ခံခဲ့ပါသည်။ ဗိုလ်မျူး

အွန်းငင်း (Awn Ngin) က ဖလမ်းသို့ နာမည်စာရင်း ပို့တော့မည်။ လူထုက Hau Go ကြိုက်သည်။ အုပ်ပီး စော်ဘွားများက Vum Khaw Hau ကြိုက်သည်ဟု ကျယ်လောင်စွာ အော်ဟစ်သည်။ ဦးဝမ်းကိုဟောက S.T. Hau Go ကို ခင်ဗျားဘုရားသခင်အမှုတော် ဆောင်ခဲ့ပါ။ ငါနိုင်ငံရေးလုပ်ခဲ့မည်ဟုဆိုကာ ဖလမ်းအထိ ဦးသိန်းမောင် (D.C) လိုက်ခဲ့၍ ပင်လုံအစည်းဝေး မှာလည်း တက်ရောက်ခဲ့သည်ဟုဆိုပါသည်။ (S.T.Hau Go Tang Thu သမိုင်း၊ Yangon, 2010. P 135)

ဤစာတမ်းကို ဒုတိယပင်လုံအစည်းအဝေး မတက်ခင်မှာ တောင်တန်းဒေသများ ပူးပေါင်းရေးကော်မီ အစည်းအဝေးရှိသလား။ စာရေးသူလည်း မသိပါ။ သို့သော် အရေးကြီးက Pu Vum Khaw Hau Tedim နယ်စော်ဘွားအားလုံးက ရွေးချယ်ခြင်းကို မိသားစုအမျိုး အနွယ်တူ Sukte မျိုးနွယ်ချင်းဖြစ်သော S.T.Hau Go မရွေးချယ်ခဲ့တာ ဖြစ်ပါသည်။ နိုင်ငံရေး၊ လူမျိုးရေး ခေါင်းဆောင်အတွက် မျိုးတော်၊ ဆွေမျိုးမရွေ့ဘဲ သင့်တော်သူကို ရွေးခြင်းသည် အုပ်ပီး(၃) ယောက်ကို လေးစားချီးကျူးပါသည်။

**(၁ – ၁) Pu Zahre Lian က–**

၁၉၄၇ ခုနှစ် ပင်လုံစာချုပ်အပြီး မတ်လတွင် ဖလမ်းမြို့၌ လူထုဆန္ဒမဲဖြင့် ဦးသိန်းမောင်ဦးစီးသော လူထုဆန္ဒမဲဖြင့် တောင်တန်းရေးရာဝန်ကြီး ဒု–အတိုင်ပင်ခံ ချင်းကိုယ်စားပြုတစ်ယောက်ကို ရွေးချယ်ခဲ့သည်။ စီးဇန်နယ်မှ လူထုများစွာ တက်ရောက်ခဲ့ပါသည်။ Pu Vum Khaw Hau က မဲ – ၈၇၊ Pu Tial Dum က မဲ – ၇ နှင့် Pu Van Thu Mawng မဲ – ၁ ရ၍ Pu Vum Khaw Hau ကို ချင်းအတိုင်ပင်ခံ (Not Counselor, but Deputy Councillor) အကြံပေးပုဂ္ဂိုလ်မဟုတ်၊ ဒေသန္တရ အုပ်ချုပ်ရေးကောင်စီဝင်/ အတိုင်ပင်ခံ ဖြစ်သည်ဟု ရှင်းပြသည်။ Pu Vum Khaw Hau က ဒေသခံ မတူပီး ခရိုင်ခွဲ၏ (Seat) မဲဆန္ဒနယ်ကို အသိမပေးပဲ သုံး၍ ပြိုင်ခဲ့ခြင်းဖြစ်သည်။ အင်္ဂလိပ်စာမှာ " Vum Khaw Hau Offered his Candidacy to represent Matupi Sub-Division without Consulting any member from that region. This misstep in reprensenting Matupi Without their consent cost. Vum Khaw Hau an important role when the Constituent Assembly members later formed Chin Affair Council" (Zahre Lian of Burma, 2000p.80) ' Pi Luan Za Cing ရေးသောအကြောင်းနှင့် ဆက်စပ်ပါသည်။

**(၈ - ၈) Dr. Vum Son က-**

"Dr. Vum Khaw Hau is clevered (very cunning) that instead of offered to Tedim, he offered Hight School to Thuklai, for this reason the next term he lost his condidatecy for M.P (Pyithuh Luat Taw). (ZoHistory, Aizawl,1982) တီးတိန်မြို့မှာ အထက်တန်းကျောင်း ထားမည့်အစား ထုတ်လိုင် (မြို့ ခွဲ)မှာ ထားပေးသော ကြောင့် ဒုတိယရွေးကောက်ပွဲ ရှုံးခဲ့သည်ဟု မှတ်ချက် ပေးသည်။ လွှတ်တော်ကလည်း လူထုအများဆုံး ဆန္ဒမဲမကြည့်ဘဲ သင့်တော်သော ဒေသကြည့်ပြီး ခရိုင်၊ မြို့ မြို့နယ်ခွဲ၊ ကျောင်း၊ ဆေးရုံး ရသင့်ရထိုင်သောနေရာ ကို ပေးသင့်သည်။

**ချင်းအမျိုးသားနေ့နှင့်ချင်းပြည်နယ်နေ့ ထူးခြားချက်**

ချင်းအမျိုးသားနေ့ကို ၁၉၄၈ ခုနှစ် ဖေဖော်ရီလ ၂၀ ရက်နေ့မှစ၍ ချင်းအမျိုးသားနေ့ ဖလမ်းမြို့ ချင်းအာ မျိုးသားညီလာခံ ကျင်းပသည့်အချိန်မှစ၍ သတ်မှတ်ခြင်း ဖြစ်သည်။ ပင်လုံစာချုပ်မှ ဖြစ်ပေါ်လာသောအမျိုးသားနေ့လည်း ဖြစ်သည်။ ချင်းပြည်နယ်နေ့ကို ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ၊ ပုဒ်မ ၁၉၆ကို အခြေခံ၍ ၁၉၇၄ ခုနှစ် ဖွဲ့စည်း ပုံအခြေခံဥပဒေ ပုဒ်မ ၃၀ (ခ)အရ ပုဒ်မ ၃၁ (ဃ)၌ ပြည်ထဲ ရေးနှင့် သာသနာရေးဝန်ကြီးဌာန၏ ၁၀.၄.၁၉၇၄ ရက်စွဲ

စာအမှတ် ၂/၁၉၉/ အထ (၂) ဖြင့် ချင်းပြည်နယ်အဖြစ် သတ်မှတ်ခဲ့သော နေ့ဖြစ်သည်။ ထို့ကြောင့် ချင်းအမျိုးသားနေ့ နှင့် ချင်းပြည်နယ်နေ့တို့သည် ရက်စွဲမတူ၊ အဓိပ္ပါယ်လည်းမတူပေ။ ချင်းအမျိုးသားနေ့ကို ကမ္ဘာပေါ်ရှိ နိုင်ငံအသီးသီးမှာ နေထိုင်သော ချင်းလူမျိုးများနှင့် သက်ဆိုင်သည်။ မဏိပူရပြည်နယ်တွင် ချင်းအမျိုးသား (ကိုကီးချင်း) များက ဖေဖော်ရီလ ၂၀ ရက်နေ့ကို နှစ်စဉ်ကျင်းပသည်။ ချင်းပြည်နယ်ကို ချင်းပြည်နယ်မှာ နေထိုင်သော လူမျိုးများနှင့်သာ သက်ဆိုင်သည်။ CNF က ဒီဇင်ဘာလ ၇ –၉ ရက် ၂၀၁၂ အစိုးရနှင့်သဘောတူညီစာချုပ် (၂၅)ချက် လက်မှတ်ရေးထိုးသောအခါ ချင်းပြည်နယ်နေ့ကို ဇန်နဝါရီလ (၃)ရက်နေ့အဖြစ်အတည်ပြုရန် တောင်းဆိုခဲ့သည်။ CNF က ၁၉၈၈ ခုနှစ် မတ်လ ၃၀ ရက်နေ့တွင် CNF တပ်ဖွဲ့ တည်ထောင်သောကြောင့်ချင်း အမျိုးသားတော်လှန်ရေးနေ့အဖြစ် သတ်မှတ်ခဲ့သည်။ မီးဇိုရမ်ပြည်နယ်တွင် ၁၉၈၇ ခုနှစ်မှ ဖေဖော်ဝါရီ ၂၀ ရက်နေ့ကို ပြည်နယ်နေ့ အဖြစ်သတ်မှတ်၍၊ ၁၉၈၆ ဇွန်လ ၃၀ ရက်နေ့ကို ငြိမ်းချမ်းရေးနေ့ အဖြစ်သတ်မှတ်သည်။ ချင်းပြည်နယ်တွင် ညီအစ်ကို မီးဇို အမျိုးသားကဲ့သို့ စစ်မှန် သော ငြိမ်းချမ်းနေ့ရှမလားလို့ မေးခွန်းထုတ်ချင်ပါသည်။

**နီဂုံး**

ချင်းအမျိုးသားကိုယ်စားလှယ် (၃)ယောက်ဖြစ်သော အုပ်ပီးများ Pu KioMang, Pu HlurHmung နှင့် Pu Thawng Za Khup က ချင်းလူမျိုး ၅၃ မျိုးနွယ်ကွဲ ကိုယ်စားအဖြစ် ပင်လုံစာချုပ်သဘောတူလက်မှတ်ရေးထိုးခြင်းသည် သမိုင်းအမှန်ပင်ဖြစ်သည်။ Dr. Vum Khaw Hau ရေးသော လက်မှတ်ကို သူ့ကိုအစည်းအဝေးမှတ်တမ်းတင်၍ ချင်းအမျိုးသားကိုယ်စားပြုသော ပင်လုံစာချုပ်လက်မှတ် မဟုတ်ဟု ယူဆပါမည်။ ဦးဝမ်းကိုဟောက သူ့ကို Siyin Council နှင့် Chin Leader's Legue ကိုယ်စား ပင်လုံအစည်းအဝေး တက်ရောက်သည်ဟု သူကိုယ်တိုင်ရေးသားသည်။ ၁၉၄၇–၁၉၄၈ အကြား ချင်းအမျိုးသားအားလုံး အဖွဲ့အစည်းကောင်စီသော်ငင်း၊ အဖွဲ့အစည်းအဖြစ် လူမျိုးနွယ်စုကိုယ်စားပြုတစ်ဖွဲ့တောင်မှ ဖွဲ့စည်းရန် ခက်ခဲသော အချိန်ဖြစ်သည်။ ယခုအခါ ပြည်သူလူထု၏ မဲဆန္ဒနယ်မှ ရွေးချယ်ရသော လွှတ်တော်ကိုယ်စားလှယ်များ အမတ်တချို့က မဲရပြီး ပြည်နယ်လွှတ်တော်၊ ဝန်ကြီးရုံးမှာ ထိုင်တဲ့အခါ သူ့ကို ရွေးချယ်တင်မြှောက်သော ပြည်သူလူထုများ မေ့သွားလေသည်။

## ကျမ်းညွှန်း- ကျယ်ပြန့်စွာ လေ့လာလိုသောသူများအတွက်

ဦးထွန်းအောင်ချိန်၊ တိုင်းရင်းသားလူမျိုးများအရေးနှင့် ၁၉၄၇ ဖွဲ့စည်းပုံ အခြေခံဥပဒေ-ပထမတွဲ၊ ရန်ကုန်မြို့ မြန်မာအလင်းပုံနှိပ်တိုက် ၁၉၈၉-စာ ၂၀၁)၊ ဗိုလ်ချုပ်ကြီး စောမောင်အမိန့်အရ သမိုင်းအမှန်ပြန်လည်ထုတ်ဝေသောစာအုပ် ဖြစ်၍ ဦးကျော်ဝင်း၊ ဦးမြသိန်းနှင့် ဦးသိန်းလှိုင်တို့က ပြုစုသည်။ မြန်မာ့သမိုင်း သုတေသနဌာန)။

**Salai Van Cung Lian**, Chin World Journal vol. 1, No. 11, Yangon, 2013, p. 10, 11, Myanmar version.

**Rev. Dr. Steven Hre Kio**, Zahre Lian of Burma, Chiangmai; Manide Press, 2nd Edition. 2000,p.53.

**Robert Siang Lian**, Chin National Day and National Duty; No.1 Tedim B.E.H.S, Golden Jubilee Magazine, 1948-1998, p. 567, 442.

**Dr. Vumson**, Zo History----- Aizawl, 1982.p.

-**Chin** National Day Golden Jubilee Commemorative Magazine, 1948- 1998 Yangon. p. 9, 10).

Zolai

-**Tonzang** Golden Jubilee Magazine,1970-2000. p. 96.

-**Gam Ngai** 21st Centenary Thanksgiving Magazine, Gam Ngai 2008. p. 639.

**Pu Tual Khaw Mang**, Sukte Chronicle, Vol. XV. Yangon. 2011. p. 21.

**Pu Cin Khen Zam**, Sukte Chronicle, VII, Vol. VII, Yangon, 2005. p. 11.

**Pi Luan Za Cing**, ST Hau Go' Tangthu, Yangon, 2010. p. 135

## ၂။ ဗိုလ်မှူးချုပ်အောင်ကြီးက အာဏာသိမ်းဖို့အရေးပါဆုံး ဟုဆို (၁၉၆၂)

၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ဗိုလ်ချုပ်ကြီးနေဝင်း တော်လှန်ရေးကောင်စီက အာဏာသိမ်းယူပြီးနောက် တိုင်းပြည်အား အုပ်ချုပ်ရန် အထက်တန်းတပ်မတော်အရာရှိကြီး ၁၇ ဦးပါဝင်သည့် တော်လှန်ရေးကောင်စီကို ဖွဲ့စည်းလိုက်သည်။ ၁၉၆၂ ခုနှစ် မတ်လ ၇ ရက်နေ့ သတင်းစာရှင်းလင်းပွဲကိုလည်း ဗိုလ်ချုပ်နေဝင်းပြီးလျှင် ဒုတိယအာဏာအရှိဆုံးဖြစ်သည့် ဗိုလ်မှူးချုပ်အောင်ကြီးက အောက်ပါအတိုင်း ရှင်းပြသည်။

"ကျွန်တော်တို့နိုင်ငံများ ဖက်ဒရယ်ကိစ္စကြောင့် စီးပွားရေး၊ ဘာသာရေး၊ နိုင်ငံရေး အကျပ်အတည်းတွေ ပေါ်ပေါက်လာခြင်းဟာ အာဏာသိမ်းဖို့ အရေးပါဆုံး အကြောင်းပဲ၊ မြန်မာနိုင်ငံလို နိုင်ငံငယ်လေး တစ်နိုင်ငံဟာ အကွဲကွဲအပြားပြား ဖြစ်သွားလို့ မရပါဘူး။ ပြည်နယ်တွေအနေနဲ့ ဖွဲ့စည်းပုံအခြေခံဥပဒေက အာမခံထားတဲ့ ကိုယ်ပိုင်အုပ်ချုပ်ခွင့်နဲ့ ပြည်ထောင်စုမှ ခွဲထွက်လိုက်ရင် လွတ်လပ်ရေးသက်တမ်း နုနယ်သေးတဲ့ မြန်မာနိုင်ငံလေးဟာ လာအိုတို့၊ ဗီယက်နမ်တို့လို ဒုက္ခရောက်သွားမှာပဲ။" (ညွှန်း– ရဲသွေးထက်၊ ဦးနု ယုံကြည်ချက်ကို စွဲကိုင်ခဲ့သူ ၂၀၁၃၊ စာ ၁၈၇)။

**၃။ ခွဲထွက်ခွင့်ပြုမှ ခွဲထွက်ခွင့်မပြု ငြိမ်းချမ်းရေးဖော်ဆောင်သို့**

နိုင်ငံတိုင်းတွင် ခွဲထွက်ခွင့်ဥပဒေမပြဌာန်းထားပါ။ ခွဲထွက်ခွင့်မပြုသော်လည်း ခွဲထွက်ခွင့်တောင်း၊ ခွဲထွက်ခွင့်ပြု၍ ခွဲထွက်ခွင့်တောင်း၍မရ၊ ခွဲထွက်ခွင့်ပြုသော်လည်း ခွဲထွက်ခွင့်မတောင်းသောလူနည်းစု နိုင်ငံအသီးသီးမှာရှိနေသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတွင်လည်း ဤကဲ့သို့ခွဲထွက် ခွင့်ဥပဒေပြဌာန်း၍ ခွဲထွက်ခွင့်မပေး ပြည်တွင်းစစ်ဖြစ်ပွား၊ ခွဲထွက်ခွင့်မပြု၊ ဆန္ဒပြဆူပူသောင်းကျန်းမှု၊ ပုန်ကန်မှုရှိသည်။ထိုပြဿနာကိုဖြေရှင်းရန် ငြိမ်းချမ်းရေးဖော်ဆောင်ခဲ့၍ တစ်နိုင်ငံလုံးအတိုင်းအတာဖြင့် ငြိမ်းချမ်းရေးရယူရန် ကြိုးစားနေပါသည်။

နိုင်ငံတော်တည်ငြိမ်ရေး၊ ငြိမ်းချမ်းရေးရဖို့ တကယ်လိုအပ်သောပြဿနာ တိုင်းရင်းသား လက်နက်ကိုတပ်ဖွဲ့ (၁၇)များနှင့် ဦးသိန်းစိန်အစိုးရက ၂၀၁၅ ခုနှစ် မကုန်ခင်မှာဖြေရှင်းနိုင် မလားဟု စဉ်းစားစရာဖြစ်သည်။ လွတ်လပ်ရေးရပြီးမှ ပင်လုံစာချုပ်ပြန်မွေးတာ၊ ငြိမ်းချမ်းရေးဖော်ဆောင်လုပ်ဆောင်တာ စစ်မှန်သောငြိမ်းချမ်းရေးရမှာမဟုတ်ဘူး၊ တိုင်းရင်းသားလက်နက် ကိုင်တပ်ဖွဲ့ (၁၇) တို့က လူနည်းစုများ၊ ပြဿနာ၊ ပါတီခေါင်း ဆောင်များ၊ နိုင်ငံတော်သာသနာပြု (ခေါင်းဆောင်)များ၊ပြည်သူ လူထုသန်း ၆၀ကျော်၏ ငြိမ်းချမ်းရေးကို ဦးသိန်းစိန်အစိုးရနှင့် လုပ်ဆောင်နိုင်စွမ်းရှိမှာလား၊ ၂၀၁၅ ခုနှစ် နောက်ပိုင်းမှ အဖြေမှန်ကို တွေ့ရမှာ

ဖြစ်သည်။ လက်နက်ကိုင်တိုင်းရင်းသားအဖွဲ့များသည် တိုင်းရင်းသား (ဒေသခံ) လူမျိုးများ၏ ကိုယ်စားပြုဖြစ်သည်ဟု ဆိုသော်လည်း ပြည်သူလူထု၏ထောက်ခံမှုအပြည့်အဝမရပါက ငြိမ်းချမ်းရေး ဖော်ဆောင်မှု၏အချက်များမှာ လက်နက်ကိုင် တပ်ဖွဲ့များအတွက်သာ ဖြစ်သည်။

## (၁) ခွဲထွက်ခွင့်ပြုတဲ့ကာလ

၁၉၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ–(၂၀၁ မှ ၂၀၄)၌ ခွဲထွက်ခွင့်ပြဌာန်း၍ ခွဲထွက်ခွင့် ပြဌာန်းသော်လည်း (၁၀)နှစ်အတွင်း မတောင်းဆိုရဟု၍ အဓိပ္ပါယ်ရသည်။

ဗိုလ်ချုပ်အောင်ဆန်းက ရှမ်းပြည်ကပြည်ထောင်စု အဖွဲ့ဝင် ပြည်နယ်အဖြစ် ရှမ်းပြည်နယ် ဖွဲ့စည်းမည်။ ရှမ်းက (၁၀) နှစ်အတွင်းမှာ ခွဲထွက်ခွင့်တောင်းခဲ့လျှင် တိုက်ပစ်မည်ဟုခြိမ်း ခြောက်၍ တဖက်မှာလည်း ချော့လည်းချော့သည်။ ၁၉၄၇ ခွဲထွက်ခွင့်ဟူသောစကား ရပ်၏အဓိပ္ပါယ်ကို ဗိုလ်ချုပ်ရည်ရွယ်ချက်က ''ပြည်ထောင်စုမြန်မာနိုင်ငံ'' ကို တည်ထောင် (ဖွဲ့စည်း) ခြင်းကို အရေးကြီးဆုံးဖြစ်သောကြောင့် တိုင်းရင်းသား (တောင်တန်းဒေသလူမျိုး) လူနည်းစုများ စည်းရုံးရေး၏နိယာမသာဖြစ်သည်။ ချင်း၊ ကချင်၊ ရှမ်း၊ ကရင်နီ တို့က ယုံကြည်သည်။ သို့သော် လက်တွေ့အ ကောင်အထည်မဖော်မှုအရသာဖြစ်သည်။ ပြည်နယ်ကိုသာရ၍ တိုင်းအဆင့်ထက် အုပ်ချုပ်ရေး၊ ဖွံ့ဖြိုးရေးနည်းလွန်းသည်။

မြန်မာပြည်လွတ်လက်ရေးရပုံစံနှင့် အိန္ဒိယပြည်၏လွတ်လပ်ရေးရပြီးပါကစ္စတန်က ခွဲထွက်ခွင့်တောင်း ဆိုမှုနှင့်မတူပါ။ ပြည်ထောင်စုမြန်မာနိုင်ငံ မြန်မာပြည်မ (Mother Land/ Province State) (သို့) မြန်မာဘုရင်များ၏နယ်မြေကို ဗြိတိသျှအစိုးရက ၁၉၄၇ ခုနှစ်မှာ လွတ်လပ်ရေးပေးမည်။ သို့သော်ချင်း၊ ကချင်၊ ရှမ်း၊ ကရင်နီများ သီးခြားအုပ်ချုပ်ပြီး ဖွံ့ ဖြိုးသည့်အထိ (Hong Kong ကဲ့သို့) အုပ်ချုပ်သွားမည်ဖြစ်သည်။ ဗိုလ်ချုပ်အောင်ဆန်းက နယ်မြေကျယ်ပြန့်ဖို့ ပြည်ထောင်စုတည်ဆောက်ဖို့ကို သူ့ရည်ရွယ်ချက်ဖြစ်သည်။ ထို့ကြောင့် ၁၉၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေမှာ ခွဲထွက်ခွင့်ပြု ဌာန်းသော်လည်း ပြည်ထောင်စုမှမြန်မာနိုင်ငံအဖြစ်သို့ ပြန်လည်ခေါ် ဆိုခြင်း ဗိုလ်ချုပ်အသက်ရှင်နေသေးသော်လည်း ၁၉၄၇–၁၉၅၂၊ ၁၉၈၈–၂၀၀၅ ပြဿနာကို ခွဲထုတ်သီးခြားပြည်ပေးခြင်းနှင့် ဖြေရှင်းမှာမဟုတ်ဘူး။ ပေါင်းပြီးမှ ပြန်နုတ် ဗိုလ်ချုပ်လမ်းညွှန်မဟုတ်။ မပေါင်းခင်မှာခွဲထွက်ခြင်းတောင်းဆိုမှုကို အတူတကွလွတ် လပ်ရေးရဖို့ အရေးအကြီးဆုံးဖြစ်သည်ဟု ဤကဲ့သို့ပြောသည်။ ရှမ်းကတစ်ဖုံ၊ ကချင်ကတစ်ဖုံ၊ ချင်းကတစ်ဖုံ တောင်းဆိုခဲ့လျှင် ငါတို့၏ လွတ်လပ်ရေးပန်းတိုင် ရောက်မှာမဟုတ်ဘူးဟု ဆိုခဲ့ဖူးသည်။ (၁၉၄၇ ဖွဲ့စည်းပုံအခြေခံ ဥပဒေပုဒ်မကြမ်း)

အိန္ဒိယပြည်လွတ်လပ်ရေးရခြင်းကို ပါကစ္စတန်က သီးခြားမူဆလင်နိုင်ငံတည်ထောင်ခြင်းကို လိုလား၍အိန္ဒိယပြည်လွတ်

လပ်ရေးရသည့်အခါ လွတ်လပ်ရေးရရခြင်း ခွဲထွက်မည်ဟု ရည်ရွယ်ခဲ့ သကဲ့သို့ အရှေ့ပါကစ္စတန် (ဘင်္ဂလားဒေ့ရှ်)က အနောက်ပါကစ္စတန် (ယခုပါကစ္စတန်)မှ ခွဲထွက်ခဲ့သည်ဖြစ်သည်။ ပါကစ္စတန်ကို အတုတကွ အိန္ဒိယပြည်နှင့် လွတ်လပ်ရေးယူ၍ ခွဲထွက်ခွင့်ပြုသော်လည်း မြန်မာနိုင်ငံ၏ ခွဲထွက်ခွင့်ပြုသည် ဟူသောအဓိပ္ပါယ်ကို ပြည်ထောင် စုမြန်မာနိုင်ငံတော်တည် ဆောက်ရန်သာဖြစ်သည်ဟု သိဖို့လည်း လိုလိမ့်မည်။ ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ(၅၆) ပုဒ်မခွဲ(က)မှ(စ) ကိုယ်ပိုင်အုပ်ချုပ်ခွင့် ရဒေသနှင့် တိုင်းဖော်ပြခဲ့သည်။ နိုင်ငံတော်က လက်ဆောင်ပေးသ ကဲ့သို့ ငြိမ်းချမ်းရေးအပစ်ရပ်ဆဲ ရေးအတွက် ပေးခြင်းသာ ဖြစ်သည်။ သို့သော် လိုအပ်တာရှိသေးသလား ငြိမ်းချမ်းရေးဖော်ဆောင်ရေး ဆွေးနွေးနေဆဲဖြစ်သည်။

**စဉ်စားရန်မေးခွန်း**

ခွဲထွက်ခွင့်ပြုခြင်းသည် ပြည်တွင်းငြိမ်းချမ်းရေး မတည်ငြိမ်ရေးကို ဖန်တီးပေးသောဥပဒေ ဖြစ်သည်ဟု ဆိုသည့်စကားရပ်သည်မှန်သလား။ မှန်သည်ဟုဆိုခဲ့လျှင် ၁၉၄၇ မှ ၁၉၆၂ ခုနှစ်အကြား အောက်ပါပြဿနာများ ဘာဖြစ်လို့ဖြစ်ပေါ် လာသနည်း။

(၁)၁၉၄၇ ခုနှစ် ဇူလိုင် ၁၉ ရက်နေ့မှာ ဘာဖြစ်လို့ ဦးစောအဖွဲ့က ဗိုလ်ချုပ်အောင်ဆန်းတို့အဖွဲ့ကို လုပ်ကြံသတ်ဖြတ်ခဲ့တာလဲ။ ခွဲထွက်ရချင်လို့လား၊ အာဏာရချင်လို့လား။ ဦးစောနှင့်သခင် ဗစိန်က လန်ဒန်မှာ အဘယ်ကြောင့် လက်မှတ်မရေးထိုးခဲ့သနည်း။

(၂) ၁၉၄၈ ခုနှစ် လွတ်လပ်ရေးရပြီးနောက် KNDO (KNU) က ခွဲထွက်ဖို့တောင်းတာလား။ ဗကပ၊ ဗမာ့တပ်မတော် (အမှတ်–၃) ပါတီမှ ခွဲထွက်ခြင်း ဘာဖြစ်လို့ဖြစ်ပေါ်လာတာလဲ၊ သူတို့က ခွဲထုတ် ရန်မဟုတ် အာဏာရတစ်နိုင်ငံလုံးအုပ်ချုပ်ရန် ရည်ရွယ်ခြင်းဖြစ် သည်။ ကာကွယ်ရေးဝန်ကြီး ၁၉၄၉ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့ ဒုတိယဗိုလ်မှူးကြီး လက်ျာနုတ်ထွက်၊ ကာကွယ်ရေးဦးစီးချုပ်(ဗိုလ်ချုပ်စမစ်ဒွန်း) နုတ်ထွက်ခြင်းအကြောင်း ကို ပြန်လည် စဉ်းစားသင့်သည်။

(၃)၁၉၆၂ ခုနှစ်မှ ဗိုလ်ချုပ်နေဝင်း၏ အာဏာသိမ်းခြင်း အကြောင်းရင်းကိုဘာလဲ။ ခွဲထွက်ရေး ဥပဒေကြောင့်မဟုတ်ဘူး။ ဦးနုက နိုင်ငံရေးနှင့်ဘာသာရေးရောနှော၍ ဘာသာရေးကိုခုတုံး လုပ်ကာ စည်းရုံးရေးလှုပ်ရှားမှုကို ဗုဒ္ဓဘာသာကိုအကြီးဆုံး ဖြစ်အောင် လုပ်ဆောင်သောကြောင့်ဖြစ်သည်။ သံဃာတော်များကို လည်း ကျေနပ်အောင်လုပ်ဆောင်နိုင်စွမ်းမရှိ၊ လူနည်းစုများလည်း မကျေနပ်၊ အစိုးရအဖွဲ့၊ပါတီခေါင်းဆောင်များလည်း နုတ်ထွက်ခဲ့ သည်။ စစ်တပ်ကအာဏာသိမ်းသည်ဟူသော စကားရပ်ကို စာရေးသူက “အာဏာသိမ်း” မဆိုသင့်ဟုယူဆသည်။ ဦးနုက နိုင်ငံတော်ကို ကိုင်တွယ်ဖြေရှင်းလို့မရတဲ့အခါ မီးလောင်နေ သော နိုင်ငံတော်ကို ဗိုလ်ချုပ်ကြီးနေဝင်းက မီးငြိမ်းသတ်သကဲ့သို့ ဖြစ်

သည်။ စစ်တပ်ကကူညီကာကွယ်ခြင်းပင်ဖြစ်သည်။ သို့သော် ဗိုလ်ချုပ်ကြီးနေဝင်းက ၁၉၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေကို သူ့အတွက်နိုင်ငံရေးလမ်းညွှန်အဖြစ်အကျိုးမဝင် မကိုင်တွယ်တတ်၍ ဖျက်စီးခဲ့သည်။ သောင်းကျန်းသူပိုမိုများပြားလာသည်။ ဖွဲ့စည်းပုံ အခြေခံဥပဒေ နှင့်ထိန်းသိမ်းခြင်းကို ငြိမ်းချမ်းရေးရလား။ စစ်အာဏာနှင့်ထိန်းသိမ်းခြင်းကို အရေးကြီးလားဆိုတာ မေးစရာမလို ၁၉၈၈ ခုနှစ် အရေးအခင်းမှာ အဖြေပေါ်လာသည်။

ဗိုလ်ချုပ်အောင်ဆန်းက ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပ ဒေမှာ ခွဲထွက်ခွင့်အရေးပြဌာန်းခဲ့ခြင်းကို တကယ့်လက်တွေ့မှာ ပေးမည် မဟုတ်၊ စည်းရုံးရေးသာ။ ဆိုဗီယက်ပြည်ထောင်စုခေါင်း ဆောင် (Stalin) နိုင်ငံရေးဝါဒကို သုံးခြင်းဖြစ်သည်။ ဆိုဗီယက်ပြည်ထောင်စုက ဥပဒေပြဌာန်းသကဲ့သို့ ခွဲထွက်ခွင့်ပေး၍ ယခုရုရှားပြည် တစ်ခုတည်း ကျန်ခဲ့ခြင်း ဖြစ်သည်။၁၉၄၇ ခုနှစ်မှ ၁၉၆၂ ခုနှစ်အထိ ၁၄ ကြာ၍ ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ခွဲထွက်ခွင့် ပြဌာန်းသည့်အတိုင်း တိုင်းရင်းသားလူနည်းစုများက ခွဲထွက်ခွင့်တောင်းဆိုခဲ့သော်လည်း ခွဲထွက်ခွင့်မပေး၊ ဟောင်းဆိုချက်ကိုလည်းမပေး၊ ပေးမည့်အစား ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေဖျက်သိမ်း၊ ၁၉၈၈ ခုနှစ်မှ စစ်အာဏာ စနစ် (Junta) သုံး၍ ၂၀၁၀ အထိ အုပ်ချုပ်ခဲ့သည်။ ကာကွယ်ရေး ဆိုသော ဖွဲ့စည်းပုံအခြေခံဥပဒေကိုင်၍ ၂၀၀၈ ဖွဲ့စည်းပုံ အခြေခံ ဥပဒေနှင့် တပ်မတော်ကာကွယ်ရေးလွှတ်တော် ကိုယ်စားလှယ် (၂၅

ရာခိုင်နှုန်း) က ဗိုလ်ချုပ်နေဝင်း၏ လူနည်းစုအခွင့်အာ ရေးကို မြေမြှုပ်၊ ဖုံးကွယ်သောဥပဒေကို ပြန်လည် ကာထားခြင်း နှင့်တူသည်။ ထို့ကြောင့် ယခုလက်နက်ကိုင် တပ်ဖွဲ့(၁၇)ခုနှင့် အစိုးရငြိမ်းချမ်းရေးဖော်ဆောင်ခြင်း လိုလားနေ သည်ဖြစ်သည်။

**ရဲသွေးထက်က –**

"၁၉၆၀ ခုနှစ်တွင် ဦးနုက ဝန်ကြီးချုပ်အဖြစ် ရာထူးပြန်ယူ၍ ရန်ကုန်တွင် တိုင်းရင်းသား လူမျိုးစုပြဿနာ ဖြေရှင်းရေး ဆွေးနွေးခဲ့သည်။ တိုင်းပြည်အား အုပ်ချုပ်သည့်နည်း လမ်းများနှင့် မြန်မာလူမျိုးတို့ ကြီးစိုးနေသည့် ဗဟိုအစိုးရ၏ပေါ် လစီအပေါ် တိုင်းရင်းသားလူမျိုးစုမကျေနပ်ပေ။ ဤညီလာခံတွင် ရှမ်းခေါင်းဆောင်များက ပြည်ထောင်စုမှခွဲထွက်မည်ဟု ခြိမ်းခြောက်သည်။ လူဦးရေ ၈၇၆၀၀ လောက်သာဖြစ်သည့် ကယားတို့ကလည်း လွတ်လပ်ရေးစကားပြောလာသည်။ ဦးနုအစိုးရသည် တိုင်းရင်းသားတို့၏ ပြည်ထောင်စုမှ ခွဲထွက်ရန် ပြောဆိုမှုကို ထိထိရောက်ရောက်မကိုင်တွယ်နိုင်သောကြောင့် ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ဗိုလ်ချုပ်ကြီးနေဝင်း ဦးဆောင်သောတပ်မတော်က အာဏာသိမ်းပိုက်လိုက်သည်။"
(ရဲသွေးထက် – ဦးနုယုံကြည်ချက်ကိုင်စွဲခဲ့သူ ရန်ကုန်၊ ဇင်ရတနာ စာပေ ၂၀၁၃၊ စာ–၁၇၂၊ ၁၈၃)

ဗိုလ်ချုပ်အောင်ဆန်း၏ရည်ရွယ်ချက်မှာ မြန်မာနိုင်ငံကို ဗုဒ္ဓဘာသာနိုင်ငံတော်အဖြစ် တည်ထောင်ရန်မဟုတ်

ပါကစ္စတန်ကဲ့သို့သော ကိုးကွယ်သည့်ဘာသာကိုအခြေခံ၍ မူဆလင်နိုင်ငံတည်ထောင်ခြင်း မဟုတ်၊ တိုင်းရင်းသားလူနည်းစုများ နှင့် မြန်မာပြည်ပူးပေါင်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတည်ထောင် ခြင်းသာဖြစ်သည်။ ဦးနုက ဘာသာရေးနှင့်နိုင်ငံရေး ရောယှက်၍ဖွဲ့ စည်းပုံအခြေခံဥပဒေအစား ဗေဒင်ကိန်းဟော၍အဖြေကိုဦးစားပေး၍ ငြိမ်းချမ်းရေးဆိုးရွှီးခဲ့သည်။

## (၂) ခွဲထွက်ခွင့်မပြု

၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ (၁၀)၌ ‘‘နိုင်ငံတော်တွင်ပါဝင်သည့် တိုင်းဒေသကြီး များ၊ ပြည်နယ် များ၊ ပြည်ထောင်စုနယ်မြေများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်ရုံးများစ သည့် နိုင်ငံတော်မြို့နယ်မြေအပိုင်းအခြားဟူသမျှသည် နိုင်ငံတော်မှ မည်သည့်အခါမျှ ခွဲမထွက်ရဖို့ ပြဋ္ဌာန်းခဲ့သည်။’’ ၂၀၀၈ အခြေ ခံဥပဒေမှာ ခွဲထွက်ခွင့်မပြုဟု ပြဋ္ဌာန်းခဲ့သော်လည်း ၁၉၆၂ ခုနှစ်မှစ၍ ဖျက်သိမ်းခဲ့ပြီးပြီ။ခွဲထွက်ခွင့်ဥပဒေပြဋ္ဌာန်းခဲ့သော်လည်း နိုင်ငံတော်က ခွဲထွက်ခွင့်ပေးမှာမဟုတ် ပြဋ္ဌာန်းခဲ့သော်လည်း အရေးကြီး ဆုံးမ ဟုတ်ပါ။ ပြည်သူလူထုက ဖွဲ့စည်းပုံအခြေခံဥပဒေ နားလည်စွာ လေ့လာပြီးမှ လူထုဆန္ဒခံယူပွဲရှိသင့်သည်။ မကြိုက် သည့်ဥပဒေ ပုဒ်မသော်လည်းကောင်း၊ နားလည်းသည့် ဥပဒေ ပုဒ်မ တစ်ခုနှစ်ခုလောက် အခြေခံပြီး ဆန္ဒပြတာကို မြန်မာနိုင်ငံသည် ဒီမိုကရေစီနှင့် မတန်သေးဘူးဟု ပြောဆိုခြင်း၏ အဓိပ္ပါယ်လည်း

ဖြစ်သည်။ နိုင်ငံတော်မီးလောင်သောအခါ ၁၉၅၀–၁၉၅၁၊ ၁၉၆၂–၁၉၈၈၊ ၁၉၈၈–၂၀၁၅ ကို ကာကွယ်ရေး တပ်မတော် မရှိခဲ့လျှင် ပြိုကွဲသွား မှာ သူတို့က မီးသတ်ကဲ့သို့မီးငြိမ်းခြင်းကို အကောင်း ဆုံးဖြစ် သော်လည်း မီးသတ်တပ်ဖွဲ့များကို မီးငြိမ်းသတ်ပြီး သူတို့အိမ် (ရုံး) သို့ ပြန်လည်ထွက်ခွာသလို ကာကွယ်ရေးတပ်မ တော်အဖွဲ့မှ ပြည် ထောင်စုမီးလောင်ခြင်းကို ယနေ့အထိတိုင်အောင် လက်နက် ကိုင်အင်အားဖြင့် သော်လည်းကောင်း၊ လွှတ်တော်အင်အားဦးရေ ၂၅ ရာခိုင်နှုန်းဖြင့် သော်လည်းကောင်း၊ ၂၀၀၈ အခြေခံဖွဲ့စည်း ပုံဥပဒေနှင့် ကာကွယ်အုပ်ချုပ်နေဆဲ ဖြစ်သည်။

**၄။ ငြိမ်းချမ်းရေးသဘောတူညီချက်စာချုပ် (မူကြမ်း)**

နိုဝင်ဘာလ (၄)ရက် ၂၀၁၃ ခုနှစ် လိုင်ဇာ၊ ကချင်ပြည်နယ်

(၁) ဦးတည်ချက်နှင့်ရည်ရွယ်ချက်

(၂) နိုင်ငံတော်၏တာဝန်များ

(၃) အပစ်ရပ်တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများ၏ တာဝန်များ

(၄) နိုင်ငံတော်နှင့်အပစ်အခတ်လက်နက်ကိုင်တိုင်းရင်းသားအ ဖွဲ့အစည်းတို့ နှစ်ဘက်လိုက်နာရမည့်အဖွဲ့အစည်းများ

(၅) ဆက်ဆံရေးရုံးများဖွင့်လှစ်ခြင်း

(၆) လူသားခြင်းစာနာထောက်ထားမှုအကူအညီပေးရန် အခွင့်အလမ်း

(၇) လူ့အခွင့်အရေးကို ကာကွယ်စောင့်ရှောက်ခြင်း

(၈) အပစ်အခတ်ရပ်စဲရေးဆိုင်ရာ ပူးပေါင်းတွဲစောင့်ကြည့်ကော်မတီဖွဲ့ခြင်း

(၉) နိုင်ငံရေးဆွေးနွေးပွဲများကျင်းပခြင်း

(၁၀) လက်မှတ်ရေးထိုးခွင့်

(၁၁) ပြည်ထောင်စုလွှတ်တော်၌အတည်ပြုခြင်း

(၁၂) အထွေထွေကဏ္ဍများ

(၁၃) သဘောတူညီချက်စာချုပ်တက်ရောက်ခြင်း

(၁၄) သဘောတူညီချက်စာချုပ် လက်မှတ်ရေးထိုးခြင်း စသည်တို့ဖြစ်သည်။

UNFC (ဒုဥက္ကဋ္ဌ ဖာဒိုဒေးဗစ်သာပေါ်၊ မြန်မာသံတော်ဆင့် အတွဲ–၂၊ အမှတ်–၃၈၊ ၂၀၁၃၊ စာ–၁၃၊ အစိုးရမှုပေးပို့စာ)

**သခင်ယေရှုခရစ်တော်က–**

*"သားသည် မုန့်ကိုတောင်းလျှင် မိမိ သားအား ကျောက်ကိုပေးမည့်သူ၊ ငါးကို တောင်းလျှင် မြွေကို ပေးမည့်ကို တစုံတယောက်မျှ သင်တို့တွင် ရှိသလော"ဟု မိန့်တော်မူ၏။* (ရှင်မဿဲ ၇း၉–၁၀)။

သားကဘယ်သူလဲ။ အဖေကဘယ်သူလဲ။ ပြည်သူလူထုက ပြည်နယ်၊ တိုင်းအစိုးရနှင့် ပြည်ထောင်စုအစိုးရ နှစ်မျိုးရှိသည်။

အစိုးရကို အဖေ၊ အမေ လိုသဘောထားပါ။သားက နိုင်ငံသားများ ဖြစ်သည်။ လက်နက်ကိုင်တပ်ဖွဲ့များလည်း ပြည်နယ် ဒေသ ခံများအတွက် အစိုးရတမျိုးကဲ့သို့ဖြစ်လာမည်ဟု ဆိုသည်။

**ရှင်ပေါလုက–**

*"အစိုးရသော မင်းအာဏာစက်၏ အုပ်စိုးခြင်းကို လူတိုင်းဝန်ခံစေ။ အကြောင်းမူကား၊ ဘုရားသခင်၏ အခွင့်မရှိလျှင် မင်းအာဏာစက်မရှိ။ အာဏာစက်ရှိသမျှသည် ဘုရားသခင်ခန့်ထားတော်မူရာ ဖြစ်သတည်း။ ထိုကြောင့် မင်းအာဏာကို ဆန့်သောသူသည် ဘုရားသခင်စီရင်တော်မူရာကို ဆန့်သောသူဖြစ်၏။ ထိုသို့ဆန့် သောသူသည် ရာဇဝတ်ကို ခံရမည်။ မင်းမူကား၊ ကောင်းသောအကျင့်ကို ကျင့်သောသူကြောက်ဘို့ဖြစ်သည်မဟုတ်။ မကောင်းသောအကျင့်ကို ကျင့်သောသူကြောက်ဘို့၏။ မင်းအာဏာကို မကြောက်ဘဲနေချင် သလော။ ကောင်းသောအကျင့်ကို ကျင့်လော့။ ကျင့်လျှင် မင်းအာဏာကြောင့် ချီးမွမ်းခြင်းကို ခံရလိမ့်မည်။ မင်းသည်ကား၊ သင်၏အကျိုးအလို့ငှါ ဘုရားသခင်၏အစေခံဖြစ်၏။ မကောင်းသောအကျင့်ကို ကျင့်လျှင် ကြောက်ခြင်းမရှိစေလော့။ အကြောင်းမူကား၊ မင်းသည် အချည်းနှီးထားကို ဆောင်သည်မဟုတ်။ မကောင်းသောအကျင့်ကို ကျင့်သောသူတို့ကို အပြစ်တရားစီရင်၍ ရာဇဝတ်ပေး*

*ပိုင်သော သူတည်းဟူသော ဘုရားသခင်၏အစေခံဖြစ်သတည်း။ ထိုကြောင့် ရာဇဝတ်ကို ကြောက်သောကြောင့်သာ မင်းအာဏာ စက်၏အုပ်စိုးခြင်းကို ဝန်ခံရမည်မဟုတ်။ ကိုယ်ကိုကိုယ်သိသော စိတ်ကို ထောက်၍ ဝန်ခံရမည်”* (ရောမသြဝါဒစာ ၁၃း၁-၅)။

ပင်လုံစာချုပ်၏အနှစ်သာရကို နိုင်ငံသားအားလုံးက ခံစားရကြပါစေ။ နိုင်ငံတော်သမ္မတအလှည့်ကျ တိုင်းရင်းသားများ ရှမ်းစပ်ရွှေသိုက်၊ ကရင် မန်းဝင်းမောင် နှင့်အဆုံးသတ်၊ ကချင်၊ ချင်း၊ ကယား၊ မွန်၊ ရခိုင် အလှည့်မရောက်သေးဘူးဟု ဆိုကြသည်။

လေးပွင့်ဆိုင်ဆိုတာ အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ် ဥက္ကဋ္ဌ ဒေါ်အောင်ဆန်းစုကြည်က “၂၀၀၈ အဖွဲ့စည်းပုံ အခြေခံဥပဒေပြုပြင်ပြောင်းလဲရေးအဆင်ပြေချောမွေ့စွာ ဖြစ်မြောက်စေရန် ရည်ရွယ်၍” သမ္မတကြီး ဦးသိန်းစိန် ပြည်ထောင်စုလွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ ဦးသူရရွှေမန်း၊ တပ်မတော်ကာကွယ်ရေးဦးစီးချုပ် ဗိုလ်ချုပ်မှူးကြီး မင်းအောင်လှိုင် နှင့်တွေ့ရန် သမ္မတကြီးထံအား စာဖြင့်မေတ္တာရပ်ခံရန် ၂၃-၁၁-၂၀၁၃ ရက်နေ့တွင် အိတ်ဖွင့်စာပို့လိုက်သည်ဟု သိရှိသည်။ သို့သော် အစိုးရက အဆိုပါမေတ္တာရပ်ခံတောင်းဆိုခြင်းကို လက်မခံပါ။

၁၉၄၅ ခုနှစ်၊ နိုဝင်ဘာလ (၂၄) ရက်စွဲဖြင့် ဗိုလ်မှူးအောင် ဦးဆောင်သော (၂၃) ဦး အဖွဲ့မှ အမျိုးသားပြန်လည် သင့်မြတ်ရေး

အတွက် ဗိုလ်ချုပ်မှူးကြီးနှင့် ဒေါ်အောင်ဆန်းစုကြည် တွေ့ဆုံရန် ဗိုလ်ချုပ်မှူးကြီး သန်းရွှေသို့ လိပ်မူပြီး အိတ်ဖွင့်စာပေးပို့ ခဲ့သည်။

၁၉၈၈ ၌ ၁၉၉၀ ပြည်နစ်ရွေးကောက်ပွဲအနိုင်ရ ဦးခွန်ထွန်းဦး၊ ဒေါက်တာစောမြမောင် အဖွဲ့က ဗိုလ်ချုပ် မှူးကြီး သန်းရွှေနှင့် ဒေါ်အောင်ဆန်းစုကြည်တို့ အမြန်တွေ့ဆုံရန် ၁၉၉၈ ခုနှစ် ဇွန်လ (၆) ရက်တွင် ဗိုလ်ချုပ်မှူးကြီးသန်းရွှေထံ လိပ်မူတပ်၍ ပေးပို့ ခဲ့သည်။ ယင်းအနိုင်ရပါတီအများစု၏ သဘာထားကို ထောက်ခံခြင်းဖြင့်လည်း UN အထွေထွေညီလာခံမှာလည်း တွေ့ဆုံဆွေးနွေးရန် နဝတဖိအားပေး၍နဝတကောင်စီက ဆွေးနွေးခွင့်မပေးခဲ့ပါ။

၂၀၁၃ ခုနှစ်၊ ဇူလိုင်လ (၂၉) ရက်တွင်လည်း ပြည်ထောင်စုတိုင်းရင်းသား ဒီမိုကရေစီအဖွဲ့ချုပ်နှင့် NLD တို့ ပူးပေါင်းထားသည့် အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ကိုယ်စားလှယ်များနှင့် နဝတ ကိုယ်စားလှယ်များ အမြန်ဆုံး တွေ့ဆုံရန် တောင်းဆိုခဲ့သော်လည်း ငြင်းဆိုခြင်းခံခဲ့ရသည်။ (ဇာခြည်လှိုင် –The Flower News, Vol.9, 0No.49, 2013 - p.7)။ ဇန်နဝါရီလ ၂၀–၂၂ အထိ ၂၀၁၄ KNU ဌာနချုပ် လေးဝါးခေါ်လောခီးလာစခန်း၌ UNFC အဖွဲ့အစည်းအဝေးသီးခြားကျင်းပမည် ဖြစ်သည်။ တနိုင်ငံလုံးဆိုင်ရာ အပစ်အခတ်ရပ်စဲရေးညှိနှိုင်းရေးအဖွဲ့ NCCT အဖွဲ့မှ ဒေါက်တာ ဆလိုင်းလျန်မှုန်းဆာခေါင်းက “အပစ်အခတ်ရပ်စဲရေး လက်မှတ်ရေးထိုးပြီး

ရက်ပေါင်း ၆၀ အတွင်း နိုင်ငံရေးဆွေးနွေးပွဲ မှတ်တမ်းချမှတ်ရမည်။ ရက်ပေါင်း ၉၀ အတွင်း နိုင်ငံရေး ဆွေးနွေးပွဲစမည်”ဟု ဆိုသည်။ တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့ ၁၇ ဖွဲ့နှင့် လေ့လာသူ ၃ ဖွဲ့ တက်ရောက်ခဲ့သည်။ ၂၀၁၄ခုနှစ်၊ ဇန်နဝါရီလ ၂၄–၂၇ ရက်အထိ ကရင်ပြည်နယ်၊ဘားအံမြို့၌ ငြိမ်းချမ်းရေးအပစ်ရပ်ဆဲရေးကို အစိုးရနှင့် ဆွေးနွေးမည်။ တချို့ မီဒီယာများတွင် KIO “ဝ” (UWSP) နှင့် မိုင်းလားအဖွဲ့ (NDAA)တက်ရောက်မည်မဟုတ်ဟု ဖော်ပြသည်။ ပထမအကြိမ် အောက်တိုဘာလ ၃၀ ရက်မှ နိုဝင်ဘာလ ၁ ရက်နေ့ ၂၀၁၃ KIO ဌာနချုပ် လိုင်ဇာ အစည်းအဝေးမှာ “ဝ” နှင့် မိုင်းလား မတက်ရောက်ခဲ့ပါ။ (ညွှန်း– လူထုပုံရိပ် Vol.(2) No. (15) Jan. 10, Friday. 2014, p.2./ Weekly Eleven News No. 15, Vol. 19, Jan, 20, Monday, 2014. p. 8)

စစ်မှန်သောငြိမ်းချမ်းရေးကို လူ၏စိတ်နှလုံးသားထဲမှ ဖန်တီး၍ရသည်။ ထို့ကြောင့် ဖွဲ့စည်းပုံအခြေခံဥပဒေကို တန်းတူညီမျှ၊ တရားမျှတမှု၊ လူနည်းစုများ၏အခွင့်အရေးများကို အပြည့်အဝခံစားနိုင်ရန် ပြင်ဆင်သင့်သည်။

တိုင်းရင်းသားလူမျိုးများအားလုံး၏အခွင့်အရေး ကာကွယ်စောင့်ရှောက်သည့်ဥပဒေကျမ်းကို ပြည်သူ့လွှတ်တော်သို့ ဇန်နဝါလ ၁၃ ရက်နေ့မှာ တင်သွင်းခဲ့ပါသည်။ အဆိုပါဥပဒေကျမ်းကို တိုင်းရင်းသားရေးရာ၊ ကျေးလက်လူမှုဘဝမြှင့်တင်ရေးရာနှင့် ပြည်တွင်းငြိမ်းချမ်းရေးဖော်ဆောင်မှုကော်မတီက ရေးဆွဲတင်သွင်းခဲ့ခြင်းဖြစ်ပါသည်ဟု ဒေါ်အောင်ဆန်းစုကြည်က ပြောသည်။

အခန်း ၅

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေမှ ကောက်နုတ်ချက်များ

**၁။ ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ**

အခန်း (၁)– နိုင်ငံဖွဲ့စည်းပုံ

ပုဒ်မ (၁) မြန်မာနိုင်ငံသည် အချုပ်အချာအာဏာပိုင် သမ္မတနိုင်ငံဖြစ်သည်။ ထိုနိုင်ငံကို ပြည်ထောင်စုမြန်မာနိုင်ငံဟု ခေါ်ရမည်။

အပိုင်း(၅) ချင်းဝိသေသတိုင်း (Chin Special Division)

ပုဒ်မ (၁၉၆) နိုင်ငံတော်သမ္မတ သတ်မှတ်သော ချင်းတောင်စီရင်စုနှင့် ရခိုင်တောင်တန်းဒေသများပါဝင်သည့် ချင်းဝိ သေသတိုင်းရှိရမည်ဟု ပြဋ္ဌာန်းထားသည်။

ပုဒ်မ (၁၉၇) (၁) ပါလီမန်ရှိ ချင်းအမျိုးသားများ၏ ကိုယ်စားလှယ်အမှတ်အားလုံးဝပါဝင်သော ချင်းရေးရာကောင်စီ တစ်ခုကို ဖွဲ့စည်းရမည်။

(၂) ဝန်ကြီးချုပ်သည် ချင်းရေးရာကောင်စီနှင့် ညှိနှိုင်းတိုင်ပင်၍ ပါလီမာန်ရှိ ချင်းအမျိုးသား၏ကိုယ်စားလှယ် အမတ်များအနက်တင်သွင်းခြင်း ခံရသောအမတ်ကို နိုင်ငံတော်သမ္မတသည်

"ချင်းရေးရာဝန်ကြီး" (Minister of Chin Affair )ဟု ခေါ်တွင်ရမည်ဖြစ်သော ပြည်ထောင်စုအစိုးရအဖွဲ့ဝင် ဝန်ကြီး တစ်ဦးအဖြစ် ခန့်ထားရမည်"ဟု ပြဌာန်းသည်။

## ၂။ ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ

အခန်း(၁) နိုင်ငံတော်

ပုဒ်မ (၁) မြန်မာနိုင်ငံတော်သည် လုပ်သားပြည်သူတို့၏ အချုပ်အခြာအာဏာပိုင်လွတ်လပ်သော ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်ဟု ခေါ်တွင်ရမည်။

ပုဒ်မ (၂) ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်သည် တိုင်းရင်းသား လူမျိုးပေါင်းစုံတို့ စုပေါင်းနေထိုင်သော နိုင်ငံဖြစ်သည်။

အခန်း(၃) နိုင်ငံတော်ဖွဲ့စည်းတည်ဆောက်ပုံ

ပုဒ်မ (၃၀) (ခ) ချင်းဝိသေသတိုင်းကို "ချင်းပြည်နယ်"ဟု သတ်မှတ်သည်။

ပုဒ်မ ၃၁ (ဃ) ချင်းပြည်နယ်ဟု သတ်မှတ်သည်။ (ပြည်နယ် ၇၊ တိုင်း ၇ခု ပုဒ်မ ၃၁ တွင် ဖော်ပြသည်)။

ပုဒ်မ ၁၉၀ နိုင်ငံတော်အလံကို ပြဌာန်းသည်။ တိုင်းနှင့်ပြည်နယ်ပေါင်း ၁၄ကို ပုံဆောင်၍အလံ၏အပေါ်တွင် ကြယ်ပုံ ၁၄ လုံးပါဝင်သည်။

## ၃။၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ

အခန်း (၁) နိုင်ငံတော်အခြေခံမူများ

နိုင်ငံတော် ပုဒ်မ–

(၁) မြန်မာနိုင်ငံသည် အချုပ်အခြာအာဏာပိုင် လွတ်လပ်သည့် နိုင်ငံဖြစ်သည်။

(၂) နိုင်ငံတော်ကို ပြည်ထောင်စုသမ္မတနိုင်ငံတော်ဟု ခေါ်ရမည်။

(၃) နိုင်ငံတော်သည် တိုင်းရင်းသားလူမျိုးပေါင်းစုံတို့ စုပေါင်းနေထိုင်ကြသော နိုင်ငံဖြစ်သည်။

(၇)နိုင်ငံတော်သည် စစ်မှန်၍ စည်းကမ်းပြည့်ဝသော ပါတီစုံဒီမိုကရေစီစနစ်ကို ကျင့်သုံးသည်။

(၈)နိုင်ငံတော်ကို ပြည်ထောင်စုစနစ်ဖြင့် ဖွဲ့စည်းတည် ဆောက်သည်။

အခန်း (၂) နိုင်ငံတော်ကို အောက်ပါအတိုင်း ဒေသကြီး (၇)၊ ပြည်နယ် (၇)တို့ဖြင့် ဖွဲ့စည်းတည်ဆောက်ထားသည်။

ပုဒ်မ ၄၉ (က)မှ (ဏ)အထိဖော်ပြထားသည်။ ပုဒ်မခွဲ(ဃ) ချင်းပြည်နယ်၊ (ဏ) ပြည်ထောင်စုနယ်မြေများ (နေပြည်တော်)။ အခြားတိုင်းနှင့်ပြည်နယ်ပေါင်း ၁၄ ခုကို ၁၉၇၄ ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၃၀ အတိုင်း ဖြစ်သည်။

ပုဒ်မ (၅၆) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများကို အောက်ပါအတိုင်းသတ်မှတ်သည် ဟု ဖော်ပြသည်။ ပိုဒ်မခွဲ (က)မှ (စ)အထိ၊ (က) နာဂ၊ (စစ်ကိုင်းတိုင်း) (ခ)ဓနု (ဂ)ပအိုဝ်း (ဃ)ပလောင် (င) ကူးကန့် (စ) "ဝ" ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရတိုင်းများဟု သတ်မှတ်သည်။ (ခ)မှ (စ)အထိ ရှမ်းပြည်နယ်မှ ဖွဲ့စည်းသည်)။ (က)မှ (င)ကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရသောဒေသများဖြစ်သည်။

အခန်း (၁၃) နိုင်ငံတော်အလံ၊ အထိမ်းအမှတ်တံဆိပ်၊ သီချင်းနှင့်မြို့တော်

ပုဒ်မ (၄၃၇)(က) နိုင်ငံတော်အလံသည် အောက်တွင်ဖော်ပြထားသည့်အတိုင်း ဖြစ်သည်။

(ခ) နိုင်ငံတော်အလံနှင့်စပ်လျဉ်း၍ ဥပဒေပြဋ္ဌာန်းရမည်။

ထိုအလံထဲတွင် ကြယ်ပွင့်တစ်လုံး၊ အပေါ်တွင် အဝါရောင်၊ အလယ်တွင် အစိမ်းရောင်၊ အောက်ပိုင်းတွင် အနီရောင် ဖော်ပြထားသည်။ ဤအလံတွင် ၁၉၇၄ နိုင်ငံတော်အလံမှာ ပြည်နယ်နှင့်တိုင်း (၁၄)ခုကို ဖော်ပြသောကြယ်ပို (၁၄) လုံးကဲ့သို့ ကြယ်ပိုမတွေ့ရပါ။ ယခု ကြယ်ပွင့်တစ်လုံး အဓိပ္ပါယ်သည် Union သို့မဟုတ် Unitary ဖြစ်မည်ဟု ခွဲခြားရခက်သည်။

၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေကို လေ့လာဖတ်ရှုသော အခါ အခန်း (၁၂) ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ခြင်း ဥပဒေပါ ပြဌာန်းသည်ကို တွေ့ရသည်။

ပုဒ်မ (၄၆၃) (က)၌ အခန်း (၁)ပုဒ်မ (၁)မှ ၄၈ အထိ ထိုမှ အခန်း၁၂ ပုဒ်မ ၄၃၆ တို့ရှိသော ပြဌာန်းချက်များကို ပြင်ဆင်လိုလျှင် ပြည်ထောင်စုလွှတ်တော်ကိုယ် စားလှယ်အားလုံး ၇၅ရာခိုင်နှုန်း ကျော်က ပြင်ဆင်ရန် သဘောတူလက်ခံ ပြီးနောက် ပြည်လုံးကျွတ် ဆန္ဒခံယူပွဲကျင်းပ၍ဆန္ဒမဲပေးပိုင်ခွင့်ရှိသူအားလုံး၏ ထက်ဝက် ကျော်က ဆန္ဒမဲဖြင့်သာ ပြင် ဆင်ရမည်ဟု ပြဌာန်းသည်။

၄၃၆ (ခ) ပုဒ်မခွဲ (က)တွင် ဖော်ပြသည့်ပြဌာန်းချက်များမှအပ အခြားပြဌာန်းချက် များကို ပြည်ထောင်စုလွှတ်တော်ကိုယ်စား လှယ်အားလုံး၏ ၇၅ ရာခိုင်နှုန်းကျော် ထောက်ခံဆန္ဒမဲဖြင့်သာ ပြင်ဆင်ရမည်ဟု ဖော်ပြထားသည်။ ထိုကြောင့် ဤ ဖွဲ့စည်းပုံအ ခြေခံဥပဒေ အခန်း (၁၃)နိုင်ငံတော်အလံ၊ အထိမ်းအမှတ်တံဆိပ်၊ သီချင်းနှင့်မြို့တော်၊ အခန်း (၁၄) ကူးပြောင်း ရေးကာလပြဌာန်း ချက်များ၊ အခန်း (၁၅) အထွေထွေပြဌာန်းချက်များ ပြင်ဆင်လိုလျှင် လွှတ်တော်နှင့်သာဆိုင်သည်ဟု အဓိပ္ပါယ်ရသည်။

# အခန်း ၆

# နိုင်ငံသားများ၏အခွင့်အရေး

## ၁။ လူနည်းစုနှင့် လူများစုအခွင့်အရေး

ကမ္ဘာ့လူသားများ၏ အုပ်ချုပ်ရေးစနစ်၊ လူမှုရေးအဖွဲ့အစည်းတွင် လူနည်းစုနှင့် လူများစုပြဿနာကို ဖြေရှင်းဘို့ အခက်ဆုံးတစ်ခုလည်းဖြစ်သည်။ ဒီမိုကရေစီစနစ်တွင် လူအများစု (လူဦးရေများ)၏ ဆုံးဖြတ်ချက်/မဲပေးထောက်ခံ ခြင်း (၇၅%) ကို အခြေခံထားသည်။ သို့သော် လူနည်းစု (လူဦးရေ)များ ကာကွယ်ရေးဥပဒေ မပြဋ္ဌာန်းခဲ့ပါက စစ်မှန်သော ဒီမိုကရေစီစနစ်ဖွဲ့စည်းပုံအခြေခံဥပဒေဟု ပြဋ္ဌာန်းခဲ့သော်လည်း မိမိရေးဆွဲသော ဖွဲ့စည်းပုံအခြေခံ ဥပဒေကို ဆန့်ကျင်ခြင်းလည်းဖြစ်သည်။

၁၉၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ (မူကြမ်း)ရေးဆွဲသည့်အခါတွင် ဗိုလ်ချုပ်အောင်ဆန်းက ဆိုဗီယက် အမျိုးသားခေါင်းဆောင် Stalin ဝေါဟာရကို ညွှန်း၍ မြန်မာပြည်မှာ လူမျိုးကြီးဟု ခေါ်ဆိုထိုက်ကို ရှမ်းလူမျိုးသာဖြစ်သည် ဟု ဆိုသည်။ လူမျိုးကြီးဟူသော်စကားရပ်ကို အိန္ဒိယလူမျိုးများ ဇာတ်လေးမျိုး (Caste) ကဲ့သို့ မဟုတ်ပါ။ ဘာသာ စကားတစ်ခု၊ ပြည်ထောင်စုတစ်ခုတည်ထောင်သူ၊ အုပ်ချုပ်ရေးစနစ်တစ်ခု အောက်မှာ နေထိုင်သူဟုဆိုသည်။

## ဗိုလ်ချုပ်အောင်ဆန်းပြောသော လူမျိုးကြီးနှင့်လူနည်းစု

"လူမျိုးကြီး (လူဦးရေများ) ..... ဟူသော စကားလုံး၏ အဓိပ္ပါယ်ကို စတာလင် ဖွင့်ဆိုထားပုံကို ဗိုလ်ချုပ်အောင်ဆန်း ကရှင်းပြဖူးပါသည်။" လူမျိုးကြီးသည် ရာဇဝင်အရဖြစ်ပွားလာပြီး တည်တည်တံ့တံ့၊ သူ့ဘာသာစကားနှင့်၊ သူ့နယ်မြေနှင့်သူ့စီးပွားရေး၊ သူ့ယဉ်ကျေးမှု၊ သူ့ထုံးစံဓလေ့တွေနှင့် ညီညွတ်စည်းရုံးသည့် လူပေါင်း စုဖြစ်သည်။ လူမျိုးကြီး အချင်းချင်းဆိုလျှင် အချုပ်အခြာအာ ဏာရှိသည်။ တန်းတူသည်ဟု စတာလင် ကဆိုသည်။ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရပြီး ကိုယ်တိုင် ပြဌာန်းခွင့်မှာ နေရာတကာအမြဲတမ်း မဟုတ်၊ ကောင်းကျိုးလုပ်ရန်သာဖြစ်ပြီး ဆိုးကျိုးလုပ်ရန်မဟုတ်။ လူမျိုးအချင်း ချင်း ခြယ်လှယ်လွှမ်းမိုးမှု၊ နှိပ်စက်မှု မဖြစ်ရလေအောင် ဤအခွင့် အရေးမျိုး လူမျိုးကြီးတိုင်းကို ပေးထားသည်။

လူနည်းစုဟူသည် ....."လူနည်းစုများအနေဖြင့် လူမျိုးကြီး များဖိနှိပ်ကြလိမ့်မည်ဟူသော စိုးရိမ် ပပျောက်သွားအောင် လူနည်းစု များအား ၎င်းတို့၏ ဘာသာစကား သုံးစွဲခွင့်၊ လွတ်လပ်စွာတွေး ခေါ်ခွင့်၊ လွတ်လပ်စွာလှုပ်ရှားခွင့်များ ပေးအပ်သင့်သည်" ဟူသော စတာလင်၏ အဆိုအမိန့်မှာ ထုတ်နုတ်၍ ဗိုလ်ချုပ်အောင်ဆန်းက ရှင်းပြပါသည်။(ညွှန်း – သုဝေ – ထိုင်းနိုင်ငံညီနောင်သားချင်းများ အပိုင်း (၉) – Hot News, Vol-4, No.159, Sept 27-Oct -3,

2013 - P.28) ဤလူမျိုးကြီးနှင့်လူနည်းစုအခွင့်အရေးကို ကြည့်သော အခါ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတွင် လူဦးရေများသော လူမျိုးကြီးများက လူနည်းစုများကို ဖိနှိပ်အုပ်ချုပ် သည်ဟု ဆိုသည် မှာမှန်ပါသည်။ သို့သော် မဲခွဲဆုံးဖြတ်၍ အုပ်ချုပ် သောနည်းစနစ်နှင့် အာဏာနှင့် ဖိနှိပ်အုပ်ချုပ်သော နည်းစနစ်ရှိသည်။ စာရေးသူ အနေ နှင့်ဆိုလျှင် ဤကဲ့သို့ လူမျိုးကြီးနှင့် လူနည်းစုခွဲခြားခြင်းသည် ဖွဲ့စည်းပုံအခြေခံဥပဒေထက် အုပ်ချုပ်ရေးမှူး အပေါ်မှာမူတည်သည်။ အကြောင်းက ၁၉၈၈ မှ ၂၀၁၀ စစ်အစိုးရ ခေတ်အတွင်းမှာလည်း တစ်ချို့လူမျိုးက အခွင့်အရေးရသည့်အခါ တစ်ချို့ လူမျိုးက ဖိနှိပ်ခြင်းခံ ရသည်ဟု သိရှိရသည်။

နိုင်ငံသားတိုင်းသည် မူလအခွင့်အရေး၊ တန်းတူရေးကို လိုလားမည်။ မြန်မာတိုင်းရင်းသားလူမျိုးနွယ်စုကွဲ (၁၃၅) ဟု သတ်မှတ်၍ တန်းတူညီမျှ အခွင့်အရေးရမှာလား? အစိုးရကဖြည့် ဆည်းပေးလို့ရမှာလား? ဟု စဉ်းစားစရာဖြစ်သည်။ လူနည်းစုနှင့် လူများစု ဟူသောနိုင်ငံသား လူမျိုးနွယ်စုကွဲ (၁၃၅) ကို ပြန်လည်သုံး သပ်ကြည့်သောအခါ နိုင်ငံတော်က လူမျိုးနွယ်စုများ ရေးသား ဖော်ပြခြင်းကို မမှားသော်လည်း လူမျိုးနွယ်စုကွဲများ ခွဲခြားသတ် မှတ်ခြင်းကို တိကျစွာဖော်ပြခြင်းလိုပါသည်။ တိကျစွာဆိုသည်မှာ အမျိုးသား/လူဦးရေများစုအဆင့် (၅၅၀၀၀) ကျော် လူဦးရေနှင့် လူဦးရေ (၃၀၀၀) မှ (၅၀၀၀၀) သော်လည်းကောင်း၊ (၃၀၀၀)

အောက်လူဦးရေ သော်လည်းကောင်း ခွဲခြားသင့်သည်။ တစ်ချို့ လူမျိုးနွယ်စုကွဲများကို ဘာသာစကားနွယ်စုများသာဖြစ်၍ ဤ လူမျိုးများနှင့် ဘာသာစကားနွယ်တူစု မတူဘူး။ ဥပမာ–ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်တွင် တိုင်းရင်းသားလူမျိုးကြီး (၈) မျိုးဟု ဆိုသော် လူမျိုးများကို မြန်မာနိုင်ငံသာဟုဆိုသည်။ သို့သော် ဤတိုင်း ရင်းသား လူမျိုးများတစ်ချို့ တိဗက်–မြန်မာ ဘာသာစကားပြော နွယ်စုဟုဆိုသည်။ ချင်းလူမျိုးများကိုလည်း (၅၃)ထဲမှာ အမျိုးသား အဆင့်ခေါ်ဆို သတ်မှတ်သင့်သော ဇိုမီးလူမျိုး၊ လိုင်မီးလူမျိုး၊ ခူမီးလူ မျိုး ရှိသော် လည်း တစ်ချို့လူဦးရေနည်းသော ဘာသာစကားနွယ်စု တူနှင့် မျိုးရိုးအမည် (Clan / Family) ကို အခြေခံ၍ လူမျိုးနွယ်စု အမည်အဖြစ် အစိုးရကသတ်မှတ်သောကြောင့် လူမျိုးရေးပြဿနာ လည်း ဖြစ်ပေါ် လာစေသည်။

ထို့ကြောင့် ဤလူမျိုးစုနွယ် (၁၃၅) မျိုးကို လူဦးရေအများ နှင့်အနည်း ခွဲခြားတဲ့အခါ တန်းတူညီမှု ရမှာမဟုတ်ဘူး။ ရတဲ့နည်း လမ်းလည်းမရှိဘူး။ နိုင်ငံသာတိုင်း တန်းတူညီမှု အခွင့်အရေးသည် ဥပဒေ ပြဋ္ဌာန်းသည့်အတိုင်း ခံစားရမည်ဟု ယူဆခြင်းကို လုံးဝမှား မည်။ လူဦးရေအများနှင့် အနည်းခြေခံ၍ နေရာတိုင်းမှာလည်း တန်းတူညီမှုမရတဲ့ အခွင့်အရေးလည်းရှိသည်ဟု သိစေလိုပါသည်။

၁၉၄၈ ခုနှစ်၊ ဒီဇင်ဘာလ (၁) ရက်နေ့တွင် ကုလသမဂ္ဂ အဖွဲ့ချုပ်က အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေး ကြေငြာစာတမ်းကို ထုတ်ပြန် ကြေငြာ၍ ဒီဇင်ဘာလ (၁၀) ရက်နေ့ကိုလည်း "အပြည် ပြည်ဆိုင်ရာ လူ့အခွင့်အရေးနေ့" ဟု သတ်မှတ်ခဲ့သည်။ ထိုအစည်း အဝေးတွင် ကမ္ဘာ့နိုင်ငံပေါင်း (၁၆၈) နိုင်ငံ၏ ကိုယ်စားလှယ် တော်ပေါင်း (၁၆၈) ဦးတို့က လူ့အခွင့်အရေးဆိုင်ရာ ကြေငြာသဘော တူစာချုပ် (Charter) ကို လက်မှတ်ရေးထိုးခဲ့ကြသည်။ (မြင့်ထွန်း၊ လူ့အခွင့်အရေးခေတ် သစ်လူမှုကျင့်ဝတ်ဆိုင်ရာပြဿနာချက်၊ ရန်ကုန်၊ သိရိပိဋကတ်ပုံနှိပ်တိုက်၊ ၂၀၁၃ – စာ ၄၁–၄၂)။

ဒီမိုကရေစီစနစ်ဆိုသော်လည်း လူနည်းစု၊ လူများစု (အများ၊ အနည်းကိန်း)အခြေခံ၍ ဆုံးဖြတ်အတည်ပြုခြင်းကို မဖွံ့ ဖြိုးသေး သော ပြည်ထောင်စုမြန်မာနိုင်ငံအတွက် နေရာတိုင်းမှာ မသုံးသင့်ပါ။ ဖွဲ့စည်းပုံအခြေခံဥပဒေက ပြဋ္ဌာန်းသော်လည်း လူနည်းစုအချင်းချင်း ဘာသာစကား၊ ကိုးကွယ်သည့်ဘာသာ၊ ရိုးရာဓလေ့ထုံးစံ မတူသကဲ့ သို့ လူများစုများလည်း မတူပါ။

အောက်ပါဖော်ပြသော ဇယားများကို လေ့လာပြီး လူနည်းစု နှင့် လူများစုတို့၏ အားသာချက်၏ ရလဒ်ကို တိုင်းရင်းသားလူမျိုးများ အားလုံးအတွက် အကျိုးသက်ရောက်ခြင်း၊ အကျုံးဝင်ခြင်းမ တူတူလို့ တွေ့ရမည်။ ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ (၁၃) တိုင်းဒေသကြီး

(၇)ခုတွင် တိုင်းဒေသကြီး လွှတ်တော်တစ်ရပ်စီနှင့် ပြည်နယ် (၇) ပြည်နယ်တွင် ပြည်နယ်လွှတ်တော်တစ်ခုစီရှိသည်ဟု ပြဌာန်းထားပါသည်။

## (က) လူဦးရေ

## တိုင်းရင်းသားလူမျိုးပေါင်းစုံ (၁၃၆)မှ အမျိုးသား (၈) မျိုး

| စဉ် | လူမျိုး | မျိုးနွယ်စုကွဲ | တစ်နိုင်ငံလုံး လူဦးရေ၏ရာ ခိုင်နှုန်း | ဘုံစကား | တစ်နိုင်ငံလုံး လူဦးရေ ၆၀ သန်း |
|---|---|---|---|---|---|
| ၁။ | ရှမ်း | ၃၃ | ၈.၅ % | ရှိ | |
| ၂။ | ကရင် | ၁၁ | ၇ % | ၂ မျိုး | |
| ၃။ | ရခိုင် | ၇ | ၄.၅% | ၁ မျိုး | |
| ၄။ | မွန် | ၁ | ၂.၄၁% | ၁ မျိုး | |
| ၅။ | ကချင် | ၁၁ | ၁.၅၁% | ဂျိင်ဖော် | |
| ၆။ | ချင်း | ၅၁ | ၁.၅% | မြန်မာ | |
| ၇။ | ကယား | ၉ | ၁.၇% | | |
| ၈။ | မြန်မာ–အင်ဒီယန်း | | ၁.၃% | မြန်မာ | |
| ၉။ | တရုတ် | | ၁.၅% | | |
| ၁၀။ | အခြားလူမျိုးနွယ်စု | | ၆.၉% | | |
| ၁၁။ | ဗမာ/မြန်မာ | ၉ | ၄၄% | မြန်မာ | |

တနိုင်ငံလုံးမှာ ရှမ်းနှင့် ဗမာလူဦးရေအများဆုံးဖြစ်၍ လူမျိုးကြီးဖြစ်သောကြောင့် ရှမ်းပြည်နယ်၊ တိုင်းဒေသကြီး (၇)နှင့် နေပြည်တော်ပြည်ထောင်စုနယ်မြေကိုသာ အုပ်ချုပ်ရေး၊ အခွင့်အရေး၊ စီးပွားရေးပေးခဲ့လျှင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသလည်း မဟုတ်သည့်အတွက် ဖွဲ့စည်းပုံအခြေခံဥပဒေကိုလည်း ဆန့်ကျင်ရာရောက်သည်။ လူနည်းစုအမျိုးသားပြည်နယ်၊ ဒေသများမဖွဲ့ ဖြိုးခဲ့သော်လည်း သူတို့ ကိုလည်း မြန်မာနိုင်ငံသား၊ မြန်မာ့နယ်မြေဖြစ်၍ မြန်မာပြည် ဆင်းရဲနေသေးသည်ဟု ဆိုရမှာဖြစ်သည်။ လူနည်းစု ပေါင်းပြီးအ တိုက်အခံပါတီအဖြစ် ရပ်တည်ခဲ့သော်လည်း ပြည်ထောင်စုစနစ်နှင့် ဖွဲ့စည်းပုံအခြေခံဥပဒေဆန့်ကျင်ခြင်းဖြစ်သည်။

**(ခ) ဘာသာစကား**

တိုင်းရင်းသားလူမျိုးပေါင်းစုံပါဝင်ဖွဲ့စည်းထားသော ပြည်နယ် ၇ ခုထဲမှာ ဘုံစကား မရှိသေးသူများက မြန်မာစာ၊ မြန်မာစကားသုံး၍ ကိုယ့်ဒေသအလိုက် ဘာသာစကားသုံးခဲ့သည်။ သူတို့စာနှင့် စကားပျောက်ကွယ်မှီးမှိန်သော လူမျိုးများလည်း ရှိသည်။

မြန်မာစကားမှာဘာသာစကားဆို သောဝေါဟာရကို စာရေးသူအနေနှင့် ဘာသာစကားကို စကားနှစ်လုံးပေါင်း၍ ကိုးကွယ်သည့်ဘာသာ၏မူရင်း စကားနှင့်စာပေကို အခြေခံ၍ ဆင်းသက်လာခြင်းဖြစ်မည်ဟု ယူဆသည်။ ဥပမာ– ဟိန္ဒူဘာသာစကား စာပေကို Sanskrit၊ ဗုဒ္ဓဘာသာစကား စာပေမှာ Pari မွတ်ဆလင်

ဘာသာစကားကို Arabic ၊ ခရစ်ယာန် ဘာသာစကားကို Hebrew, Greek, အင်္ဂလိပ် ဘာသာစကားကို အသုံးပြုသည်။ ထို့ကြောင့် မြန်မာရုံးသုံးစာ၊ မြန်မာစာ၊ မြန်မာစကား နှင့် ဤဘာသာစကားကို ခွဲခြားနားလည်ဖို့ လိုသည်။ တိုင်းရင်းသား လူနည်းစုများက ရုံးစာမှာ Pari စာနှင့် Pari စကား နားမလည်ပါ။

## (ဂ) ဘာသာရေး

ဘာသာရေးမှာလည်း ဗုဒ္ဓဘာသာ မြန်မာပြည်လူဦးရေ သန်း ၆၀ ထဲမှ သန်း ၄၅ ကျော်ဖြစ်သည်။ တခြားဘာသာဝင် များကို သိန်း ၄၀ ကျော်လောက်ဖြစ်သည်။ ဘာသာရေးအရ လူနည်းစုအခွင့်အရေး မပေးဘဲ၊ ကြိုက်တဲ့ နေရာမှာ စေတီပုထိုး ချင်းတောင်မှာ တည်ဆောက်၊ မကြိုက်ရင် လက်ဝါးကားတိုင်ဖျက်စီး၊ မွတ်စလင် ဗလီဖျက်ဆီး၊ ဘာသာရေးစော်ကားခဲ့လျှင် ကမ္ဘာလုံးသည်အဝိုင်း ဖြစ်သော်လည်း ကွန်ပျူတာခေတ်ဖြစ်၍ ကိုယ့်လက်ထဲမှာ ကမ္ဘာရှိသကဲ့သို့ ပြည်တွင်းမှာ လူနည်းစုဒုက္ခပေးခြင်းကို ခရစ်ယာန်၊ မွတ်စလင်၊ ဟိန္ဒူနိုင်ငံသို့ ပြန့်ပွားမည်ဖြစ်သောကြောင့် နိုင်ငံခြားရောက် မြန်မာလူမျိုးများ ဒုက္ခရောက်စေသည်။

### လူနည်းစု ကိုးကွယ်သည့်ဘာသာ ၂၀၁၂ ခန့်မှန်း

၁။ ဗုဒ္ဓဘာသာကိုးကွယ်သူ–၄၅ သန်း

၂။ ခရစ်ယာန်၊ မွတ်စလင်၊ ဟိန္ဒူ နတ်ကိုးကွယ်သူ–၄၀ သိန်း

၃။ တခြားဘာသာဝင်–၁၀ သိန်း

ချင်းပြည်နယ်ကိုးကွယ်သည့်ဘာသာလူဦးရေစာရင်း (၂၀၁၃)

# Appendix A:

## Translation of demograpnic information held by the Ministry of Religious Affairs in Chin State

[Source: CHRO 2012; www. chro.ca]

| St.# | Township | Buddhist | | Christian | | Islam | | Hinda | | Laipian (Chin traditional religin in Tedim and Tonzang townships of northern Chin State) | | Animist | Township Population |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | Population | Monastery/ Pagoda | Population | Church | Population | Mosque | Population | Temple | Population | Church | | |
| **Falam District** | | **1,289** | **29** | **309,571** | **1,053** | **7** | **1** | **13** | **2** | **3,254** | **31** | **1,383** | **315,517** |
| 1 | Hakha | 538 | 8 | 51,869 | 122 | | | | | 32 | 1 | | 52,439 |
| 2 | Falam | 337 | 9 | 65,260 | 273 | 2 | 1 | 13 | 2 | 48 | | | 65,660 |
| 3 | Thantlang | 54 | 3 | 65,916 | 153 | | | | | | | | 65,970 |
| 4 | Tedim | 134 | 5 | 86,750 | 330 | 5 | | | | 2,957 | 31 | 1,347 | 91,190 |
| 5 | Tonzang | 124 | 2 | 23.972 | 94 | | | | 132 | | | 36 | 24,265 |
| 6 | Rihkhuadar | 51 | 1 | 5,755 | 32 | | | | | | | | 5,806 |
| 7 | Cikha | 51 | 1 | 10,044 | 67 | | | | | 85 | | | 10,180 |
| **Mindat District** | | **58,910** | **162** | **155,781** | **905** | **130** | **1** | **28** | | | | **2,681** | **217,530** |
| 1 | Mindat | 18,255 | 50 | 25,272 | 193 | | | | | | | 719 | 44,246 |
| 2 | Matupl | 133 | 10 | 50,447 | 246 | | | | | | | | 50,580 |
| 3 | Kanpetlet | 6,926 | 33 | 10,687 | 123 | | | | | | | 1,962 | 19,575 |
| 4 | Pletwa | 33,575 | 68 | 57,379 | 306 | 130 | 1 | 28 | | | | | 91,112 |
| 5 | Rezua | 21 | 1 | 11,996 | 37 | | | | | | | | 12,017 |
| **Total no.** | | **60,199** | **192** | **465,352** | **1,958** | **137** | **2** | **41** | **2** | **3,254** | **32** | **4,064** | **533,047** |

ဗုဒ္ဓဘာသာကို လူအများစုကိုးကွယ်သော ဘာသာဖြစ်၍ တခြားဘာသာများက ခွင့်ပြုသည်။ သို့သော် နလတကို ဗုဒ္ဓဘာသာဝင်များမှအပ တခြားဘာသာဝင်များက အခွင့်အရေးမရပါ။ ဗုဒ္ဓဘာသာတောင်တန်းဒေသသာသနာပြုများ၏ လက်တွင် ထားခဲ့သည်ကို တွေ့ရသည်။ လူနည်းစုများအတွက် အခွင့်အရေးမရှိပါ။ ဗုဒ္ဓဘာသာဝင်များက လွှတ်တော်မှာ မဲခွဲဆုံးဖြတ်လျှင် လူနည်းစုဖြစ်သော လွှတ်တော်ကိုယ်စားလှယ်များက (ဗုဒ္ဓဘာသာဝင်မဟုတ်သူ) အမြဲတမ်းရှုံးရမှာ ဖြစ်သည်။

**(ဂ)စီးပွားရေး**

စာရေးသူတစ်ယောက်က အမိမြန်မာနိုင်ငံကို ရွှေနိုင်ငံဟုခေါ်ဆိုသော်လည်း ၂၀၁၃ ခုနှစ်တွင် မြန်မာနိုင်ငံသည် အရှေ့တောင်အာရှတွင် အနိမ့်ကျဆုံး၊ လူဦးရေ ၅၅ သန်း၊ ထိုင်း၊ မလေးရှား၊ စက်ပူတွင် ၆ သန်းခန့် အလုပ်သွားလုပ်နေရရှာသည်။ ချင်းလူမျိုးများမှာ တစ်သိန်းကျော် စီးပွါးရေးအကျပ်အတည်းကြောင့် နိုင်ငံခြားမှာ ရွှေ့ပြောင်းအလုပ်သမားအဖြစ် နေထိုင်ခဲ့သည်ဟု ခန့်မှန်းရသည်။

ဥပမာ ကချင်ပြည်ကို ကြွယ်ဝသော ပြည်ထောင်စုအဖွဲ့ပြည်နယ်ဖြစ်သည်။ သို့သော် ချင်းပြည်နယ်က အဆင်းရဲဆုံးပြည်နယ်ဖြစ်သည်။ စီမံကိန်းတစ်ခုမှာ နိုင်ငံခြားကုမ္ပဏီ၏လုပ်ငန်းအမြတ် ပြည်နယ်အစိုးရကို (၂၀%)သာ ရမည်ဟု သိရှိသည်။

ချမ်းသာသော ပြည်နယ်နှင့် ဆင်းရဲသော ပြည်နယ်ခံစားခွင့်မတူသင့်၊ ဗိုလ်ချုပ်နေဝင်း၏ တော်လှန်ရေးကောင်စီခေတ် ၁၉၆၂မှ ၁၉၇၄ (၁၂နှစ်)၊ မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ တစ်ပါတီစနစ် ၁၉၇၄ မှ ၁၉၈၈ အထိ (၁၄နှစ်) စုစုပေါင်း ၂၆ နှစ်အတွင်းမှာ ၄၂ ကြိမ်မြောက် ကုလသမဂ္ဂအထွေထွေညီလာခံ ၁၉၈၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် ကျင်းပခဲ့သော ၉၆ ကြိမ်အစည်းအဝေးဆုံးဖြတ်ချက် ၄၂/ ၄၂၈ အရ ကမ္ဘာ့ဖွံ့ ဖြိုးမှုအနေးဆုံးနိုင်ငံ (အဆင်းရဲဆုံးနိုင်ငံ) စာရင်းသို့ သွတ်သွင်းခံလိုက်ရသည်။ (သန်းဝင်းလှိုင်– အာဏာရှင် ဗိုလ်နေဝင်း၏ဇာတ်သိမ်းခန်း–ရန်ကုန်၊ မုံရွေးစာပေ၊ ၂၀၁၃၊ စာ ၁၅၉)။ ၁၉၈၈ ခုနှစ်မှ ၂၀၁၀ခုနှစ်အထိ စစ်အာဏာရှင်စနစ် (နအဖ နှင့် နဝတကောင်စီ) နှစ်ပေါင်း ၂၀ နှစ်အတွင်းမှာ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကို ရွှေ/ပတ္တမြားနိုင်ငံဟုခေါ်ဆိုသော်လည်း ချင်းပြည်နယ်က အဆင်းရဲဆုံးနိုင်ငံဟု သတ်မှတ်ခြင်းခံခဲ့ရသည်။

**(ဃ)စစ်တပ်ဦးရေ**

ယနေ့ မြန်မာ့တပ်မတော်အင်အား သတင်းဂျာနယ်များအရ ငါးသိန်းဟု ဖော်ပြထားသည် တိုင်းရင်းသားလူနည်းစုနှင့် မြန်မာစကားပြောသူ ပါဝင်ခြင်း ကွာဟလွန်းသည်။ ရာထူးခန့် ပြဿနာလား၊ ဘာသာရေး၊ လူမျိုးရေးခွဲခြားခြင်းကြောင်းလား စဉ်းစားသင့်သည်။ နိုင်ငံခြားမှ စစ်တပ်လက်နက်ကိုင်များ (ဥပမာ)

ဝင်လာခဲ့ရင် မည်သည့်လူမျိုးသည်က အခဲအခက်ပထမကြုံရမှာလဲ၊ တိုင်းရင်းသားလူမျိုးနွယ်စု၊ လူနည်းစုများ ၁၉၄၇ မှ ၂၀၁၃ အထိ တိုင်းမှူးအဆင့်၊ ဗိုလ်ချုပ်ကြီးအဆင့် ဘယ်နှစ်ယောက် ရှိမည်နည်းဟု စဉ်းစားတွက်ကြည့်ဘို့လိုပါသည်။ ဗိုလ်ချုပ်အောင်ဆန်းပြောသလို ဟိုတုန်းက လူကို ယနေ့ လူမဟုတ်ဘူး၊ လူမျိုးတစ်မျိုးအကြားမှာ စိတ်မချရကြောင်းလည်း ဖြစ်တတ်သည်။ မြန်မာ့တပ်မတော်လား၊ ကာကွယ်ရေးတပ်မတော်လား၊ ပြည်ထောင်စုမြန်မာ့ တပ်မတော်လား၊ မြန်မာအမျိုးသားတပ်မတော်လား၊ တပ်မတော် ဖွဲ့စည်းပုံကိုလည်း လိုတာတစ်ခုရှိသလားလို့ စဉ်းစားပါသည်။

**၁၉၃၅ စစ်သားစာရင်း**

| စဉ်လူမျိုး | နိုင်ငံနေလူဦးရေး | စစ်သားဦးရေ |
|---|---|---|
| ၁။ ဗမာ | ၇၅.၁၁% | ၄၂၇ |
| ၂။ ကရင် | ၉.၃၄% | ၁၄၄၈ |
| ၃။ ချင်း | ၂.၃၈% | ၈၆၈ |
| ၄။ ကချင် | ၁.၀၅% | ၈၈၁ |
| ၅။အခြားလူမျိုးနှင့် နိုင်ငံခြားသား | ၉.၇၄% | ၁၆၁ |

စစ်သားကို ကြည့်သောအခါ ၁၉၄၈ မတိုင်မီ အင်္ဂလိပ်ခေတ်နှင့် ၁၉၅၂ အကြားမှာ တိုင်းရင်းသားလူနည်းစုများကို ဗိုလ်ချုပ်(ဗိုလ်မှူးကြီး၊ ဗိုလ်ကြီးရှိသော်လည်း ယခုအခါ

မြန်မာတိုင်းရင်းသား (ဗမာ)သာ ဗိုလ်ချုပ်နှင့် အထက် တိုင်းမှူးများ ဖြစ်သည်။ ပြည်တွင်းစစ်နှင့် နိုင်ငံခြားမှ စစ်လာခဲ့ရင် လူနည်းစုများ ထက် လူများစုများက စစ်ဒဏ်ခံရမည် ဖြစ်သည်။

၁၉၄၇ခုနှစ် ပင်လုံအစည်းအဝေးမှာ ဒေါက်တာ Vum Kho Hau က ချင်းပြည်နယ် ရရှိရေးထက် စီးပွါးရေး၊ ပညာရေး၊ ကျန်း မာရေး၊ လမ်းပန်းဆက်သွယ်ရေး၊ ဖွံ့ဖြိုးရေးကို အရေးကြီးသည်ဟု တင်ပြ၍ ကိုယ်ပိုင်စစ်သားပြန်လည်ဖွဲ့စည်းခြင်းကိုလည်း တောင်းဆို သည်။ ဤအချက်များကို ကြည့်သောအခါ ၂၅ ရာခိုင်နှုန်းလောက် သာ ပင်လုံစာချုပ်၏အနှစ်သာရခံစားရသည်ဟု ဆိုရမည်။

**(င)နိုင်ငံအမည်**

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံနှင့် မြန်မာနိုင်ငံအမိပွါယ် မတူပါ။ ပြည်ထောင်စု မြန်မာနိုင်ငံဗဟိုဘဏ်နှင့် မြန်မာနိုင်ငံ ဗဟိုဘဏ်၊ မြန်မာလူမျိုးနှင့် မြန်မာတိုင်းရင်းသား၊ နိုင်ငံသားအဓိပ္ပါယ် တူပါသလား၊ မြန်မာငွေကျပ်ပေါ် ဗိုလ်ချုပ်ရုပ်ပုံ၊ တိုင်းရင်းသား လူ နည်းစုများက ဗိုလ်ချုပ်အောင်ဆန်းသာ မြတ်နိုး၍ လွတ်လပ် ရေးဖခင်၊ ပင်လုံစာချုပ်လက်မှတ်ရေး ထိုးသူဖြစ်ဟု အလေးထား သည်။ ခြင်္သေ့ရုပ်ပုံက တိုင်းရင်းသားလူနည်းစုများကို လုံး၀ အကျိုးမပေး၊ နိုင်ငံရေးခေါင်ဆောင်လည်း မဟုတ်၊ လူတစ်ယောက်၏ ရုပ်ပုံလည်း မဟုတ်ဟု ခံယူပါသည်။ ဘာသာရေးအတွက်လား၊ ဗိုလ်ချုပ်ထက်အကျိုး ပေးလို့ ပိုမိုနှစ်သက်တာလား၊ မသိသေးပါ။

လူနည်းစုပေါင်းမှ လူများစု၊ လူမျိုးကြီး၊ နိုင်ငံ၊ ပြည်ထောင်စုဖြစ်ပေါ် လာသည်ဟု မမေ့သင့်ပါ။ လူတချို့က မြန်မာနိုင်ငံ၏အကျယ်အဝန်းမှာ ၁၂၆၁၂၂၈ စတုရန်းမိုင်ကျော်ရှိသည်ဟု ရေးသည်။ ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် အကျယ်အဝန်းမှာ ဘယ်လောက်ရှိသနည်း ဟု မေးလိုပါသည်။ တိုင်းရင်းသားများ၏ စည်းလုံးညီညွတ်ရေးပျက် ပြားစေသော ရေးသားခြင်း၊ စကားအသုံးအနှုန်းကိုလည်း သတိရ ဖို့ လိုလိမ့်မည်ဟု ယူပါသည်။

ချင်းလူမျိုးများကို မြန်မာနိုင်ငံတွင် နေထိုင်ခြင်းမဟုတ်ပါ။ သို့သော် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံထဲတွင် နေထိုင်ခြင်းသာ ဖြစ်သည်။

## (စ)ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတိုင်းနှင့်ပြည်နယ်

| | **နိုင်ငံအမည်** | **တည်ထောင်သူ** | **ခုနှစ်** |
|---|---|---|---|
| နိုင်ငံ | ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံ | ဗိုလ်ချုပ်အောင်ဆန်း | ၁၉၄၇/၁၉၄၈ |
| **တိုင်း** | **တိုင်းအမည်** | | |
| ၁။ | ရခိုင်တိုင်း | ဗြိတိသျှအစိုးရ | ၁၈၂၆ |
| ၂။ | ပဲခူးတိုင်း | ဗြိတိသျှအစိုးရ | ၁၈၅၂ |
| ၃။ | တနင်္သာရီတိုင်း–၁ | ဗြိတိသျှအစိုးရ | ၁၈၂၆ |
| ၄။ | တနင်္သာရီတိုင်း –၂ (မွန်) | ဗိုလ်ချုပ်ကြီးနေဝင်း | ၁၉၇၂ |
| ၅။ | ဧရာဝတီတိုင်း | ဗြိတိသျှအစိုးရ | ၁၈၈၁ |
| ၆။ | မကွေးတိုင်း | ဗြိတိသျှအစိုးရ | ၁၈၈၆ |
| ၇။ | မန္တလေးတိုင်း | ဗြိတိသျှအစိုးရ | ၁၈၈၆ |

| | | | |
|---|---|---|---|
| ၈။ | စစ်ကိုင်းတိုင်း | ဗြိတိသျှအစိုးရ | ၁၈၈၆ |
| ၉။ | ရန်ကုန်တိုင်း | ဗိုလ်ချုပ်ကြီးနေဝင်း | ၁၉၇၄ |
| ၁၀။ | ချင်းဝိသေသတိုင်း | ဗိုလ်ချုပ်အောင်ဆန်း | ၁၉၄၇ |

| **ပြည်နယ်** | **ပြည်နယ်အမည်** | | |
|---|---|---|---|
| ၁။ | ရှမ်းပြည်နယ် (ပြည်ထောင်စု ၁၉၂၂) | ဗိုလ်ချုပ်အောင်ဆန်း | ၁၉၄၇ |
| ၂။ | ကချင်ပြည်နယ် | ဗိုလ်ချုပ်အောင်ဆန်း | ၁၉၄၇ |
| ၃။ | ကရင်ပြည်နယ် | ဗိုလ်ချုပ်အောင်ဆန်း | ၁၉၄၇ |
| ၄။ | ကယားပြည်နယ် | ဦးနု | ၁၉၅၂ |
| ၅။ | မွန်ပြည်နယ် | ဗိုလ်ချုပ်ကြီးနေဝင်း | ၁၉၇၄ |
| ၆။ | ရခိုင်ပြည်နယ် | ဗိုလ်ချုပ်ကြီးနေဝင်း | ၁၉၇၄ |
| ၇။ | ချင်းပြည်နယ် | ဗိုလ်ချုပ်ကြီးနေဝင်း | ၁၉၇၄ |

| **ကိုယ်ပိုင် အုပ်ချုပ်ခွင့် ဒေသ/တိုင်း** | **တိုင်း/ဒေသအမည်** | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
|---|---|---|---|
| ၁။ | နာဂ – စစ်ကိုင်းတိုင်းမှ | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
| ၂။ | ဓနု – ရှမ်းပြည်နယ်မှ | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
| ၃။ | ပအိုင်း – ရှမ်းပြည်နယ်မှ | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
| ၄။ | ပလောင်း – ရှမ်းပြည်နယ်မှ | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
| ၅။ | ကိုးကန် – ရှမ်းပြည်နယ်မှ | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |
| ၆။ | ‘ဝ’ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း | **ဗိုလ်ချုပ်မှူးကြီးသန်းရွှေ** | **၂၀၀၈** |

- ၁၉၄၇ ခုနှစ်မှ ဖွဲ့စည်းသော ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များကို အမျိုးသားပြည်နယ်များဖြစ်၍ ပင်လုံစာချုပ် အရ ပေးအပ်သော ပြည်နယ်ဖြစ်သည်။
- ၁၉၇၄ ခုနှစ်မှ ဖွဲ့စည်းသော ပြည်နယ်များကို အမျိုးသား ပြည်နယ်အဖြစ် လက်ဆောင်ပေးသလိုဖြစ်သည်။
- ၂၀၀၈ ခုနှစ်မှ ဖွဲ့ စည်းသော ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသနှင့် တိုင်းကို နအဖအစိုးရနှင့် လက်နက်ကိုင်တပ်ဖွဲ့များ ပစ်ဆဲရပ် ရေးအတွက် ကတိပေးအတိုင်း အမျိုးသားဒေသနှင့် တိုင်းဖြစ် သည်။ လွှတ်တော်ဆုံးဖြတ်မလို အမိန့်ကြေညာဖြင့် ရ၍ ကံကောင်းသည်ဟု ဆိုရပါသည်။

## ၂။ တိုင်းရင်းသားလူနည်းစုများ၏အဓိက လိုလားသော အချက် (၄) ချက် (သို့) နေပြည်တော်သို့ ပို့သောစာ

ရက်စွဲ။ ။ ၁၈.၁၁.၂၀၁၃။
ရန်ကုန်။

သို့
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဖွဲ့စည်းပုံအခြေခံဥပဒေလေ့လာသုံးသပ်ရေးပူးပေါင်းကော်မီတီရုံး
ရုံးအမှတ် (၂၀) လွှတ်တော်ရုံး၊နေပြည်တော်။

**အကြောင်းအရာ။ ။<u>တိုင်းရင်းသားလူနည်းစုများအတွက် အဓိကလိုအပ်ချက် (၄)ချက်။</u>**

တိုင်းရင်းသားလူနည်းစုများ၏အဓိက လိုအပ်တောင့်တချက် (၄)ချက် ရှိသည်။ ၎င်းတို့မှာ-
၁။ အခန်း ၈၊ ပုဒ်မ ၃၆၀၊ ၃၆၁၊ ၃၆၃၊ ကိုးကွယ်သည့်ဘာသာ
၂။ အခန်း ၁ ပုဒ်မ ၂၂၊ တိုင်းရင်းသားများ၏စာပေမြှင့်တင်ရေး
၃။ အခန်း ၁ ပုဒ်မ ၂၂၊ အခန်း ၁၅၊ ပုဒ်မ ၄၅၀၊ ရုံးသုံးစာနှင့်ဘုံစကား
၄။ အခန်း ၈ ပုဒ်မ ၃၅၅၊ မည်သည့်အရပ်ဒေသမဆို နေထိုင်ခွင့်ပြုခြင်း

ဤအချက်လေးချက်ကို ဖွဲ့စည်းပုံအခြေခံဥပဒေထဲမှာ ပြဋ္ဌာန်း ခဲ့သော်လည်း လူနည်းစုများအတွက် အပြည့်အဝ မခံစားရသေးပါ။ လူနည်းစုများ၏ မူလအခွင့်အရေး ကိုယ်ပိုင်ပြဋ္ဌာန်းခွင့် မရပါ။

## ၁။ ကိုးကွယ်သည့်ဘာသာ

### ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၂၀။ ငြိမ်ဝပ်ပိပြားရေးနှင့်သော်၎င်း၊ ပြည်သူ့ကိုကိုယ်ကျင့်တရားနှင့်သော်၎င်း၊ ပြည်သူ့ကျန်းမာရေးနှင့်သော်၎င်း၊ ထို့ပြင်ဤအခန်းရှိပြဋ္ဌာန်းချက်တို့နှင့် ၎င်း မဆန့်ကျင်လျှင် လူခပ်သိမ်းတို့သည် သာသနာရေးအတွက် လွတ်လပ်စွာ ယူဆနိုင်သောအခွင့်အရေး၊ လွတ်လပ်စွာ ဆောက်တည်နိုင်သောအခွင့်အရေးတို့ကို အညီအမျှရရှိရမည်ဟု ဖော်ပြသည်။

၁၉၆၁ ခုနှစ်ဖွဲ့စည်းပုံအခြေခံ (စတုတ္ထပြင်ဆင်ချက်) အက်ဥပဒေ– အမှတ် ၂၀ကို ပုဒ်မ ၂ (၁)ဟု ပြင်ဆင်ရေးသား၍ လွတ်လပ်စွာယူဆနိုင်သော အခွင့်အရေး၊ လွတ်လပ်စွာ ကိုးကွယ်ဆောက်တည်နိုင်သော အခွင့်အရေးဆိုသည့် စကားရပ်အစား လွတ်လပ်စွာ ယူဆနိုင်သောအခွင့်အရေး၊ လွတ်လပ်စွာကိုးကွယ်ဆောက် တည်နိုင်သောအခွင့်အရေး၊ လွတ်လပ်စွာသင်ကြားနိုင်သော အခွင့်အရေး၊ ဆိုသည့် စကားရပ်ကို ထည့်သွင်းရမည်။

ခြွင်းချက်။ ။ ၂၀ (၂) တွင်– "သို့ရာတွင် မိဘ သို့မဟုတ် အုပ်ထိန်းသူတို့၏ စာဖြင့်ရေးသားထားသော ကြိုတင်သဘောတူညီချက်ကိုမရရှိဘဲ ကျောင်းများတွင် မည်သည့်အသက်မပြည့်သေးသူကိုမျှ ၎င်း၏မိဘကိုးကွယ်သည့်ဘာသာမဟုတ် သည့်မည်သည့်ဘာသာကိုမျှ သင်ကြားခြင်းမပြုရဟု ဖော်ပြသည်။

ပုဒ်မ ၂၁ (၁) ဗုဒ္ဓဘာသာ သာသနာတော်သည် နိုင်ငံတော်၏နိုင်ငံသား အများဆုံးကိုးကွယ်ရာဖြစ်သော ဂုဏ်ထူးဝိသေသနှင့်ပြည့်စုံသည့်ဘာသာကြီး ဖြစ်သည်ဟု ပြည်ထောင်စုနိုင်ငံတော်က အသိအမှတ်ပြုသည်။ (၁၉၆၁ခုနှစ် အက် ဥပဒေအမှတ် ၁၇ (တတိယပြင်ဆင်ချက် ပုဒ် ၂၁ ကို ကြည့်ပါ။)

(၂) နိုင်ငံတော်သည် အစ္စလမ်ဘာသာ သာသနာ၊ ခရစ်ယာန်ဘာသာ သာသနာ၊ ဟိန္ဒူဘာသာ သာသနာနှင့်နတ်ကိုးကွယ်သော ဘာသာတို့ကို အခြေခံ ဥပဒေအာဏာတည်သောနေ့၌ နိုင်ငံတော်တွင် ရှိနေကြသောကိုးကွယ်ရာဘာသာ အချို့ဟူ၍ အသိအမှတ်ပြုသည်။

**၁၉၇၄ ဖွဲ့စည်းပုံအခြေခံဥပဒေ**

ပုဒ်မ ၁၅၆(က) နိုင်ငံသားတိုင်းလွတ်လပ်စွာ တွေးတောကြံဆခွင့်၊ လွတ်လပ်စွာယုံကြည်ခွင့်၊ မည်သည့်ဘာသာ မဆိုလွတ်လပ်စွာကိုးကွယ်ခွင့်ရှိသည်။

(ခ)ပုဒ်မခွဲ(က)ပါ လွတ်လပ်မှုအခွင့်အရေးများရှိသော်လည်း လုပ်သားပြည်သူများ၏ အကျိုးစီးပွါးရေးအတွက်သော်၎င်း၊ စည်းကမ်းသေဝပ် တည်ငြိမ်ရေး အတွက်သော်လည်းကောင်း၊ ဥပဒေပြဌာန်းနိုင်သည်။

**၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ**

ပုဒ်မ ၃၆၀ (က) ဘာသာသာသနာရေးဆိုင်ရာ ကိုးကွယ်ဆောက်တည်မှုသည် စီးပွါးရေး၊ ဘဏ္ဍာရေး၊ နိုင်ငံရေး အခြားလော

ကိစ္စရေးရာ ဆောင်ရွက်မှုတစ်ခုခုနှင့်ဆက်စပ်နေပါက ပုဒ် ၃၄ ပါဘာသာသာသနာရေး ဆိုင်ရာ လွတ်လပ် ခွင့်များတွင် မပါဝင်စေရ။

(ခ)ထိုသို့ဘာသာသာသနာရေးနှင့်စပ်လျဉ်း၍ လွတ်လပ်သောအခွင့် အရေးများကို ပေးထား သော်လည်း အများ ပြည်သူအကျိုးကိစ္စနှင့် ပြုပြင်ရေးကိစ္စတို့အတွက် နိုင်ငံတော်၏ ဥပဒေပြုခြင်းကို မတားမြစ်ရ။

ပုဒ်မ ၃၆၁ နိုင်ငံတော်သည် ဗုဒ္ဓဘာသာ သာသနာတော်ကို နိုင်ငံတော် ၏နိုင်ငံသားအများဆုံး ကိုးကွယ်ရာဖြစ်သော ဂုဏ်ထူးဝိသေသနှင့်ပြည့်စုံသည့် ဘာသာသာသနာဖြစ်သည်ဟု နိုင်ငံတော်ကအသိအမှတ်ပြု သည်။

ပုဒ်မ ၃၆၂ နိုင်ငံတော်သည် ခရစ်ယာန်ဘာသာ သာသနာ၊ အစ္စလမ်ဘာသာ သာသနာနှင့် နတ်ကိုးကွယ်သောဘာသာတို့ကို ဖွဲ့စည်းပုံအခြေခံ ဥပဒေ အာဏာတည်သောနေ့၌ နိုင်ငံတော်တွင် ရှိနေကြ သောကိုးကွယ်ရာဘာ သာများဟု အသိအမှတ်ပြုသည်။

ပုဒ်မ ၃၆၃ နိုင်ငံတော်သည် အသိအမှတ်ပြုထားသော ဘာသာ သာသနာများကို တတ်နိုင်သမျှ ကူညီစောင့်ရှောက်မည်။

## လူနည်းစုများအတွက် ပြန်ဆင်စဉ်းစားရန်

ပြည်ထောင်စုမြန်မာနိုင်ငံတွင် ကိုးကွယ်သောဘာသာရေး အရ ဗုဒ္ဓဘာ သာမဟုတ်သောသူများကို လူနည်းစုများဟု ဆိုရမည်။ မြန်မာနိုင်ငံသားလူဦးရေ ယခုဆိုလျှင် သန်းပေါင်း ၆၀ ကျော်သည်ဖြစ် ၍ ဗုဒ္ဓဘာသာမကိုးကွယ်သောသူများကို သိန်း ၄၀ ကျော်လောက်

ဖြစ်မည်ဟု ၂၀၁၁ ခန့်မှန်းစာရင်းအရ သိရှိရသည်။ လွတ်လပ်စွာ ကိုးကွယ်ခွင့်ပြုသော်လည်း လွတ်လပ်စွာ သာသနာပိုင်နယ်မြေ ပိုင်ဆိုင်ခွင့်နှင့်သာသနာ့ အဆောက်အဦးများတည်ဆောက်ခွင့် မရရှိသေးပါ။ နိုင်ငံ တော်ဖွဲ့စည်းပုံအခြေခံဥပဒေမှာ လူအများစု (၇၅%) ဆန္ဒမဲဆိုးဖြတ်ချက်အတိုင်း ဟူသောစကားရပ်ကို တချို့ပြည် နယ်များတွင် အကျုံးဝင်မည့်ဥပဒေဖြစ်သော်လည်း နေရာဒေသအ လိုက် လူအများစုနှင့်လူအနည်းစုကို ဘာသာရေးအရ စဉ်းစား ခွဲခြားသုံးသပ်သင့်သည်။ ဥပမာ– ချင်းပြည်နယ်၊ ကချင်ပြည်နယ်၌ လူအများစုကို ခရစ်ယာန်ဘာ သာဝင်များဖြစ်၍ ဖွဲ့စည်းပုံအခြေခံ ဥပဒေကပြဌာန်းသော လူအများစုဟူသော စကားရပ်နှင့် ခွဲခြား သင့်သည်။ စာသင်ကျောင်း တစ်ချို့မှာ ကျောင်း သားများအား ဘာသာရေးနှင့်ဆိုင်သော ငွေကြေးကောက်ခံခြင်း၊ ဥပုဒ်နေ့တွင် ကျောင်းပိတ်၍ စနေနေ့တွင် အစားထိုးကျောင်းတက်ခြင်းကြောင့် ခရစ်ယာန်ဥပုဒ်အသင်း တော်များအတွက် စနေနေ့တွင် ဘုရားရှိခိုး ကျောင်းမတက်နိုင်တော့ပေ။ သူတို့ အတွက်လည်း စဉ်းစားပေး သင့်သည်။ ခရိုင်အဆင့်၊ ပြည်နယ်အဆင့်၊ တိုင်းအဆင့်၊ ပြည်ထောင်စု အဆင့်၊ လူအနည်းစုနှင့်လူ အများစုဟူသောစကားရပ်ကို အသုံး အနှုန်းနှင့်ခံစားခွင့်ကို ခွဲခြားပြဌာန်းသင့်သည်။ ဥပမာ– ရန်ကုန်မြို့ မန္တလေးမြို့ ကဲ့သို့သောမြို့ကြီးများတွင် ဘတ်စ်ကားပေါ်မှာ သံဃာ

တော်များအတွက် သီးသန့်ထိုင်ခုံ ဦးစားပေး၍ သံဃာတော်များကို ဦးစားပေးပါဟု စားရေးထားသည်။ လူတစ်ချို့က သံဃာတော်ကို ဗုဒ္ဓဘာသာ သာသနာပြုများကို ခေါ်ဆိုခြင်းဖြစ်၍ မြန်မာပြည်တွင် ဗုဒ္ဓဘာသာကိုးကွယ်သူများမှာ အများဆုံးဖြစ်သောကြောင့် ဦးစားပေး သင့်သည်ဟု ဆိုသည်။ လူတစ်ချို့က သံဃာတော်များဟူသော စကားရပ်ကို တခြားဘာသာဝင်များ၏ သာသနာပြု ဆရာသိက္ခာ တော်ရဆရာတော်များ(ဘုန်းကြီး) လည်း ပါဝင်သည်ဟု ဆိုသည်။ ခရစ်ယာန်ရာနှုန်းပြည့် ယုံကြည်သောချင်းပြည်နယ်၊ ကချင်ပြည် နယ်များတွင် သံဃာတော်များဟု စကားရပ်အစား ဆရာတော်များ (Pastor, Father) ရေးသင့် သည် ဟု ယူဆပါသည်။ ၂၀၁၁ ခုနှစ်မှာ မလေးရှားနိုင်ငံတွင် စကားတစ်လုံး အဓိပ္ပါယ်လွဲချော်သုံးနှုန်းခြင်း အားဖြင့် ပြဿနာဖြစ်ဖူးသည်။ ခရစ်ယာန်များ စာစောင်မှာ God နှင့် Allah တူသည်ဟု ရေးသားသောကြောင့် မွတ်ဆလင်ဘာ သာဝင်များ မကျေနပ်၍ ရောမင်ကသိုလိပ်ဘုရားကျောင်း အချို့မီးရှို့ခဲ့ သည်။ ဘာသာရေး စကား၊ ရိုးသုံးစကား များကိုလည်း နေရာဒေသ အလိုက် လူနည်းစုများအကျိုး ရှိအောင်၊ နားလည်သဘောပေါက် လွယ်ရန် သုံးသင့်သည်ဟု တင် ပြလိုပါသည်။

## ၂။ တိုင်းရင်းသားများ၏စာပေမြှင့်တင်ရေး

### ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၂၂ နိုင်ငံတော်ပညာသင်ကျောင်းများသို့ဝင်ခွင့်ပြုရန်ကိစ္စနှင့်စပ်လျဉ်း၍ ကိုးကွယ်ရာ ဘာသာလူမျိုးဘာသာစကား တို့ကိုအကြောင်းပြုကာမည်သည့်လူနည်းစုကိုမျှ ခွဲခြားတားမြစ်ခြင်း မပြုရ။ မည်သည့်ကိုးကွယ်ရာ ဘာသာ ရေးသင်ခန်းကိုမျှလည်း၊ ထိုလူနည်းစုအားအတင်း အကြပ်လိုက်နာ သင်ယူစေရန် ပညာတ်ခြင်း မပြုရ။

### ၁၉၇၄ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၂၁ (က)တိုင်းရင်းသားလူမျိုးများသည် မိမိတို့ကိုးကွယ်သည့် ဘာသာနှင့်ချစ်ခင်မြတ်နိုး သည့်စကား၊ စာပေ၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးတမ်းတို့ကို ဥပဒေများနှင့်ဖြစ်စေ၊ အများအကျိုးနှင့်ဖြစ်စေ မဆန့် ကျင်ရန် လွတ်လပ်စွာကိုးကွယ်ခွင့်၊ ပြုစုပျိုးထောင်ခွင့်၊ ပြောဆိုရေးသားခွင့်၊ ကျင့်သုံးခွင့်ရှိသည်ဟု ပြဌာန်းသည်။

### ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၂၂ (က) တိုင်းရင်းသားများ၏စကား၊ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှုတိုကို ကူညီ ဆောင်ရွက်မည်။

### လူနည်းစုများအတွက် ပြင်ဆင်စဉ်းစားရန်

ဖွဲ့စည်းပုံအခြေခံဥပဒေမှာ တိုင်းရင်းသားများ၏စာပေးမြှင့်တင် ရေးပြဌာန်းချက်ကိုလည်း စစ်အစိုးရခေတ် ၁၉၈၈မှစ၍

ယနေ့အထိ အစိုးရကျောင်းများတွင် တိုင်းရင်းသားများ၏ စာပေသင်ကြားခြင်းမရှိပါ။ သင်ကြားခြင်း ရှိသော်လည်း သီးသန့်လစာမပေးပါ။ ကျောင်းဆရာများက စေတနာဖြင့် သင် ကြားပေးခြင်းသာဖြစ်သည်။ ဥပမာ– ခရစ်ယာန်ချင်းလူမျိုးများက တိုင်းရင်းသား စာပေမပျောက်ကွယ်ရန် ဘုရားရှိခိုးကျောင်းမှာ ချင်းစာသင်ကြားပေးခြင်းသာ ဖြစ်သည်။ တိုင်းရင်းသားစာပေသင်ကြားခြင်းအတွက် နိုင်ငံတော်က ကျောင်းဆ ရာ/မများကို လစာပေးခြင်း၊ ထောက်ပံ့ခြင်း မရှိသေးပါ။ ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေမှာ လူနည်းစုများနှင့် စပ်လျဉ်းသော စာပေမြင့်တင်ရေး မတွေ့ပါ။ ကူညီဆောင်ရွက်မည်ဟုသာ ရေးသည်။ တိုင်းရင်းသားများဟူ သောစကားရပ်တွင် ဗမာ(မြန်မာစကားပြောသောသူ) များလည်း တိုင်းရင်းသားများဖြစ်သဖြင့် လူနည်းစုနှင့် လူများစု ခွဲခြားသင့်သည်။ စာပေပျောက်မှ စကားပျောက်သည်။ စကားပျောက်မှ လူမျိုးလည်း ပျောက်တတ်သည်။ စစ်မှန်သော ဒီမိုကရေစီမှာ လူနည်းစုအခွင့်အရေးလည်း ပြဋ္ဌာန်းရမည် ဖြစ်သည်။

**၃။ ရုံးသုံးစာနှင့်ဘုံစကား**

**၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ**

ပုဒ်မ ၂၆ မြန်မာစာသည် ရုံးသုံးဘာသာဖြစ်ရမည်။ သို့ရာတွင် အင်္ဂလိပ် ဘာသာကိုလည်း သုံးခွင့်ပြုသည်ဟု ပြဋ္ဌာန်းသည်။

### ၁၉၇၂ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၁၅၂ (က) နိုင်ငံသားတိုင်းသည် ပညာသင်ပိုင်ခွင့်ရှိသည်။

(ခ) မြန်မာစာသည် အများဆုံးသုံးစာ ဖြစ်သည်။ ကျန်တိုင်းရင်းသား များ၏စာများကိုလည်း သင်ကြားခွင့်ရှိသည်။

### ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ ၂၂ (က) တိုင်းရင်းသားများ၏စကား၊ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှုတို့ ကို ဖွံ့ဖြိုးစေရန် ကူညီဆောင်ရွက်သည်။

ပုဒ်မ ၄၅ မြန်မာစာသည် ရုံးသုံးစာ ဖြစ်သည်။

### လူနည်းစုများအတွက် ပြန်ဆင်စဉ်းစားရန်

စစ်မှန်သော ဒီမိုကရေစီနိုင်ငံများတွင် ဖွဲ့စည်းပုံအခြေခံဥပဒေမှာ ပြဋ္ဌာန်း သကဲ့သို့ လက်တွေ့မှာလည်း အကောင်အထည်ဖော်ခဲ့သည်ကို တွေ့ရသည်။ ဥပမာ– အိန္ဒိယနိုင်ငံ၊ မီးဇိုရမ်ပြည်နယ် (Mizoram) မှာ သူတို့ဘာသာစကားနှင့် ပါရဂူဘွဲ့အထိ (Ph.D)သင်ကြားခွင့်ရသည်။ MNF/A လက်နက်ကိုင်တပ်ဖွဲ့များနှင့် အန္ဒိယအစိုးရ ငြိမ်းချမ်းရေးစာချုပ်၏ ရလဒ် ဖြစ်သည်။ ၂၀၁၀ ခုနှစ်မှစ၍ Manipura ပြည်နယ်တက္ကသိုလ်များတွင် တတိယနှစ် သင်ခန်းစာတွင် Evan. Langh Do Khup, Tear Gospel Team's founder (ကလေးမြို့) ရေးထားသောစာအုပ်ကို စာကို ZOLAI "Khansauna Leh Hauhna Thusim" ဖြင့် သင်ကြားခဲ့သည်။ နိုင်ငံတော်ကလည်း ထောက်ပံ့ကူညီသည်။ ၁၉၄၇ အခြေခံဥပဒေအတိုင်း ဒေသအလိုက်လူနည်းစုများအတွက် အကျိုးရှိအောင် ဘာသာစကားကို

ပထမမြန်မာ၊ ဒုတိယ အင်္ဂလိပ်၊ တတိယပြည်နယ် နှင့်တိုင်း လူနည်းစုများ၏ ဘာသာစကားများကိုလည်း အသိအမှတ်ပြုသင့်သည်။

ချင်းလူမျိုးတစ်ယောက်က ရုံးစာမှာ သူ့နာမည်မဖတ်တတ်။ သူ့မှတ်ပုံတင်မှာသော်၎င်း၊ သူ့အိမ်ထောင်စုစာရင်းမှာသော်၎င်း၊ ရေးထားသော သူ့ နာမည်တောင်မှ မဖတ်တတ်ပေ။ ခရိုင်အဆင့်၊ ပြည်နယ်အဆင့်၊ အသိအမှတ်ပြု သောလူနည်းစုများ၏ ဘာသာစကားကို အသိအမှတ်ပြုသင့်သည်။ ထိုမျှမက အစိုး ရရုံးများနှင့် တပ်နယ်ခြံဝင်းရှေ့မှာ ရေးထားသော ဆိုင်းဘုတ်များကို မြန်မာစာနှင့် ရေးသားခြင်းကြောင့် ချင်းလူမျိုးတချို့ကမဖတ် တတ်သောကြောင့် ငွေဒဏ်ခတ်ခြင်းခံ ခဲ့ရသောသူလည်းရှိသည်။ လူတချို့က အိမ်ထောင်စုစရင်းမှာ သော်၎င်း၊ မှတ်ပုံတင်မှာသော်၎င်း၊ ကျောင်းသား ကတ်ပြား နှင့်အောင်လက်မှတ်မှာသော်၎င်း၊ သူ့ နာမည်ကို စာရေးသား သူများက မြန်မာနှင့်သာရေးသောကြောင့် မတူကြပေ။ ထိုသို့သော အခါ ဆယ်တန်းအောင်လက်မှတ်နှင့် နိုင်ငံကူး လက်မှတ်များပြုလုပ်သည့်အခါ နာမည်လွဲသောကြောင့် အခက်အခဲ ကြုံရသည်။ နိုင်ငံကူးလက်မှတ်ထုတ်ပေးရေးရုံးကနေ လဝကရုံး သွားသောအခါ ငွေထပ်ပေးမှသာ နာမည်အမှန် ရေးပေးခဲ့ပါသည်။ ဤနေရာတွင် ရုံးစာရေး ဝန်ထမ်းများမှားသလား၊ ကယကံရှင်မှာ သလား ခွဲခြား၍မရပေ။ မြန်မာစာနှင့် အင်္ဂလိပ်စာနှစ်ခုစလုံး ဒွန်တွဲပါ

က ချင်းလူမျိုးများနာမည်ကို ရေးမှားမည် မဟုတ်ပါ။

## ၄။ မည်သည့်အရပ်ဒေသမဆို နေထိုင်ခွင့်ပြုခြင်း ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ

ပုဒ်မ– ၃၅၅ နိုင်ငံသားတိုင်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ တော်အတွင်း မည်သည့်အရပ်ဒေသ၌မဆို ဥပဒေနှင့်အညီ အခြေစိုက်နေထိုင်ခွင့် ရှိသည်။

ပုဒ်မ– ၃၄၅ နိုင်ငံတော်သည် မည်သူကိုမဆို ဥပဒေအရာတွင် တန်းတူညီမျှအခွင့်အရေးရရှိစေရမည်။ ထို့ပြင်ဥပဒေ၏အကာအကွယ်ကိုလည်း တန်းတူညီမျှ ရယူပိုင်ခွင့်ပေး ရမည်ဟု ပြဋ္ဌာန်းသည်။

## လူနည်းစုများအတွက် ပြင်ဆင်စဉ်းစားရန်

အထက်ပါပုဒ် မ ၃၅၅ မှာ ပါရှိသော နိုင်ငံသားတိုင်းသည်ဟူသော စကားရပ်ကို အဓိပ္ပါယ်ဖွင့် ပုဒ်မ ၃၄၅ နှင့် ၃၄၆ မှာသော်လည်းကောင်း၊ လဝက–မြန်မာနိုင်ငံသား ဥပဒေ ၁၉၈၂ မှာလည်း ရှင်းပြသည်။ သို့သော် တချို့ရပ်ကွက်၊ ကျေးရွာ၊ အုပ်စု၊ မြို့နယ်၊ ခရိုင်၊ ပြည်နယ် နှင့်တိုင်းဒေသအုပ်ချုပ်ရေးမှူးများက အိမ်ဖွဲ့ပြီးအိမ်ထောင်စုစရင်းမရှိသောမိသားစုများကို ထောက်ခံစာမပေးသောကြောင့် လဝကရုံးကနေ အိမ်ထောင်စုစာရင်း ထုတ်ပေးခြင်းမရှိပါ။ ထို့ကြောင့် ထိုဒေသတွင် နေထိုင်သော ယာယီအိမ်ထောင်စုစာရင်းကိုင်ဆောင်သူများသည် ဒေသအတွင်း၌ အစိုးရမှ ခွဲတမ်းပေးသော တစ်ခုခုကို လျှောက်ဖို့ရန် ခက်ခဲသည်။

ဤကဏ္ဍတွင် နိုင်ငံသားတိုင်းသည် ဟူသောစကားရပ်နှင့် နိုင်ငံသားတိုင်း ကိုင်ဆောင်သော နိုင်ငံသားစစ်ဆေးရေးကတ်ပြား၏ အကျုံးဝင်ခြင်းမရှိသလို ဖြစ်သည်။ ထို့ကြောင့် ဤကိစ္စနှင့်ပတ်သက် သော လူနည်းစုများအတွက် ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင် သောနည်းလမ်းမရှိဘူးလား။

ရိုးကိစ္စနှင့်ပုဂ္ဂလိကရိုးကိစ္စမှာ လျှောက်လွှာတင်သော အခါ မှတ်ပုံတင် မူရင်းနှင့်မိတ္တူ အိမ်ထောင်စုစာရင်းမူရင်းနှင့်မိတ္တူ ရဲစခန်းထောက်ခံစာများ တောင်းဆိုပါသည်။ ဤစနစ်ကို ပြည်ထောင် စု သမ္မတမြန်မာနိုင်ငံတော်တစ်နိုင်ငံလုံး၏ စနစ်လည်းဖြစ်သည်။ ဝေးလံသောဒေသမှ မြို့ကြီးသို့ အလုပ်လျှောက်သော လူငယ်များနှင့် ယာယီအိမ်ထောင်စုစာရင်းနှင့် အိမ်ငှါးမိသားစုများအတွက် ဒုက္ခ ပေးသည်။ ရပ်ကွက်အုပ်ချုပ်ရေးမှူး ထောက်ခံစာနှင့်ရဲစခန်း ထောက်ခံစာကို အိမ်ထောင်စုစာရင်းမှာ ရေးထားသော ဒေသ/ရပ် ကွက်မှသာ လိုအပ်သည်ဖြစ်သဖြင့် ဤကိစ္စနှင့်ပတ်သက်၍ အုပ်ချုပ်ရေးမှူး ရုံးသော်လည်းကောင်း၊ ဌာနဆိုင်ရာအကြီး အကဲများ ကို သော်လည်းကောင်း၊ အစိုးရဘက် တစ်ယောက်နှင့်တစ် ယောက် ဆက်သွယ ပြီးမှ အဆင်ပြေဖို့ရန် လူနည်းစုများအတွက် အကျိုးရှိ အောင်လုပ်သင့်သည်။ ဤနေရာတွင် မှတ်ပုံတင်မှာ နိုင်ငံသားဖြစ်ခြင်း ၏ သက်သေခံကတ်ပြားကို အဓိပ္ပါယ်မဲ့ဖြစ် သည်ဟု ယူဆပါသည်။

မှတ်ပုံတင်ကတ်ပြားကိုင်ဆောင်ခြင်းသည် မြန်မာနိုင်ငံသား အသိအမှတ်ပြုသော သက်သေခံကတ်ပြားဖြစ်၍ တခြားစာရွက်စာတမ်းမလိုအပ်တော့ ဘဲ အဆင်ပြေအောင် အိမ်ထောင်စုစာရင်း အသစ်ကိုထုတ် ပေးခြင်း လူနည်းစုများအတွက် ရစေချင်ပါသည်။ အစိုးရရုံးတစ်ခုနှင့်တစ်ခု ဆက်သွယ်ရန် အမိန့်ပေးခြင်းမဟုတ်ပါ။ ဒုက္ခဆင်းရဲခံလူနည်းစုများ အတွက် အကျိုး ရှိဖို့ရန် ဆန္ဒဖော်ပြခြင်းသာ ဖြစ်ပါသည်။ ဥပမာ–စာရေးသူ၏ အတွေ့အကြုံအရ ၂၀၀၄–၂၀၀၆ ကိုးရီးယားနိုင်ငံမှာ ကျောင်းတက်သည့်အချိန်တွင် ကိုးရီးယားလဝကတို့က ခေါ်ယူစစ်ဆေး၍ သူတို့လဝက ရုံးမှထုတ်ပေးသော ညွှန်သည့် ကတ်ပြား (Alien Register Card) ထုတ်ပြ၍ ထိုကတ်ပြားတွင် ထုတ်ပေးသော လဝက ရုံးဖုန်းနံပါတ်ပါရှိသဖြင့် သူတို့ကိုယ်တိုင်ဖုန်းဆက်ပြီး ဟိုဘက်ရုံးမှ မှန်ကန်သည်ဟု ဆို၍ ပြန်လွှတ်လိုက်သည်။ ၂၀၀၉ ခုနှစ်တွင် ရန်ကုန်မြို့တော် နိုင်ငံကူးလက်မှတ် ထုတ်ပေးရေး ရုံးချုပ်တွင် တောင်ကြီးမြို့မှ လာသော အမျိုးသမီးတစ်ယောက် သူ့မှတ်ပုံတင်မှာ ပါသောမွေးနေ့နှင့် အိမ်ထောင်စုစာရင်းမှာပါသော မွေးနေ့ လွဲသွား၍ နိုင်ငံကူးလက်မှတ်ထုတ် ပေးခြင်း မပြုပါ။ သို့သော် ရုံးချုပ်မှာ ထိုင်သော အရာရှိရုံးသို့ အကူအညီတောင်း၍ အရာရှိကတောင်ကြီးလဝကရုံးကို ဖုန်းဆက်ပြီး ဒီကနေ ဒီအမျိုးသမီးမွေးနေ့ အိမ်ထောင်စုစာရင်းမှာ

၃ ရက်လို့ရေးမည်။ ဆရာတို့လည်း ၃ ရက်လို့ရေးပါလို့ အမိန့်ပေးသည်။ ၂၀၁၀ ခုနှစ်တွင် ကလေးမြို့၌ စာရေးသူ၏ညီမ တဝမ်းကွဲ မှတ်ပုံတင် ကူညီလုပ်ပေးသည်။ အိမ်ထောင်စုစာရင်းမှာ ရေးသည့်အတိုင်း သူ့မွေးနေ့နှင့် မှတ်ပုံတင်ထုတ်သည့်အခါ မွေးနေ့လွဲသွားခဲ့သည်။ ရုံးစာရေးမများကိုလည်း လူဆိုတော့မှားတတ်မှာပေါ့။ ဒါပေမဲ့ သူတို့ရေးမှားသော မွေးနေ့ကြောင့် ငါတို့ဒုက္ခရောက်တယ်။ ပိုက် ဆံထပ်မပေးဘူးဆိုရင် ပြန်လည် ထုတ်ပေးမှာမဟုတ်ဘူးဟု လဝက ရုံးက ပြောခဲ့သည်။ ပိုက်ဆံထပ်မပေးနိုင်သဖြင့် ဒီနေ့အထိ အိမ်ထောင် စုစာရင်းနှင့် မှတ်ပုံတင်မှာပါသော မွေးသက္ကရာဇ် မတူပါ။ ဤအကြောင်းနှင့်ပတ်သက်၍ အစိုးရ အရာရှိများကို အပြစ်တင်ချင်တာမဟုတ်ပါ။ ဆင်းရဲသောပြည်သူလူထု လူနည်းစု ဗမာစကားမပြောတတ်သောသူများအတွက် ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင် ခြင်းလိုသည်ဟု တင်ပြပါသည်။

ရိုသေလေးစားစွာဖြင့်

(ဦး ခမ်လမ့်တွှောင်)

မြန်မာဘာသာရေးလူနည်းစုများအခွင့်အရေးအဖွဲ့

Myanmar Minority Religious Right.

ကလေးမြို့ စစ်ကိုင်းတိုင်း။

လိပ်မူ–

ဥက္ကဌ ဦးနန္ဒကျော်စွာ

အတွင်းရေးမှူး ဦးအေးမောက်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေလေ့လာသုံးသပ်ရေးပူးပေါင်းကော်မီတီရုံး
ရုံးအမှတ် (၂၀) လွှတ်တော်ရုံး၊ နေပြည်တော်။
မိတ္တူ
- သာသနာရေးဝန်ကြီးဌာနရုံး
- ပညာရေးဝန်ကြီးဌာနရုံး
- ပြည်ထဲရေးဝန်ကြီးဌာနရုံး
- လူဝင်မှုကြီးကြပ်ရေးဝန်းကြီးဌာနရုံး

အထက်ပါအခြေခံဥပဒေနှင့်ပတ်သက်သည့် အကြံပြုလွှာများကို အခြေ ခံဥပဒေလေ့လာသုံးသပ်ရေးပူးပေါင်းကော်မတီကြေငြာထုတ်ပြန်ချက်ကို အခြေခံ၍ ပေးပို့ခြင်း ဖြစ်ပါသည်။ အခြေခံဥပဒေလေ့လာသုံးသပ်ရေးပူးပေါင်း ကော်မတီကို ၂၀၁၃ ခုနှစ်ဇူလိုင်လ ၁၇ ရက်နေ့တွင် အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်မှ လွှတ်တော်ကိုယ်စားလှယ် ၁၀၉ ဖြင့် ဖွဲ့စည်းထားပြီး အခြေခံဥပဒေပါ တွေ့ရှိချက်များကို ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်နေ့တွင် ပြည်ထောင်စု လွှတ်တော်သို့ တင်သွင်းရမည် ဖြစ်ကြောင်း နိုဝင်ဘာလပထမပတ်အတွင်း ကျင်းပသောပြည်ထောင်စုလွှတ်တော်က အတည်ပြုဆုံးဖြတ်ထားပါသည်။ (ညွှန်း- ပြည်သူ့ဆန္ဒဂျာနယ်၊ အတွဲ (၁)/အမှတ် ၃၁/၅-၁၂-၂၀၁၃၊ စာ ၂၆)။ **နောက်ဆက်တွဲ ကြေငြာချက် ၆ ကို ကြည့်ပါ။**

အခန်း ၇

# နိုင်ငံတော်ခေါင်းဆောင်များ သတ္တိရှိရန်လိုအပ်

## ၁။ ၁၉၆၂ ခုနှစ်မှ ၂၀၁၀ အထိ နိုင်ငံတော်သမ္မတများ

၁၉၆၂ ခုနှစ်၊ မတ်လ ၂ ရက်နေ့တွင် တော်လှန်ရေးကောင်စီသည် နိုင်ငံတော်ကို တာဝန်ယူ ထိန်းသိမ်းခဲ့ပါသည်။ ထိုအချိန်မှစ၍ နိုင်ငံရေး၊ အုပ်ချုပ်ရေး၊ စီးပွားရေး၊ ပြုပြင်ပြောင်းလဲမှု ဆောင်ရွက်မှုများ လုပ်ကိုင်ရင်း တစ်ဖက်ကလည်း အုပ်ချုပ်ရေးနယ်မြေများ ပြင်ဆင်ဖွဲ့စည်းကြောင်း တွေ့ရသည်။ နအဖ (စစ်အစိုးရ) ကောင်စီဥက္ကဋ္ဌ ဗိုလ်ချုပ်မှူးကြီးသန်းရွှေက ဦးသိန်းစိန် (သမ္မတ) လက်ထဲသို့ ၂၀၁၁ ခုနှစ်၊ မတ်လ (၂၀)ရက်နေ့မှ အာဏာလွှဲအပ်သည်။ ထိုကဲ့သို့ အာဏာရှိသော တော်လှန်ရေးကောင်စီဥက္ကဋ္ဌ၊ နဝတကောင်စီဥက္ကဋ္ဌ၊ နအဖကောင်စီဥက္ကဋ္ဌများကို သမ္မတဖြစ်သည်ဟု ဆိုရမည်။ ဥက္ကဋ္ဌက သဝဏ်လွှာလည်း ပို့လေ့ ရှိသည်။ ၁၉၇၄ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၆၆၊ ပုဒ်မခွဲ (က) နှင့် (ခ) ၁၉၈၅ ခုနှစ် ပြည်သူ့ကောင်စီလွှတ်တော် အမှတ် ၁၁ မှာ ပြဋ္ဌာန်းခဲ့သည့်အတိုင်းဆိုလျှင် –

(က)နိုင်ငံတော်ကောင်စီဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတဖြစ်သည်။
(ခ) နိုင်ငံတော်ကောင်စီဒုတိယဥက္ကဋ္ဌသည် နိုင်ငံတော်ဒုတိယသမ္မတဖြစ်သည်ဟု ရေးသည်။

၁။ ဗိုလ်ချုပ်ကြီးနေဝင်း (ဟောင်း/ဆုံး) နိုင်ငံတော်ကောင်စီဥက္ကဋ္ဌ (၁၉၇၄–၁၉၈၈)

၂။ဒေါက်တာမောင်မောင် (ဆုံး) နိုင်ငံတော်ကောင်စီဥက္ကဋ္ဌ (၁၂–၈–၁၉၈၈ မှ ၁၂–၉–၁၉၈၈ ထိ)

၃။ဗိုလ်ချုပ်ကြီး စောမောင် (ဆုံး) နဝတကောင်စီဥက္ကဋ္ဌ (၁၈–၉–၁၉၈၈မှ ၂၀–၄–၁၉၉၉)အထိ

၄။ဗိုလ်ချုပ်မှူးကြီးသန်းရွှေ (ငြိမ်း) နအဖကောင်စီဥက္ကဋ္ဌ (၂၀–၄–၁၉၉၁ မှ ၂၀–၃–၂၀၁၁)အထိ

၅။ဗိုလ်ချုပ်မှူးကြီးသိန်းစိန် (ဦးသိန်းစိန်) နိုင်ငံတော်သမ္မတ ပြည်ထောင်စုကြံ့ခိုင်ရေးနှင့်ဖွံ့ဖြိုးရေးပါတီ (၂၀၁၁ မတ်လ ၂၀ မှ ၂၀၁၅)။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် ၁၉၄၈ မှ ၁၉၇၄ အထိ ဝန်ကြီးချုပ်သည် အာဏာအရှိဆုံးဖြစ်သော်လည်း ၁၉၇၄ ခုနှစ် နောက်ပိုင်းမှ ဝန်ကြီးချုပ်ထက် နိုင်ငံတော်ကောင်စီဥက္ကဋ္ဌက သမ္မတထက် အာဏာရှိ၍ သမ္မတလည်းဖြစ်သည်ကို တွေ့ရသည်။ ထို့ကြောင့် ကျေးရွာ၊ ကျေးရွာအုပ်စု၊ မြို့နယ်၊ ခရိုင်၊ ပြည်နယ်နှင့်တိုင်း၊ နိုင်ငံတော်အဆင့်ဆင့်

ကောင်စီဥက္ကဋ္ဌများက သက်ဆိုင်ရာ ဌာန အကြီးအကဲများထက် အာဏာရှိသည် ဖြစ်သည်။

မီဒီယာများတွင် ဦးသန်းရွှေ (ဗိုလ်ချုပ်မှူးကြီးဟောင်း)က နိုင်ငံတော်အစိုးရနှင့်ဆက်စပ်မှုရှိသည်။ အာဏာရှိသည် ဟု ငြင်းနေကြသည်။ ဤကိစ္စနှင့်ပတ်သက်၍ ကျွန်တော့်အမြင်နှင့် ပြောရမည်ဆိုလျှင် ဥပဒေအရဆိုလျှင် ဦးသန်းရွှေက အာဏာရှိသည်ဟု မပြောလိုပါ။ သို့သော် ဘာသာရေးရှုထောင့်နှင့် စိတ်ပညာအရဆိုရင် ခရစ်ယာန်ကျမ်းစာကိုသော်၎င်း၊ ဗုဒ္ဓဘာသာကျမ်းကိုသော်၎င်း၊ မူဆလင်ကိုရန် ကျမ်းကိုသော်၎င်း၊ ယုံကြည်သူများက ယနေ့အထိ ယုံကြည်လက်ခံနေဆဲ ဖြစ်ပါသည်။ သို့သော် ယင်းကျမ်းများကို ပြောဆိုသောသူများကို လူမျိုးထဲမှာ မြင်လို့မရပါ။ စကားလုံး (ဩဝါဒ) အမိန့် အသက်ရှင်နေဆဲ ဖြစ်ပါသည်။ ထိုကဲ့သို့ ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ ဦးသန်းရွှေအမိန့်နှင့် ရေးဆွဲခဲ့၍ သူ့စကားကို သူကိုယ်တိုင် လက်ခံအတည်ပြု ပြည်သူလူထုက မဲဆန္ဒဖြင့် အတည်ပြုသော အခြေခံဥပဒေစာအုပ် ဖြစ်သည်။ ဤအကြောင်းကို စဉ်းစားသောအခါ ဦးသန်းရွှေ ဆုံးသွားသည်ဖြစ်စေ၊ အသက်ရှင်နေသည်ဖြစ်စေ၊ ဦးသန်းရွှေ၏အာဏာတန်ခိုး ရှိသည်၊ မရှိသည်ဟု မပြောနိုင်ပါ။ ဆိုလိုသည်မှာ ဦးသန်းရွှေ၏စကားအမိန့် ဒီဖွဲ့စည်းပုံ အခြေခံဥပဒေ ပြည်ထောင်သမ္မတမြန်မာနိုင်ငံတော်က အသုံးပြုနေ

သည့် ကာလပတ်လုံး အသက်ရှင်နေသည်ဟု ပြောနိုင်သည်။ စကား လုံးအသက်ရှင် နေဆဲဖြစ်သည်ကို အဓိက အရေးကြီးသည်။ ဥပမာ အားဖြင့်– ၂၀၀၂မတ်လတွင် ဦးနေဝင်းက နအဖအစိုးရကို အမိန့်ပေး၍မရသောအခါ အာဏာပြန်သိမ်းဖို့ သူ့ သမီးစန္ဒာဝင်းနှင့် သားမက်များက ကြိုးစားနေသည်ကို တွေ့ရသည်။ ထိုအချိန်တွင် ဦးနေဝင်းအသက် ရှင်နေသေးသော်လည်း ဦးနေဝင်းစကားသည် နအဖ အစိုးရအတွက် အသက်မရှင်တော့ကြောင်း နအဖ အစိုးရအ ပေါ်မှာ အာဏာမရှိပါ။ ဦးသန်းရွှေက အငြိမ်းစားယူခဲ့သော်လည်း သူ့စကားသည် အသက်ရှင်နေသေးသလားဟု စဉ်းစားစရာပင်။

## ၂။ ဗုံးပေါက်ကွဲခြင်း (၂၀၀၅မှ ၂၀၁၃ ခုနှစ်)

- ၂၀၀၅ ခုနှစ် မေ ၇ ရက်၊ မင်္ဂလာတောင်ညွန့်မြို့နယ်ရှိ ရန်ကုန် ကုန်သွယ်မှု ဗဟိုဌာန၊ မရမ်းကုန်းမြို့နယ်ရှိ ဈေးဝယ်စင်တာ၊ စမ်းချောင်းမြို့နယ်ရှိ ဒဂုံစင်တာတို့တွင် အချိန်၄၊မိနစ် စီခြား၍ ဗုံးပေါက်ကွဲမှုဆက်တိုက်ဖြစ်ပွားခဲ့။ ဗုံးပေါက်ကွဲမှုကြောင့် ၁၁ ဦး သေဆုံးခဲ့ပြီး ၁၆၂ ဦး ဒဏ်ရာရရှိခဲ့။ ဗုံးပေါက်ကွဲမှုဖြစ်စဉ် များသည် KNU ၊ ရှက်ဆစ်ဦးစီးသော SSA ၊ KNPP နှင့် ပြည်ပြေးစိန်ဝင်းဦးဆောင်သော NCGUB တို့၏ လက်ချက်ဖြစ် ကြောင်း အစိုးရထုတ် သတင်းစာများတွင် ဖော်ပြခဲ့။

- ၂၀၀၅ ခုနှစ်၊ အောက်တိုဘာ ၂၁ ရက် ရန်ကုန်မြို့ ဆူးလေးဘုရားလမ်းနှင့် ဗိုလ်ချုပ်အောင်ဆန်းလမ်းထောင့်ရှိ ကုန်သည်ကြီးများဟိုတယ် ဆိုင်းဘုတ်အနီးတွင် ပေါက်ကွဲမှုတစ်ခုဖြစ်ပွားခဲ့။
- ၂၀၀၆ ခုနှစ်၊ ဇန်နဝါရီ ၈ ရက် စစ်ကိုင်းတိုင်း၊ တမူးမြို့နယ်၊ နန်းဖာလုံဈေးတွင် ဗုံးပေါက်ကွဲမှုများဖြစ်ပွား။
- ၂၀၀၆ ခုနှစ်၊ ဇန်နဝါရီလ ၃၀ ရက် ဖြူးမြို့စည်ပင် သာယာဈေးအတွင်း ဆိုင်ခန်းတစ်ခန်း၌ မသင်္ကာဖွယ် အထုပ်တစ်ထုပ်ထားရှိသွားသည်ကို တွေ့ရ၍ ဘေးကင်းရာသို့ ပြောင်းရွှေ့ပြီး စောင့်ကြပ်ကြည့်ရှုစဉ် ပေါက်ကွဲမှု ဖြစ်ပွား။
- ၂၀၀၆ ခုနှစ် ဖေဖော်ဝါရီ ၇ ရက် ရန်ကုန်–မန္တလေးရထားလမ်း၊ ကွင်းချောင်းတံတား၊ ရထားသံလမ်းပေါ်တွင် မိုင်းနှစ်လုံးတွေ့ရှိ၊ ထိုနေ့မှာပင် ပေါက်ကွဲစေရန် အသင့်ချိန်ရွယ်ထားသည့် ၃ ဒသမ ၅ ရှေ့ကတက်လောင်ချာ သီးတစ်လုံးနှင့် အချိန်ကိုက်ထားသော စားပွဲတင်နာရီနှင့် ပူးတွဲချည်နှောင်ထားသည့် ဗုံးသီးတစ်လုံးအား သိမ်းဆည်းရမိ။
- ၂၀၀၆ ခုနှစ် ဖေဖော်ဝါရီ ၂၃ ရက် ပဲခူးတိုင်း၊ တောင်ငူမြို့နယ်အတွင်း၌ မန္တလေး–ရန်ကုန် ရထားလမ်း မိုင်တိုင်းအမှတ် ၁၇၆/၂၁၊ ရထားသံလမ်းအောက်တွင် တီအင်န်တီယမ်းခုနှစ်ပေါင်း ယမ်းပျော့မှုန့်တစ်ပေါင်၊ ရိုးရိုးယမ်းတစ်ပေါင်၊ ဒစ်တိုနေတာ ၁၂ ခု၊ ဓာတ်ခဲအလုံး ၂၀ တို့အား သိမ်းဆည်းရမိ။

- ၂၀၀၆ ခုနှစ် ဧပြီ ၂၀ ရက် ရန်ကုန်မြို့ နေရာခြောက်ခုတွင် အသေးစား ဗုံးပေါက်ကွဲမှုဖြစ်ပွား။
- ၂၀၁၀ ပြည့်နှစ် ဧပြီ ၁၅ ရက် မင်္ဂလာတောင်ညွန့်မြို့နယ်၊ ကန်တော်ကြီးကန်ပတ်လမ်းရှိ $X_2O$ ရေကစားမဏ္ဍပ်ရှေ့တွင် ဗုံးသုံးလုံး ဆက်တိုက်ပေါက်ကွဲခဲ့။ ရှစ်ဦးသေဆုံးပြီး ၁၇၀ ဦး ဒဏ်ရာ ရရှိခဲ့။ အဆိုပါဖြစ်စဉ်တွင် ကိုဖြိုးဝေအောင်အား တရားဟုဆိုကာ သေဒဏ်ချမှတ်ခဲ့ပြီး လွတ်ငြိမ်းချမ်းသာခွင့်ဖြင့် ပြန်လည်လွတ်မြောက်ခဲ့ပြီးနောက် ကင်ဆာရောဂါဖြင့် ကွယ်လွန်။ ဗုံးပေါက်ကွဲမှုနှင့် ပတ်သက်ပြီး ကိုဖြိုးဝေအောင် တွင် အပြစ်မရှိကြောင်း ၎င်း၏ မိသားစုဝင်များက သတင်းစာရှင်း လင်းပွဲ ပြုလုပ်ပြီး ထုတ်ဖော်ပြောကြားခဲ့။
- ၂၀၁၁ ခုနှစ် ဧပြီ ၉ ရက် ပုဇွန်တောင်ဈေးအနီး ရွှေမြန်မာထီ ဆိုင်ရှေ့တွင် မသင်္ကာဖွယ်ရာ စက္ကူဗုံးတစ်ခုတွေ့ရှိခဲ့ပြီး ရှင်းလင်းခဲ့ရ။
- ၂၀၁၁ ခုနှစ်၊ မေ ၁၈ ရက် ရန်ကုန်–မန္တလေးအမှတ် (၃) အဆန် ရထားတွဲအမှတ် (၃) နေပြည်တော် ရွှေမြို့ဘူတာ အနီးတွင် ပေါက်ကွဲမှုဖြစ်ပွားပြီး လူခြောက်ဦး ဒဏ်ရာရရှိ။
- ၂၀၁၁ ခုနှစ် ဇွန် ၃ ရက် ရန်ကုန်မြို့ ဗိုလ်အောင်ကျော်လမ်းရှိ အာလာဒင် Recreation Centre တွင် မိုင်းဗုံးဟု သံသယ ဖြစ်ဖွယ် ပစ္စည်းများကို သက်ဆိုင်ရာ စစ်ဆေးခဲ့။

- ၂၀၁၁ ခုနှစ် ဇွန် ၁၁ ရက် နေပြည်တော် ဇမ္ဗူသီရိမြို့နယ်၊ မြို့မဈေး အများသုံး သန့်စင်ခန်းအတွင်း ဗုံးပေါက်ကွဲပြီး လူသုံးဦး ဒဏ်ရာရရှိ။
- ၂၀၁၁ ခုနှစ် ဇွန် ၂၄ ရက် နေပြည်တော်ဇမ္ဗူသီရိမြို့နယ် သပြေကုန်းရပ်ကွက် ငုဝါလမ်းတွင် ပေါက်ကွဲမှုတစ်ခုဖြစ်ပွားခဲ့။
- ၂၀၁၁ ခုနှစ် ဇွန် ၂၄ ရက် မန္တလေးမြို့ချမ်းအေးသာစည်မြို့နယ်၊ ဈေးချိုတော် ၈၄ လမ်း၊ ၂၇ လမ်း ၂၈ လမ်းကြား မန်းမြန်မာပလာဇာရှေ့နှင့် မျက်နှာချင်းဆိုင်ရှိ ဈေးချိုဟိုတယ် မြေညီထပ်ရှေ့တွင် ရပ်ထားသော ကားတစ်စီး၌ ဗုံးပေါက်ကွဲခဲ့ပြီး လူသုံးဦး ဒဏ်ရာရရှိ၊ အဆိုပါနေ့၌ပင် မန္တလေးဈေး ချိုဟိုတယ်ရှေ့တွင် ပေါက်ကွဲမှုဖြစ်ပွားခဲ့ပြီး နောက်ထပ်သုံး နာရီခန့်အကြာတွင် ၈၄ လမ်း၊ ၃၁ လမ်းနှင့် ၃၂ လမ်းကြားရှိ သာသနာ့ဟိတအသင်း ဓမ္မသာလာအနီးရှိ အမှိုက်ပုံး၌ ဆေးဖြင့် ဗုံးဟု ရေးသားထားမှုကို တွေ့ရှိ၍ စစ်ဆေးခဲ့ရာ အမှိုက်ပုံးအတွင်း ဗုံးတွေ့ ရှိခဲ့ပြီး ဖောက်ခွဲဖျက်ဆီးရှင်းလင်းခဲ့ရ၊ ထိုနေ့မှာပင် ပြင်ဦးလွင်မြို့ ရပ်ကွက်ကြီး (၃)အကွက် အမှတ် (၄)ရှိ လူမနေသော အိမ်တစ်ခု၌ ပေါက်ကွဲမှုဖြစ်ပွားခဲ့။
- ၂၀၁၁ ခုနှစ် အောက်တိုဘာ ၂၅ ရက် ရန်ကုန်မြို့၊ သဃ်န်း ကျွန်းမြို့နယ် သံသုမာလမ်းမကြီးတစ်နေရာ၌ အငှား ယာဉ်တစ်

စီးပေါ်တွင် ပေါက်ကွဲမှုတစ်ခုဖြစ်ပွားပြီး လူတစ်ဦးသေဆုံးပြီး နှစ်ဦးဒဏ်ရာရရှိ။

- ၂၀၁၁ ခုနှစ် အောက်တိုဘာ ၃၀ ရက် ရန်ကုန်မြို့တော်ခန်းမရှေ့ ခြံဝန်းအတွင်း ယာဉ်များ ရပ်ထားသည့် နေရာ၌ ပြည်ပနိုင်ငံလုပ် M 75 လက်ပစ်ဗုံးတစ်လုံးတွေ့ရှိ၍ ဖောက်ခွဲဖျက်ဆီးခဲ့။
- ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ ၁၆ ရက် ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ နာနတ်တောလမ်းပေါ်ရှိ အဆောက်အအုံတစ်ခု၏ ရှေ့ခြာတ်တိုင် အုတ်ခုံပေါ်တွင် ဗုံးဟု ယူဆရသော မသင်္ကာဖွယ်ပစ္စည်း တွေ့ရှိသောကြောင့် သွားရောက်စစ်ဆေးခဲ့ရ။
- ၂၀၁၁ ခုနှစ် နိုဝင်ဘာ ၂၀ ရက် မင်္ဂလာဒုံမြို့နယ် ချစ်တီးကုန်း ရပ်ကွက် ဇေတဝန် ဘုရားဝန်းအတွင်း မသင်္ကာဖွယ် ရာ အထုတ် တွေ့ရှိ။
- ၂၀၁၁ ခုနှစ် ဒီဇင်ဘာ ၃ ရက် မူဆယ် ၁၀၅ မိုင်ကုန်သွယ်ရေး ဗုန်းအနီး ဗုံးပေါက်ကွဲမှုဖြစ်ပွားခဲ့ပြီး လူတစ်ဦး ဒဏ်ရာရရှိ။
- ၂၀၁၁ ခုနှစ် ဒီဇင်ဘာ ၂၁ ရက် ကမာရွတ်မြို့နယ် တက္ကသိုလ် ရိပ်သာလမ်းနှင့် ပြည်လမ်းထောင့်ရှိ တက္ကသိုလ် ရိပ်သာဝင်းနှင့် တစ်ဆက်တည်းရှိနေသော ပန်းခြံငယ်အတွင်း ဖွင့်ထားသည့် အများဆိုင် သန့်စင်ခန်း၌ ဗုံးပေါက်ကွဲခဲ့ ပြီး လူတစ်ဦးသေဆုံးကာ တစ်ဦးဒဏ်ရာရရှိခဲ့။ ထိုဖြစ်စဉ်မတိုင်မီက မြောက်ဥက္ကလာ

ပမြို့နယ်တွင် နေထိုင်သူ စိုင်းတင်မင်းကို (ခ) သက်လင်း၏ နေအိမ်အား ဝင်ရောက်ရှာဖွေခဲ့ရာ မိုင်းနှင့် ဆက်စပ်ပစ္စည်းများ ဖမ်းဆီးရမိခဲ့။

- ၂၀၁၁ခုနှစ်အတွင်း ကချင်ပြည်နယ်၌ အစိုးရနှင့် ကေအိုင်အေတို့ အကြား ဖြစ်ပွားခဲ့သော စစ်ရေးတင်းမာမှုများကို အကြောင်းပြုပြီး မိုင်းခွဲဖျက်ဆီးခံရမှုများ စုစုပေါင်းအကြိမ် (၁၀၀)ကျော်ရှိခဲ့။
- ၂၀၁၃ အောက်တိုဘာ ၉ ရက် ပဲခူးတိုင်း ဖြူးမြို့နယ် ဖြူးစာတိုက်ရှေ့ရှိ ခရီးသည်တင်ယာဉ်ပေါ်တွင် လက်လုပ်ဗုံးတစ်လုံး တွေ့ရှိခဲ့။
- ၂၀၁၃ အောက်တိုဘာ ၁၁ ရက် တောင်ငူမြို့နယ် ၁၇ ရပ်ကွက် ကန်လမ်းရှိ ချမ်းမြေ့ညွှန့်ရိပ်သာတွင် ဗုံးပေါက်ကွဲခဲ့ပြီး ရဲဝန်ထမ်း တစ်ဦးအပါအဝင် နှစ်ဦးသေဆုံးခဲ့။
- ၂၀၁၃ ခုနှစ် အောက်တိုဘာ ၁၃ ရက် ရန်ကုန်မြို့စော် ဘွားကြီးကုန်းအဝေးပြေးကွင်းဝင်းရှေ့တွင် ဗုံးပေါက်ကွဲရာ နေရာအနီးတွင် မပေါက်ကွဲဘဲ ကျန်ရှိနေသော ဗုံးတစ်လုံးရှာ တွေ့။ ထိုနေ့ညနေပိုင်းတွင် ရန်ကုန်မြို့ ဒေါပုံမြို့နယ်နှင့် သာကေတ မြို့နယ်ကြား ယမုံနာလမ်းဘေးရှိ ချိန်ကိုက်ဗုံးတစ်လုံး ပေါက်ကွဲပြီး နှစ်ဦးဒဏ်ရာရရှိခဲ့။ ထိုနေရာ၌ပင် မပေါက်ကွဲဘဲ ကျန်ရှိနေသော ယမ်းတုံးနှင့် ချိန်ကိုက်နာရီတစ်လုံး၊ ဝါယာကြိုး များ တွေ့ရှိခဲ့။

- ၂၀၁၃ အောက်တိုဘာ ၁၄ ရက် မန္တလေးမြို့ရှိ ရွှေဘဲစားသောက်ဆိုင်တွင် ဗုံးတစ်လုံးတွေ့ရှိခဲ့ပြီး ဖောက်ခွဲဖျက်ဆီး ခဲ့ရ။ ထိုနေ့နံနက်ပိုင်းတွင် ရန်ကုန်မြို့ ကမ်းနားလမ်းရှိ Western Park Ruby စားသောက်ဆိုင်အတွင်း ဗုံး (သို့မဟုတ်) ချိန်ကိုက်ဗုံးဟု ယူဆရ သောအရာတစ်ခုကို တွေ့ရှိခဲ့။ ထိုနေ့ညပိုင်းမှာပင် ရန်ကုန်မြို့ရှိ ကုန်သည်ကြီးများ ဟိုတယ်ကိုးထပ်ရှိ အခန်းနံပါတ် ၉၂၀ တွင် ဗုံးတစ်လုံးပေါက်ကွဲခဲ့ပြီး အမေရိကန်နိုင်ငံသူတစ်ဦး ဒဏ်ရာရရှိခဲ့။
- ၂၀၁၃ အောက်တိုဘာ ၁၅ ရက် စစ်ကိုင်းမြို့ရှိ ရွှေပြည့်စုံဟိုတယ် စားသောက်ခန်းတွင် ဗုံးတစ်လုံးပေါက်ကွဲခဲ့။ နာရီပိုင်းအကြာတွင် စစ်ကိုင်းတောင်ရိုးရှိ ဆွမ်းဦးပုညရှင် အဝင်လမ်းတွင် ဗုံးပေါက်ကွဲမှု ဖြစ်ပေါ်ခဲ့။ ထိုနေ့ညနေပိုင်းတွင် ရန်ကုန်မြို့ ဗုံးပေါက်ကွဲမှုများနှင့် ပတ်သက်ပြီး သံသယရှိသူတစ်ဦးကို မွန်ပြည်နယ်အတွင်း ဖမ်းဆီးရမိခဲ့ကြောင်း အစိုးရက သတင်းထုတ်ပြန်။ တောင်ငူမြို့တွင် ကျူးလွန်ခဲ့သူဟု သံသယရှိသူကို အမည်သိရှိရပြီး ဖမ်းဆီးနိုင်ရန် ဆက်လက်ကြိုးပမ်းနေဟုဆို။ (ညွှန်း– Daily Eleven News ၊ ၁၆–၁၀–၂၀၁၃ စာ – ၁၇)

## ၃။ မြန်မာမြေမြှုပ်မိုင်း ဗုံးအများဆုံးသုံးအဆင့်(၃)

၂၀၁၃ ခုနှစ် အောက်တိုဘာလ (၁) ရက်အထိ နိုင်ငံပေါင်း ၁၆၁ နိုင်ငံမှ မြေမြှုပ်မိုင်းတားဆီးရေးသဘောတူညီ မှု စာချုပ်ကို ရေးထိုးထားသော်လည်း လက်ရှိအချိန်အထိ မြန်မာနိုင်ငံအနေနှင့် ပါဝင်မှုမရှိသေးပေ။ မြေမြှုပ်မိုင်း အသုံးပြုမှုအများဆုံးနိုင်ငံများမှာ အာဖဂ္ဂနစ္စတန်၊ ကိုလန်ဘီယာ၊ မြန်မာ၊ ပါကစ္စတန်နှင့် ကမ္ဘောဒီး ယားနိုင်ငံတို့ ဖြစ်သည်။ မြန်မာနိုင်ငံတွင် မြေမြှုပ်မိုင်းအသုံးပြု ခြင်းကို (၁၉၉၉ မှ ၂၀၁၃ ထိ) ၁၄ နှစ်အတွင်း စစ်တမ်းကောက်ခဲ့ရာ တွင် လူပေါင်း (၃,၃၀၀) ခန့် ထိခိုက်ခဲ့ပြီးဖြစ်သည်။

မြေမြှုပ်မိုင်းအသုံးပြုမှုတားဆီးရေးအဖွဲ့တွင် လက်မှတ်ထိုး ပါဝင်နိုင်ခြင်းမရှိသည့်အချိန်မှာပင် တတိယနေရာ၌ ရှိနေသည်ဆိုရင် လက်မှတ်ထိုးပါဝင်လာရင် မြန်မာနိုင်ငံမှာဒုတိယအဆင့် အများဆုံး နေရာလောက်အထိ မြင့်တက်လာနိုင်သည်။ အမေရိကန် နိုင်ငံလုပ် မိုင်းတွေကို ခွင့်ပြုချက်မယူဘဲ ကပစ (ကာကွယ်ရေးပစ္စည်းစု ဆောင်း) ကနေထုတ်လုပ်အသုံးပြုနေတာကိုလည်း တွေ့ရ သည်ဟုအပြည်ပြည်ဆိုင်ရာ မြေမြှုပ်မိုင်းတားဆီးရေးအဖွဲ့ (ITCBL=International To Compaign Band and Landmines) က မြန်မာနိုင်ငံမြေမြှုပ်မိုင်း သုတေသန စစ်တမ်း ကောက်ယူမှု ပြုလုပ်နေသူ Mr. Yeshua Moser Puang Suwam က နိုင်ဝင်ဘာ

လ (၂၆) ရက်နေ့ (၂၀၁၃) ရန်ကုန်မြို့ တော်ဝင်နှင်းဆီခန်းမ ITCBL သတင်းစာရှင်း လင်းပွဲတွင် ဖြေကြားခဲ့သည်။ (ပြည်သူ့ဆန္ဒဂျာနယ်အတွဲ ၁/အမှတ် ၃၈/၅-၁၂-၂၀၁၃ စာ-၁၅)။

၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၆) ရက်နေ့တွင် မြေမြှုပ်မိုင်းနင်းမိကြောင့် ရှမ်းပြည်တောင်ပိုင်း အမျိုးသမီး (၄) ယောက် ဘယဘေးပင်ရှာဖွေခဲ့ရာ တစ်ယောက်သေဆုံး၍ သုံးယောက် ဒဏ်ရာရသည်။ ဒီဇင်ဘာလ (၆) ရက်နေ့တွင် မြေမြှုပ်မိုင်းနင်းမိကြောင့် အရပ်ဘက်ပြည်သူသုံးဦး ဆုံးသွားသည်ဟု ပလောင်အမျိုးသမီးများအဖွဲ့ ပြောဆိုချက်ကို ညွှန်း၍ Clear Path International) ကကြေညာခဲ့သည်။ CIP မြေမြှုပ်မိုင်း ရှင်းလင်းရေးအဖွဲ့ အကြီးတန်းအကြံပေး Mr. Love Mc Grath က "CPI ကို အမေရိကန်နိုင်ငံခြားရေးဌာနဝန်ကြီး ရန်ပုံငွေနဲ့ ထူထောင်ထားပြီး ဗီယက်နမ်၊ လာအို၊ ကမ္ဘောဒီးယား၊ အာဖဂန်နစ္စတန်နိုင်ငံတွင် မြေမြှုပ်မိုင်းဒဏ်ခံခဲ့ရတဲ့ အရပ်ဘက်ပြည်သူတွေနဲ့ အတူလုပ်ရှားဆောင်ရွက်နေတဲ့ အဖွဲ့ ဖြစ်ပါတယ်" ဟုရှင်းပြသည်။ (အိမ်ကြီးမောင်-ပြည်သူ့ဆန္ဒအတွဲ ၁/အမှတ် ၄၀/၁၉-၁၂-၂၀၁၃ စာ-၂၆)

## ဓာတုလက်နက်ပိတ်ပင်ရေးကို မြန်မာအသိအမှတ်ပြု တော့မည်

၂၀၁၃ ခုနှစ်၊ နိုင်ဝင်ဘာလ ၁၂ ရက်နေ့အင်္ဂါနေ့တွင် ကျင်းပသော နိုဘယ်ဆု ငြိမ်းချမ်းရေးဆုပေးပွဲ နော်ဝေနိုင်ငံ အော်စလိုမြို့မှာ ကျင်းပခဲ့သည်။ OPCW ခေါ်ဓာတုလက်နက် ပိတ်ပင်ရေးအဖွဲ့က ငြိမ်းချမ်းရေး နိုဘယ်ဆုရချီးမြှင့်ငွေ ဆုငွေ အမေရိကန်ဒေါ်လာ သန်း (၂) သိန်း ရရှိခဲ့သည်။ OPCW အဖွဲ့ချုပ်ညွှန် ကြားရေးမှူးချုပ် Mr. Ahmet UZumcu က မြန်မာ တောင်ပိုင်းဆူဒန်သမ္မတနိုင်ငံနှင့် အင်ရိုလာနိုင်ငံတွေအနှင့် ဓာတု ဗေဒလက်နက်ပိတ်ပင်ရေး စာချုပ်ကို တရားဝင် အသိအမှတ် ပြုဖို့ အခုစီစဉ်နေကြပြီ ဖြစ်ကြောင်း ထည့်သွင်းပြောကြားသည်။ အမေရိကန်နှင့် ရုရှားနိုင်ငံအနေနဲ့ သူတို့လက်ဝယ်ရှိ ဓာတုဗေဒ လက်နက်တွေ ဖျက်ဆီးဖို့ရန် အစ္စရေးလ်နိုင်ငံအနေနှင့်လည်း ဓာတုလက်နက် ပိတ်ပင်တားဆီးရေး စာချုပ်ကို တရားဝင်အသိ အမှတ်ပြုလိုက်နာဖို့ တိုက်တွန်းပါတယ်။ ဤဆုပေးပွဲတွင် ဆီးရီး ယားနိုင်ငံက ဓာတုလက်နက် ဖျက်သိမ်းဖို့ သဘောတူလိုက် နာခဲ့တာ ကိုလည်း OPCW ညွှန်ကြားရေးမှူးက အသိအမှတ်ပြု ခဲ့ပါသည်။ ၁၉၉၇ ခုနှစ်က ဖွဲ့စည်းခဲ့တဲ့ OPCW ဓာတုလက်နက် ပိတ်ပင်ရေး အဖွဲ့ကို ကမ္ဘာ့နိုင်ငံ ၁၉၀ က အဖွဲ့ဝင် အဖြစ်ပါဝင်လက် မှတ်ရေး

ထိုးထားပြီး မကြာခင်က နောက်ဆုံးလက်မှတ်ထိုးခဲ့တာကတော့ ဆီးရီးယားနိုင်ငံ ဖြစ်ပါတယ် ဟုပြောဆိုခဲ့သည်။ (ပြည်သူ့ဆန္ဒအတွဲ ၁/အမှတ် ၄၀/၁၉–၁၂–၂၀၁၃–စာ–၃၃)။ စစ်မှန်သော နိုင်ငံရေး၊ အမျိုးသားခေါင်းဆောင်များက မိမိတိုင်းပြည်၊ မိမိလူမျိုး၊ မိမိနိုင်ငံသားများအတွက် အသက်စွန့်ရဲသည်။ ထိုကဲ့သို့သော အမျိုးသားခေါင်းဆောင်များကို ဗိုလ်ချုပ် အောင်ဆန်း၊ မဟတ္တမာဂန္ဒီတို့က သတ္တိရှိ၍ ကျည်ဆန်မကြောက်၊ ဖုံးပေါက်ကွဲခြင်းလည်းမကြောက်သောကြောင့် အာဇာနည်ခေါင်းဆောင်များဟု ခေါ်ဆိုခြင်းကို ခံရသည်။ ဝန်ကြီးချုပ်ဟောင်း ဦးနုက ပြည်တွင်းဆူပူမှုကြောင့် တပ်မတော်လက်ထဲသို့ အာဏာအပ်နှင်း ခဲ့ခြင်း၊ ဦးနေဝင်းကလည်း ပြည်တွင်းဆူပူမှုကြောင့် ဦးနုကဲ့သို့ တပ်မတော်လက်ထဲသို့ အာဏာအပ်နှင်းခဲ့ခြင်းကို တွေ့ရသည်။ တိုင်းပြည်အတွက် အသက်ပေးလိုသော ပုဂ္ဂိုလ်များက နိုင်ငံတော်မတည်ငြိမ်မှုကို လက်နက်နှင့် မဖြေရှင်း၊ ဥပဒေနှင့်အသက်နှင့်သာ ဖြေရှင်းသည်။

ဝမ်းနည်းစရာတစ်ခုက နိုင်ငံသားလူဦးရေနည်းစုများကသာ ဥပဒေနားလည်၍၊ လူအများစုက ဥပဒေနားမလည်သောကြောင့် ဥပဒေကို မကြောက်၊ သေနတ်သံကိုသာကြောက်သည်။

အခန်း ၈

## ချင်းနှင့်ကချင်

### ၁။ချင်းနှင့်ကချင်ညီအစ်ကိုတော်များဖြစ်ခြင်း

ရှေးခေတ်ကာစ၌ချင်းနှင့်ကချင်တို့ကို တိုင်းရင်းသားလူမျိုးများထဲမှာ (Among the National Indegenous Races of Myanmar) ညီအကို ရင်းတော်များ ဖြစ်ကြသည်ဟု ပါးစပ်ရာဇဝင်မှာရှိသလို သမိုင်းမှတ်တမ်း များတွင်လည်းကောင်း၊ လက်တွေ့ရာဇဝင်မှာ လည်းကောင်း ယုံကြည်လက်ခံပါသည်။ တရုတ်ပြည်မှ မြန်မာပြည်သို့ ပြောင်းရွှေ့သောအခါ ချင်းလူမျိုးများနှင့် ကချင်လူမျိုးများကို တောထဲမှ ခွဲခွါခဲ့ရခြင်း ဖြစ်သည်။ ကချင်လူမျိုးများက ချင်းအစ်ကိုများ၏ ဓါးနှင့်ခုတ် ဖြတ်သောငှက်ပျောပင်များ၏ ရွက်နုများကို ရှည်လျားပြီးဖြစ်သောကြောင့် ခြေရာခံ၍ မလိုက်နိုင်တော့ပေ။ ထိုကြောင့် ယခုအခါ ကချင်ပြည်နယ်တွင် မှီတင်းနေထိုင်ကြခြင်း ဖြစ်သည်။ မြေပြန့်ချင်းများသည် ဧရာဝတီမြစ်တလျှောက် ပုဂံ(Pugam) အနီးတဝိုက်နှင့် ပုပ်ပါးတောင် (Pupa mual)အနီးတဝိုက်တွင် နေထိုင်၍ ယခုအခါ မြန်မာပြည် ဧရာဝတီတိုင်းအထိ၊ ရခိုင်ပြည်နယ်မှာလည်း နေထိုင်ကြသည်။ တောင်ပေါ်ချင်းများသည် အန္ဒိပြည်၊ ဘင်္ဂလားပြည်၊ တောင်ပေါ်များတွင် နေထိုင်သည်။

ချင်းနှင့်ကချင် တစ်ဝမ်းညီအကိုတော်စပ်ပုံကို Mr.W.J.S Carrapiett က ကချင်တိုင်းရင်းသားသမိုင်း တွင် ဤကဲ့သို့ရေးသည်။

"Dunau Nawng က သား(၆)ယောက်ရှိခဲ့၍ (၁) Tingrang-Gam (၂) Hka Mawn Naung (၃) Hka Man La တို့သည် Hkang (သို့မဟုတ်) Chin တို့၏ ဘိုးဘေးများဖြစ်ကြသည်။ သားကြီး Tingrang Gam မျိုးနွယ်စုများသည် အဝတ်အစား မဝတ်ကြပေ။ (Naked People) သားနံပါတ် (၄) Ka Saw Yaw Yin Tu (Yaw Yin) မျိုးနွယ်စုများကို ကချင်တို့က အများအားဖြင့် ရှိသေကိုင်းညွှန်သောသဘောဖြင့် "Zau" ဟုသုံးနှုန်းကြသော်လည်း "Karen" တို့ကမူ "Saw" ဟု အသံထွက်သည်။ သားနံပါတ် (၅) Atzi Sala နှင့် သားနံပါတ် (၆) Sadwe Mung nun Wa မှ ဆင်းသက်သောမျိုးနွယ်စုများကို Assam အိန္ဒိယပြည်ရောက်ခဲ့သည်။

Chin နှင့် Mung - nun တို့သည် Majo, Shingra Bum မှ ပထမဆုံးထွက်ခွာခဲ့ကြသူများဖြစ်သည်။ သူတို့သည် ဧရာဝတီမြစ် အနောက်ဘက်ကမ်းခြေအတိုင်း ဆင်းသက်လာခဲ့ကြရာ ယခုအခါ သူတို့အား အသံပြည်နယ် (မဏိပူရ၊ မီဇိုရာမ်၊ စစ်တကောင်း ပြည်နယ်) နှင့် ချင်းတောင်တန်းမှာ နေထိုင်ခဲ့ကြပါသည်။ (W.J.S. Carrpiet, The KaChin Tribes of Burma, Rangoon: Goverment printing, 1929 p. 2,3).

စကောကရင်များက သူတို့ကိုယ်ကို "ပတ်ကညော" ဟုခေါ်ဆိုပြီး ပိုးကရင်များက သူတို့ကိုယ်ကို "Ha-Falon" ဟုခေါ်ကြသည်။ A.B.M မှ Ba Te ၏ အဆိုအရ ကရင်ဝေါဟာရသည် တရုတ်စကား Chiang သို့မဟုတ် Kiang မှ ဆင်းသက်လာကြသည်ဟု ပြောကြားလိုက်သည်။ (Major.C.M.Enriquiez, Races of Burma, Delhi: Manager of Publications, Second edit, 1933, p.78). ကချင်ဟူသောဝေါဟာရကို မြန်မာတို့က တရုတ်တို့၏ စကားလုံး "yeren" လွှဲပြောင်းခေါ်ဝေါ်လိုက်ခြင်း ဖြစ်သည်ဟု ဆိုကြသည်။ "yeren" စကားလုံး၏ အဓိပ္ပါယ်မှာ "လူရိုင်း" ဟူ၍ ဖြစ်သည်။ "ကချင်" ဟူသော ဝေါဟာရသည် ကချင်စကားတွင် ပါဝင်ခြင်းမရှိပါ။ သို့ဖြစ်၍ ကချင်တစ်ယောက်အား ထိုအမည်ဖြင့် ခေါ်ဆိုခြင်းသည် စော်ကားရာရောက်သည်ဟု ယူဆသည်။ သူသည် Jinphaw ဟူသောအမည်ကိုသာ ဂုဏ်ယူစွာ အခေါ်ခံလေ့ရှိသည်။ "ဂျင်းဖော်" ဟူသည်မှာ "လူသားတစ်ယောက်" ဟု အဓိပ္ပါယ်ရသည်။ အာသံ ပြည်နယ် (Assam) တွင် ကချင်တစ်ယောက်အား Sing-Hpo ဟု အသိအမှတ်ပြု၍ခေါ်ဆိုကြသည်။ ကျွန်ုပ်၏ ထင်မြင်ချက်အရ Sing - Hpo ဟူသောစကားလုံးသည် ရှမ်းတို့မှ ဆင်းသက်လာသည်ဟု ယူဆသည်။ ယခုခေတ်တွင် မြိတ်ခရိုင်တောင်ဘက် (Siamese) တိုင်းတို့က လူမျိုးဟူသော

စကားလုံးကို "Sat" ဟုခေါ်ဆိုကြသည်။ (ဤစာအုပ် တကောင်းပြည် တည်ထောင်သူ စာမျက်နှာ - ၃၈ ကြည့်ပါ) ဥပမာအားဖြင့် SathKe = amalay = Sat Chin = a chinese Sat Thai a Siamese ဟူ၍ ဖြစ်သည်။

ကျွန်ုပ်အားမြန်မာပြည်နယ်စပ်ဒေသအရာရှိ Mr. FS. Grose ၏ သတင်းပေးချက်အရ Rev. Cushing ၏ ရှမ်းအဘိဓာန်စာအုပ်တွင် "Sat" သည် ရှမ်းစကားလုံးဖြစ်ပြီး လူမျိုးကို ခေါ်ဆိုခြင်းဖြစ်ကြောင်း ဖော်ပြ ထားသည်ဟုဆိုသည်။ ကျွန်ုပ်သည် ထိုအဆိုပြုချက်ကို ထောက်ခံရန်ဆန္ဒရှိသည်။ သို့ဖြစ်၍ ရှမ်းတို့က မြန်မာပြည်မြောက်ပိုင်းကို အုပ်စိုးခဲ့စဉ်က ကချင်တို့အား "Sat Chin" ဟုခေါ်ဆိုကြသဖြင့် "The Race of Chin" ဟုအဓိပ္ပါယ်ထွက်သည်။ Sat Chin ဟူသော စကားလုံးကို မြန်မာတို့က Sat အစား "Ka" ဟုပြောင်းလဲခေါ်ရာမှ ကချင်ဟူသော ဝေါဟာရဖြစ်ပေါ်လာသည်။ (Carrapiet, The KaChin Tribes of Burma နိဒါန်း)

ချင်းနှင့် ကချင်လူမျိုးများသည် ညီအစ်ကိုတော်သော လူမျိုးများ ဖြစ်သည်။ ချင်းလူမျိုးများကို (Chiang) "**ချင်** "ဟု အဘယ်ကြောင့် မခေါ်ဆိုကြတာလဲ ? (သို့) ကချင်လူမျိုးများကို အဘယ့်ကြောင့် (Ka Chin) "**ကချင်း**"ဟု မခေါ်ဆိုကြသနည်း။ ဤလူမျိုးနှစ်မျိုး၏ ခေါ်ဆို သုံးနှုန်းထားမှုများ စဉ်းစားစရာပင်

ဖြစ်ပေသည်။ မြန်မာ အက္ခရာမှာ “က” (Prefix) ကို သုံးနှုန်းထားပုံက လေးနက်စွာ စဉ်းစားသင့်ပါသည်။ ဗိုမီးနွယ်စုကလည်း အဖေအမေကို “**က**”နှင့်စပြီး KANU, KAPA ဟုခေါ်သည်။ တိဗက်မြန်မာစကားအနွယ်များက သုံးသောစကားဖြစ်မည်ဟု ယူဆသည်။ (ဥပမာ - ကချင်၊ ကယား၊ ကမန်း၊ ကရင်) ရခိုင်လူမျိုးများက “ခြင်း” ကို ကရာန် (Krang) ဟု ခေါ်၍ မြန်မာအက္ခရာဖြင့် ကလာန် (Klang) ဟု ရေး၍ ခြင်း (Krang) နှင့် (Klang) အသံထွက်နှင့် သတ်ပုံရေးမှားထားခြင်းကြောင့် “ ချင်း” ဟု ခေါ်ဆိုကြသည်ဟု ယူဆပါသည်။

**၂။ကချင်ဓါးအိမ်နှင့်အိပ်ခန်းသီးသန့်ထားခြင်း**

ကချင်တို့က အစ်ကိုကြီးချင်းတို့နှင့်ခွဲခွါခဲ့ကြသောအခါ အစ်ကိုကြီးချင်း တို့သတိရသည့်အနေဖြင့် အမှတ်တရအတွက် ဓါးအိမ်တစ်ပိုင်းကိုသာ ယနေ့အ ထိအသုံးပြုလေ့ရှိသည်။ ညီအစ်ကို နှစ်ယောက်မှ တစ်ယောက်ကိုပျောက်သည်ဟု အမှတ်အသားဖြစ်သည်။ အိမ်ဆောက်သောအခါတွင်လည်း အစ်ကိုကြီး ချင်းတို့ ပြန်လာသောအခါ အိပ်ရန် အိပ်ခန်းတစ်ခန်း ကုတင်နှင့် သီးသန့်ထားခြင်း ဓလေ့ထုံးစံ ရှိသည်။

## ၃။ချင်းက ကချင်များကို အိမ်ခွဲပေးခြင်း

၁၉၉၇ခုနှစ် ဇန်နဝါရီလ ၁၅-၁၉ ရက်နေ့အထိ ၁၁၆ ကြိမ်မြောက် ပြည့်သော မြန်မာနိုင်ငံ နှစ်ခြင်းအသင်းတော်ကောင်စီ (MBC) အစည်းအဝေးကို ချင်းပြည်နယ်၏မြို့တော်ဟားခါးမြို့တွင် ကျင်းပခဲ့ပါသည်။ ကချင်နှစ်ခြင်းကောင်စီ မှ (KBC) အထွေထွေအတွင်းရေးမှူး Rev. Sah Buai Chum က ဦးဆောင်ခဲ့ပါသည်။ များစွာသော ကချင်များတက်ရောက်မည်ဟု စီရင်ခဲ့သော်လည်း ဒုတိယ ဗိုလ်ချုပ်ကြီးခင်ညွန့်က ခွင့်မပြုဟု ဆိုပါသည်။ KBC (Kachin Baptist Convention) နှင့် ZBC (Zomi Baptist Convention) ခေါင်းဆောင် များအစည်းအဝေးသီးသန့်ပြု လုပ်ခဲ့ပါသည်။ ထိုအစည်းအဝေးတွင် KBC, အထွေထွေအတွင်းရေးမှူး Rev. Sah Buai Chum က ရှေ့ဦးစွာ စကားပြောဆိုခဲ့ရာ-

*"ချင်းများကို ငါတို့ ကချင်လူမျိုးများ၏ စစ်မှန်သော အစ်ကိုကြီးများ ဖြစ်သကဲ့သို့ ကချင်လူမျိုးများလည်း ချင်းလူမျိုးများ၏ ညီငယ်များဖြစ်ကြသည်။ ထိုကြောင့် ကျွန်ုပ်တို့၏ဓလေ့ထုံးစံအရ အစ်ကိုက ညီငယ်ကို ခွင့်ပြုမှသာ အိမ်ခွဲခြင်း ဖြစ်သည်။ ယနေ့မှစ၍ အစ်ကို ချင်းတို့က ညီငယ်ကချင်တို့ကို အိမ်ခွဲခြင်းခွင့်ပေး ၍ လက်ဆောင်တစ် ခုခုကို ပေးရမည်ဖြစ်သည်။"*

ZBC လူကြီးများကလည်း သီးသန့်အစည်းအဝေးပြု လုပ်၍ ညီငယ်ကချင်များ အိမ်ခွဲခြင်းပေးမည်၊ လက်ဆောင်လည်း ပေးမည်ဟု သဘောတူညီ ကြပါသည်။

ထို့ကြောင့် ၁၉၉၇ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့၌ Hakha မြို့ Zion Baptist Church ၌ KBC နှင့် ZBC ခေါင်းဆောင်များပါဝင်သော ချင်းလူမျိုးများ က ညီငယ်ကချင်တို့အား အိမ်ခွဲပေးခြင်း အစည်းအဝေးကျင်းပခဲ့သည်။ KBC ဘက်မှ လက်ဘက်ရည်နှင့်မုန့် ကျွေးခဲ့သည်။ KBC က မောင်း (Gong) လက်မောင်းတစ်ဆယ်ထွာ တစ်လုံးကို ZBC-Vice President, Pu Van Kyi လက်သို့ လက်ဆောင်အမွေပေးအပ်ခဲ့သည်။ Pu Van Kyi က အခေါက် တစ်ရာကြိုး ထုခဲ့သည်။ ZBC များကလည်း အိမ်ထောင်ခွဲအမွေအဖြစ် ညီငယ်ကချင် တို့ကို နွားနောက်မနှင့်က လေးကို ပေးအပ်ခဲ့သည်။ ချင်းတို့ကလည်း ဓါးအိမ် တစ်ခြမ်းကို ယနေ့မှစ၍ ဓါးအိမ်တစ်ခြမ်းမသုံးဘဲ၊ ချန်ထားသောအိမ်ခန်းသီးသန့် ကိုလည်း မထားရှိပါရန် မှာကြားခဲ့သည်။ အစ်ကိုတို့ချင်းများ လာသောအခါ ညီငယ်တို့နှင့် ကုတင်တစ်ခုပေါ်တွင် အတူတူအိပ်ရ မည်ဟု ပြောခဲ့သည်။

## ၄။ ကချင်တို့က အစ်ကိုကြီးချင်းတို့ကို မမေ့သေးဘူး။

၁၉၅၄ ခုနှစ်တွင် ရှမ်းပြည်နယ်တွင် မြန်မာစစ်သားများနှင့် ဗမာပြည် ကွန်မြူနစ်တပ်ဖွဲ့များ ပြင်းထန်စွာ တိုက်ခိုက်ခဲ့ကြသည်။ ထိုတိုက်ပွဲတွင် မြန်မာ စစ်သားများရှုံး၍ ထွက်ပြေးတိမ်းရှောင်ခဲ့သည်။ မြန်မာစစ်သားထဲတွင် ချင်းလူ မျိုးသုံးယောက် Capt. Hniar Ceu နှင့် အခြားနှစ်ယောက်ကို ဗကပတပ် ဆယ့်နှစ်ယောက်က ဖမ်းဆီးခဲ့သည်။ ထိုချင်းလူမျိုးသုံးယောက်တို့ကို ဗကပတပ်တို့က ကြိုးဖြင့် တုတ်ကာ သစ်ပင်ပေါ်တွင် ဆွဲချိတ်ခဲ့သည်။ ဗကပများက သူတို့အား သေနတ်ဖြင့် သတ်ပစ်ရန် ချိန်ထားသည့်အချိန်တွင် သူတို့နောက် ချုံနွယ်ပင်ကြား ထဲမှ ကချင်စစ်သား(KIA)သုံးယောက်က သေနတ် (G3) ဖြင့် ဗကပတို့ကို သေနတ်နှင့်ချိန်၍ လက်မြှောက်၍ သေနတ်ကို မြေပေါ်သို့ ချပါရန်အမိန့်ပေးခဲ့ သည်။ ကချင်စစ်တပ်များထဲမှ တစ်ယောက်က ကြိုးများကို ဖြေပေးပြီး ကျန်တစ်ယောက်က ဗကပတို့၏သေနတ်များကို ကောက်ယူခဲ့သည်။ ကချင်စစ်တပ်များက ချင်းသုံးယောက်ကို ဗကပတို့၏သေနတ်ကို ထမ်းခိုင်း၍ နီးစပ်ရာရွာ တစ်ရွာတွင် ထမင်းကျွေးခဲ့သည်။ ထမင်းစားပြီးနောက် ထမင်းစား စားပွဲကြီးတစ်လုံးမှာ ဝိုင်းထိုင်၍ ကချင်စစ်တပ်အရာရှိတစ်ယောက်က ချင်း Capt. Hniar Ceu အား မေးခွန်းတစ်ခုကို မေးခဲ့သည်။ ငါတို့သုံးယောက်ကို ဘာလူမျိုးထင်သလဲ ဟု မေးခဲ့

သည်။ ချင်းက "သင်တို့သုံးယောက်ကို ငါတို့ချင်းလူမျိုးများ၏ ညီငယ် ကချင် လူမျိုးများဖြစ်ကြောင်း မှန်ကန်စွာ သိသည်"ဟု ပြန်ဖြေသည်။ ကချင်စစ်တပ်ကလည်း ငါတို့သုံးယောက်ကလည်း သင်တို့သုံးယောက်ကို အစ်ကိုကြီးချင်း (Hkang)လူမျိုးများဖြစ် သည်ဟု သိသောကြောင့် တခြားလူများ၏ လက်ထဲမှာ မသေ စေချင်သောကြောင့် လာ၍ကယ်ခြင်းဖြစ်သည်ဟု ပြန် ပြောသည်။ ချင်းစစ်သားသုံးယောက်ကလည်း ဝမ်းမြောက်ဝမ်းသာစွာ မျက်ရည် ကျလေသည် ဟု ဆိုသည်။ (ညွှန်း- Dr. Kham Do Nang နှင့် ဖလမ်းမြို့နယ် သမဦးစီးမှူး ဥက္ကဌ Capt. Hniar Ceu တို့နှင့် တွေ့ဆုံး စကားပြောခြင်း ၁၉၇၈)။ Dr. Nang ရေးသည့်အတိုင်း ကချင်အမျိုး သားလွတ် မြောက်ရေးတပ်ဖွဲ့ (KIA) ၁၉၅၄ ခုနှစ်တွင် ဖွဲ့စည်းခဲ့ ပြီးဟန်တူသည်။ ထို့ကြောင့် ဒေါက်တာ ဇမ်းဒေါင့် က ၁၉၆၂ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်နေ့တွင် ဖွဲ့စည်းတည်ထောင်ခဲ့ခြင်းဖြစ်သည် ဟု ဆိုသည်။ စာရေးသူကလည်း အင်တာနက်မှာ ဤကဲ့သို့ပင် တွေ့ရှိသည်။ (၂၀၁၄၊ ဒီဇင်ဘာလ ၁၂)

အခန်း ၉

## အဆင်းရဲဆုံးချင်းပြည်နယ်မှ ခေါ်သံ

၂၀၁၁ ခုနှစ် စာရင်းအရ ချင်းပြည်နယ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတွင် အဆင်းရဲဆုံးသော ပြည်နယ်ဖြစ်သည် ဟု သတ်မှတ်ခြင်း ခံရသည်။ ဘာဖြစ်လို့ အဆင်းရဲဆုံးဖြစ်တာလဲ? သူတို့ ဘယ်နိုင်ငံသားလဲ? အကူအညီထောက်ပံ့ခြင်း နိုင်ငံတော်က မပေးဘူးလား? ဆင်းရဲလွန်းလို့ မတတ်နိုင်ဘူးလား? ၁၉၄၇ ခုနှစ် ပင်လုံစာချုပ်နှင့် ဖွဲ့စည်းပုံအခြေခံ ဥပဒေဖျက်သိမ်းသွား သောကြောင်း ဖြစ်သလော? လက်မှတ်ရေထိုးတဲ့ပုဂ္ဂိုလ်များ ဆုံးသွားလို့လား၊ စဉ်းစားသင့်သည့် အချက်ဖြစ်သည်။

၂၀၁၄–၂၀၁၅ ခုနှစ် ဘဏ္ဍာနှစ်အမျိုးသားစီမံကိန်းဥပဒေကြမ်းမှာ ချင်းပြည်နယ်တွင် ၂၆.၄ ရာခိုင်နှုန်းတိုးတက်ရန် နေပြည်တော်ကောင်စီ ၂၈ဒသမ ၂ ရာခိုင်နှုန်းတိုးတက်ရန် စီမံကိန်းရှိသည်။ (ကြေးမုံ ၁၇–၁–၂၀၁၄၊ စာ ၄၊) ချင်းပြည်နယ် ကလေးမြို့မှ ဟားခါး၊ တီးတိန်၊ တွန်းဇံ၊ ကျီးခါးမြို့နယ်ခွဲ ကားလမ်းများကို လှည်းကူးမြို့ (ရန်ကုန်မြို့) မှ ပဲခူးကားလမ်း လမ်းသွယ်အမှတ် (၄) လမ်းမကြီး အဆင့်လောက်သာ ရှိသင့်သည်။ ဒေါ်အောင်ဆန်းစုကြည် (NLD

ဧပြီ ၁၅) ချင်းပြည်နယ်ခရီးစဉ် ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီ ၇ ရက်၊ တီး တိန်မြို့ ၈ ရက် ဖလမ်းမြို့ ၉ ရက် ဟားခါးမြို့သို့ ရောက်ရှိခဲ့သည်။ ၈ ရက်နေ့ဖလမ်းမြို့တွင် ချင်းပြည်နယ်သည် မြန်မာနိုင်ငံတွင် အဆင်း ရဲဆုံးပြည်နယ်ဖြစ်၍ ဖွံ့ဖြိုးတိုးတက်ရေး အလေးထားပြောကြား သည်။ ဖွံ့ဖြိုးတိုးတက်သည့်တိုင်းပြည်ဖြစ်ဖို့ ပြည်နယ်နှင့်တိုင်းဒေသ ကြီးများအကြား တန်းတူ ဖွံ့ဖြိုးတိုးတက်ဖို့ လိုအပ်တယ်။ အကယ် ၍ ပြည်နယ်တွေနောက်ကျ ကျန်ရစ်ခဲ့လျှင် တိုင်းပြည်ဖွံ့ ဖြိုးမှာ မဟုတ်ဘူး။ တိုင်းရင်းသားတွေ လိုအပ်ချက် သိဖို့အစိုးရဟာ သူတို့ နဲ့ထိတွေ့နေရမည်။ ပညာရေးအတွက် အရင်းအမြစ်များ ပိုမိုပေးအပ် ဖို့ အစိုးရရဲ့တာဝန်ဖြစ်တယ် ဟု ဒေါ်အောင်ဆန်းစုကြည် ပြောကြားသည်။

ဦးသိန်းစိန် အစိုးရတက်၍ အောက်ပါအတိုင်း ချင်းပြည် နယ်ကိုလည်း တဖြည်းဖြည်း ဖွံ့ဖြိုးတိုးတက်တော့ မည်ဖြစ်သည်ဟု သိရှိရသည်။ ချင်းပြည်နယ်မှာလည်း ဖွံ့ဖြိုးရေးစီမံကိန်းကို ခွဲခြား မှုရှိသေးသည်ကို အောက်ပါအတိုင်း သိရှိရမည် ဖြစ်သည်။ တောင် ပိုင်း၊ မြောက်ပိုင်း၊ ခရိုင်၊ မြို့နယ်ဒေသအလိုက် ခွဲတမ်း မရတဲ့ ဒေသ လည်း ရှိသည်ကို တွေ့ရသည်။

## ၁။ ချင်းလူမျိုးနွယ်စုကွဲများ

ချင်းလူမျိုးနွယ်စုကွဲများ (၅၃) တွင် ချင်း ဟုရေးထားသည်။ စာရေးသူအနေဖြင့် ချင်းကို မျိုးနွယ်ကွဲအားလုံး၏မူပြု (ကိုယ်စား) ဖြစ်သောကြောင့် ခေါင်းစဉ်မှာ ချင်းဟု ရေးသင့်သည်။ အကြောင်းက ချင်းလူမျိုးများသည် အစ္စရေးလူမျိုးများကဲ့သို့ မျိုးရိုးစဉ်ဆက် ဇယားရေးသားသောလူမျိုးများ ဖြစ်သည်။ လူတစ်ယောက်၏သားသမီးများအမည်စာရင်းထဲတွင် အဖေ့နာမည် မရေးသင့်သကဲ့သို့ ဖြစ်သည်။

Chin Comprises (53) different ethnic groups (by the Government of Myanmar)- Department of international Affairs & Research, Ministry of Defense, Myanmar) မှ ကောက်နှုတ်ချက်။

1.Chin 2. Meithei (Kathe) 3. Saline

4. Ka-lin Kaw (Lushay) 5. Khumi 6. Awa Khami

7. Khuano 8. Kaungso 9. Khuangsai Chin 10. Khualsim

11. Khuangli-sim 12. Gunte (Lente) 13. Guite 14. Ngawnte

15. Zizam 16. Senthang 17. Saizang 18. Zahau 19. Zotung

20. Zophei 21. Zo 22. Zahngiat 23. Tapawng 24. Tedim

25. Teeizang 26. Taisun 27. Thahdo 28. Thor 29. Dim

30. Daai (Yindu) 31. Naga 32. Tangkhul 33. Malin 34. Panun

35. Magun 36. Matu 37. Miram- Mara 38. Mi-er 39. Mgam

40. Lusei 41. Laymyo 42. Lente 43. Lautu 44. Lai 45. Laizo 46. Zakim (Miro) 47. Hualngo 48. Anu 49. Anun 50. U Po 51. Linbu 52. Asho 53. Rawngtu

ဆလိုင်းကျဲ့အိုဘိခ်ထောင်းက (ceubikthawng@gmail.com) (နိုင်ငံတကာ အသက်သုံးဆယ်အရွယ်အောက် မျှော်လင့်ချက်ရှိသော နိုင်ငံရေးအတွေးအခေါ်ပညာရှင်တစ်ယောက် အဖြစ်ရွေးချယ်ခြင်း ခံရသည်–၂၀၁၃)။ (ခိုနူမ်းထုန်ဂျာနယ်၊ အတွဲ ၁၊ အမှတ် ၆၊ ၂၀၁၃။ စာ ၁၁) မှပြန်လည်ဖော်ပြထားသည်။ အထက်ပါချင်းလူမျိုးများထဲမှာ ချင်းလူမျိုးနွယ်စု ၅၃ သုံးခု သတ်မှတ်သော်လည်း တချို့ကမျိုးနွယ်နာမည် (Nam)များနှင့် ဒေသရွာ နာမည်များကို လည်းပါဝင်သည်။ ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်က ချင်းလူမျိုးနွယ်စုများကို ပြန်လည် စစ်ဆေးသင့်သည်ဟု ယူဆပါသည်။ ဥပမာ– ကသဲ လူမျိုးများသည် နိုင်ငံခြားသားများဖြစ်သည်။ မတ်လ ၁၆ ရက်၊ ၂၀၁၃ ခုနှစ်တွင် ဤချင်းလူမျိုးများစာရင်းမှ ဖျက်သိမ်းရန် နာဂလူမျိုးများက တောင်းဆိုသည်။ ချင်းလူမျိုးအဖြစ်ငြင်းဆိုခဲ့သည်။ ချင်းလူမျိုးထဲမှာ လူမျိုးနွယ်စု တစ်ချို့ကို မြန်မာအစိုးရ ဥပဒေအရ လူဦးရေ ငါးသောင်း ငါထောင် ထက်မနည်းသောလူမျိုးနွယ်စုများကို လူမျိုးတစ်မျိုးအဖြစ် သတ်မှတ်နိုင်သည်။ ထို့ကြောင့် ချင်းလူမျိုးနွယ်စုများတွင် မြို့နယ်အဆင့်၊ ခရိုင်အဆင့်၊ ပြည်နယ်အဆင့်၊ ပြည်ထောင်စုအဆင့်၊ ဘာသာစကားနှင့်လူဦးရေကို ကြည့်ပြီး

လူမျိုး အဖြစ် သတ်မှတ်သင့်သည်။ စာရေးသူအနေဖြင့်၊ လူဦးရေသုံးထောင်ထက်နည်းသောအထက်ပါ ချင်းလူမျိုးနွယ်ကွဲများကို မြို့နယ်အသိအမှတ်ပြုအဆင့် ဘာသာစကား တူသော လူဦးရေတစ်သောင်းထက်များသော လူမျိုးနွယ်များကို ခရိုင်အဆင့် လူမျိုးအဖြစ်သော်လည်းကောင်း၊ ငါးသောင်းထက်များသောဘာသာစကား တူလူမျိုးများကို ပြည်နယ်အဆင့် (သို့) ပြည်ထောင်စုလူမျိုး နွယ်စုများတွင်အဆင့်ဆင့် သတ်မှတ်သင့်သည်ဟု ယူဆပါသည်။ ဥပမာ– မီးဇိုရမ်ပြည်နယ်နှင့် မဏိပူရ ပြည်နယ်တို့တွင် ပြည်နယ်လူမျိုးများနှင့်တိုင်းရင်းသားလူမျိုးများဟု နှစ်မျိုးရှိသည်။ မီးဇိုရမ်ပြည်နယ်မှာမီးဇိုလူမျိုးနွယ် လိုင်၊ လိုရှဲ၊ မာရာ၊ မာရ်၊ ပိုင်သဲ ဟု သတ်မှတ်ပြီး၊ ကျတ္တမား– Chakma လူမျိုးများကို ပြည်နယ်လူမျိုးအဖြစ်သတ်မှတ်ခဲ့သည်။ ရခိုင်ပြည်နယ် ပြဿနာမှာလည်း ရိုဟင်ဂျာလူမျိုးများကို တိုင်းရင်းသား လူမျိုးများမှာ မထည့်သင့်၊ ရခိုင်ပြည်နယ်လူမျိုးများဟုသာ ရေးသင့်သည်။ ဤကဲ့သို့ချင်းလူမျိုးနွယ်စုသတ်မှတ်တိုင်းရင်းသား လူမျိုးများထဲမှာ လူမျိုးအမည်နှင့်ပြဿနာရှိသည်။ လူမျိုးကြီးလည်း ဖြစ်လာမှာ မဟုတ်ဘူး။ ဘုံစကားတစ်ခုရဖို့နှေးကွေးစေသည်။

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနပြည်ထောင်စု ဝန်ကြီး ဦးခင်ရီက ၂၀၁၄ ခုနှစ် လူဦးရေနှင့် အိမ်အာ

ကြောင်းအရာ ပြည်လုံး ကျွတ်သန်းခေါင်စာရင်းကောက်ယူခြင်းမှာ တိုင်းရင်းသားဖြစ်ရေး၊ မဖြစ်ရေး၊ တို့ကို အဓိက ထားခြင်းမဟုတ်ဘဲ လူဦးရေးစာရင်းကို ကောက်ယူခြင်းသာ ဖြစ်ကြောင်း ပြောကြား ခဲ့သည်။ သန်းခေါင်စာရင်းမှာ လူမျိုးစု ၁၃၅ မျိုးကို အခြေခံပြီး ထည့်သွင်းထားပါသည်။ တခြားသော လူမျိုးစုတွေရှိလာခဲ့ရင်လည်း ထည့်သွင်းစဉ်းစားသွားမှာပါ ဟု ပြောဆိုသည်။ သန်းခေါင်စာရင်းကို လွတ်လပ် ရေးရပြီးနောက်ပိုင်း ၁၉၇၃ ခုနှစ်တွင် ပထမအကြိမ်၊ ၁၉၈၃ ခုနှစ်တွင် ဒုတိယအကြိမ်ကောက်ယူခဲ့ပြီး၊ ယခု ၃၀ အကြား အတွင်းမှ ထပ်မံကောက်ယူနိုင် ခြင်းဖြစ်ကြောင်း၊ သန်းခေါင် စာရင်းကောက်ယူခြင်းသည် နိုင်ငံတော်အနေနဲ့ မည်သည့်နေရာမှာ မည်သို့ လုပ်ဆောင်ပေးရမည်ဆိုသည်ကို သိရန်ဖြစ်သည့် အတွက် မှန်မှန်ကန်ကန် ဖြေဆိုရန်လိုကြောင်း သန်းခေါင်စာရင်းကောက်ယူ ရာ၌ ပြည်သူများအဆင်ပြေအောင်၊ အဘက်ဘက်မှ စီရင်ထား ကြောင်း၊ နိုင်ငံသားမဟုတ်သူများကိုလည်း သန်းခေါင်စာရင်း ကောက်ယူပြီးချိန်တွင် အရည်အချင်းမီပါက နိုင်ငံသားအဖြစ် သတ်မှတ်မည်ဖြစ်ပြီး၊ ဥပဒေအရ နိုင်ငံသား ဖြစ်ခွင့်ပြုမည်ဖြစ်ကြောင်း၊ သန်းခေါင်စာရင်းကောက်ယူ နေ့မှာ လူဦးရေစာရင်းကို အဓိကထား ကောက်ယူခြင်းသာဖြစ်ပြီး အထင်အမြင်မလွဲမှားစေလို ကြောင်း ၎င်းက ဆက်လက်ပြောကြားခဲ့ သည်။ (ဇော်ထွဋ်– Reporter News Journal- December 15, 2013, Sunday, p.D)

**၂၀၁၄ ခုနှစ် သန်းခေါင်စာရင်းကောက်တဲ့အချိန်မှာ အရေးပါသောအချက်**

လူဦးရေးစာရင်းကောက်တဲ့အချိန်မှာ ညသန်းခေါင်ယံကို အခြေခံ၍ သန်းခေါင်စာရင်းကောက်ဟု ဆိုသည်။ ညသန်းခေါင်ယံမှာ ဘယ်သူမှ အပြင်မထွက်သောကြောင့် လူဦးရေအမှန်စာရင်း ရဖို့ ရည်ရွယ်ခြင်း ဖြစ်သည်။ ၂၀၁၄ ခုနှစ် မတ်လ ၃၀ ရက်နေ့မှ ဧပြီလ ၁၀ ရက်နေ့အထိ ပြည်လုံးကျွတ်လူဦးရေစာရင်း ကောက်ရမည် ဖြစ်၍ ၂၉ ရက်မတ်လ ညသန်းခေါင်ယံ ၁၂ နာရီနှင့် နံနက် ၂ နာရီအကြားမှာ ကောက်ရမည်ဟု သတင်းပျံ့နှံ့ ခဲ့သည်။ ကျောင်းဆရာ/မများက ကူညီရမည် ဖြစ်သည်။ UNO က ထောက်ပံ့ပေးသည်။ မကြိုက်တဲ့လူမျိုးအမည်ကို အတင်းအဓမ္မ ရေးခိုင်းခြင်း၊ ခြိမ်းခြောက်ခြင်းတွေရှိပါက တိုင်ကြားလို့ရသည်။

**လူမျိုးအမည် ထည့်သွင်းရေးသားနည်း**

(၁) နိုင်ငံတော်အစိုးရက မြန်မာတိုင်းရင်းသား လူမျိုးစာရင်း လူမျိုးနွယ်စု ၁၃၅ ထဲမှာ လူမျိုးအမည်တစ်ခုခု ရွေးချယ်လို့ရသည်။

(၂) သို့မဟုတ်၊ လူမျိုး ၁၃၅ ထဲမှာ မပါသောလူမျိုးအမည် သစ် (သို့မဟုတ်) မထည့်ရသေးသောလူမျိုးအမည်ကိုလည်း ရွေးချယ်လို့ရသည်။ ဥပမာ– ချင်းလူမျိုးနွယ်စုကွဲ ၅၃ မျိုးထဲမှာ Zo, Tedim, Thado, Hualngo, Lushei, တို့နှင့် တခြား ချင်းလူမျိုးထဲမှာ ပါဝင်ခဲ့

ပြီး ဖြစ်သည်။ ထို့ကြောင့် ဤလူမျိုးများ လူမျိုးနာမည်အဖြစ် မကြိုက်သောလူမျိုးများနှင့် ချင်းလူမျိုးမကြိုက်သောလူမျိုးများက လူမျိုးစာရင်း နံပါတ်– ၁၀ (Series No. 10)ဟု ရေးသည်။ တိုင်းရင်းသားလူမျိုး စာရင်းမှာ မပါသော အခြား ကုတ်နံပါတ် ၉၁၄ (Other Code No. 914) ဟု ရေးထားသည်။ ဤနံပါတ် ၁၀ နှင့် ၉၁၄ မှာ သင်ကြိုက်သောလူမျိုးအမည်– ဥပမာ၊ KUKI, MIO, ZOMI, MIZO, KHUMI, NAGA တစ်ခုခုကို ရေးရမည် ဖြစ်သည်။ ဤကဲ့သို့ တိုင်းရင်းသားလူမျိုး ၁၃၅ နှင့် ချင်းလူမျိုးနွယ်စု ၅၃ မှာ မပါဝင်သော နိုင်ငံသားလူမျိုး အမည်သစ် ဖြစ်လာမည်။ ချင်းလူမျိုးနံပါတ်ကို ၄၀၁ မှ စ၍ Chin-Rawngtu (Code No. 453) နှင့်ဆုံးသည်။ ဤကဲ့သို့ ဇိုမီးသော်လည်းကောင်း၊ မီးဇိုသော်လည်းကောင်း ရေးသားခြင်းသည် မြန်မာနိုင်ငံသားဖြစ်ခြင်း၊ နိုင်ငံခြားသားဖြစ်ခြင်းနှင့် လုံးဝမဆိုင်ပါ။ တိုင်းရင်းသားလူမျိုးများထဲမှာ လူမျိုးအမည်စာရင်း မဝင်သေးသော လူမျိုးများနှင့် လူဦးရေ သိရှိရန် ရည်ရွယ်ခြင်း ဖြစ် သည်။ တီးတိန်က တီးတိန်လူမျိုးဟု ရေးခဲ့လျှင် ချင်းလူမျိုးအနွယ်ဝင် ၅၃ ထဲမှာ ပါဝင်ခဲ့ပြီး ဖြစ်၍ ချင်းလူမျိုးဟု သတ်မှတ်ရမည်။ ဤဇိုမီးတို့က ချင်းလူမျိုးနွယ်ထဲမှာ Zomi တချို့က Zo စကားမပြောတတ်သောကြောင့် Zomi ကို ယေဘုယျအမျိုးသားနာမည် အဖြစ် ရေးရမည်။ ဘယ်သူ့လူမျိုး အမည်ကိုယ်စားပြုမ

ဟုတ်ပါ။ ဤ Zomi အမည်ကို သူတို့ အယူအဆမှာ Kuki-Chin, Zomi, Mizo မှုပြုသော ယေဘုယျ လူမျိုးအမည် ဖြစ်သည်။

## ၂။ ချင်းပြည်နယ် လမ်းပန်းဆက်သွယ်ရေး

၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ၊ ပုဒ်မ ၂၂ (ဂ)– တိုးတက်ဖွံ့ဖြိုးမှုနည်းပါးနေသည့် တိုင်းရင်းသားများ၏ပညာရေး၊ ကျန်းမာရေး၊ စီးပွါးရေး၊ လမ်းပန်း ဆက်သွယ်ရေး စသည်တို့ပါဝင်သော လူမှုစီးပွါးရေးတိုးတက်ဖွံ့ဖြိုးရေးအတွက် ကူညီဆောင်ရွက်မည်ဟု ပြဋ္ဌာန်းခဲ့သည်။ ဤဥပဒေကဲ့သို့ ၁၉၄၇ ပင်လုံအစည်း အဝေးတွင်လည်း ဒေါက်တာ ဝုမ်းခေါ်ဟော (Vum Khaw Hau) တို့နှင့်အဖွဲ့က နယ်မြေထက် ချင်းတောင်တန်းလမ်းပန်းဆက်သွယ် ရေးကို အဓိက လိုအပ်ကြောင်းတင်ပြသော အချက်ဖြစ်သည်။ ၁၉၄၃ ခန့် ဒုတိယ ကမ္ဘာစစ်အတွင်းမှာ ကလေးမြို့မှ ချင်းပြည် နယ်တီးတိန်မြို့ ကျီးခါးမြို့ မဏိပူရပြည်နယ်အထိ ကားကြီးနှစ်စီးပြိုင် မောင်းနိုင်သော ကျောက်ခင်းလမ်းကို ဖောက်လုပ်ပေးခဲ့ပြီး ခဖြစ်သော်လည်း ယခုအခါ နွေရာသီတွင် ဂျစ်ကားငယ်များသာ သွားလာနိုင်သည်။ ယခုအခါ တီးတိန်မြို့နယ်ထက် အခြားမြို့နယ်များကို ဦးစားပေး၍ စီမံကိန်းရှိသည်ဟု သိရသည်။ ဂန့်ဂေါ် ဟားခါးလမ်း (၇၀မိုင် ၄ ဖာလုံ)၊ ဟားခါး–မတူပီလမ်း (၁၇၂ မိုင် ၇ ဖါလုံ)၊ မင်းတပ်–မတူပီလမ်း (၁၀၂မိုင်)၊ ကလေး–ဖလမ်း–ဟားခါး လမ်း (၁၁၅မိုင် ၁ ဖာလုံ)

ရာသီမရွေး အချိန်မရွေး သွားလာနိုင်သော လမ်းများအဖြစ်ဆောင်ရွက်ပြီးပြီဖြစ်ကြောင်း သိရသည်။ ချင်းပြည်နယ်၏ ဝင်ပေါက်ထွက်ပေါက်များဖြစ်သည့် မန္တလေး–စစ်ကိုင်း– မုံရွာ– ဂန့်ဂေါ–ဟားခါး လမ်းတို့ကိုလည်း အပိုင်းလိုက် အဆင့်မြှင့်တင်ပြီးပြီဖြစ်ကြောင်း သိရသည်။ (ညွှန်း– ကြေးမုံ သတင်းစာ၊ စက်တင်ဘာလ ၂၉၊ ၂၀၁၃ တနင်္ဂနွေနေ့)။ နယ်စပ်ကုန်သွယ်ရေး စခန်းကိုလည်း ကျီးခါးမြို့နယ်ဘက်ကို မဏိပူရ လက်နက်ကိုင်တပ်ဖွဲ့ များအကြောင်းပြ၍ လုံခြုံရေးမရှိ ဟု ဦးစားမပေးပါ။ သို့သော် တမူး–မိုးလေးဘက်မှာ မဏိပူသောင်း ကျန်းသူများရှိသော်လည်း ဖွံ့ဖြိုးရေး ဆောင်ရွက်နေသည်။ ကြေးမုံသတင်းစာထဲတွင် ဖော်ပြ သည့်အတိုင်း ကလေး–တီးတိန်–ကျီးခါးလမ်းစီမံကိန်းကို မတွေ့ရပါ။

## ၃။ ချင်းပြည်နယ်၏ နယ်နိမိတ်ကို မှန်ကန်စွာ သတ်မှတ်ခြင်းမရှိ

ချင်းပြည်နယ်၏အကျယ်အဝန်း ဧရိယာစတုရန်းမိုင် ၁၃၉၀၆.၉၆ရ ဟုဆိုသည်။ ၁၉၄၇ ခုနှစ် ပင်လုံအစည်းအဝေးနှင့် ဖွဲ့စည်းပုံ အခြေခံ(မူကြမ်း)ရေးစွဲ သောအခါ ချင်းခေါင်းဆောင်များက နယ်မြေသတ်မှတ်ခြင်းထက် ချင်းတောင် တန်းတန်းတိုးတက်ရေးကို လိုလားသည်မှာ ထင်ရှားသည်။ မြန်မာအစိုးရဝန်ထမ်း တချို့နှင့်စစ်အရာရှိများက ချင်းလူမျိုးများ၏နယ်မြေဒေသကို ချင်းတောင်တန်း

များသာဟု ယူဆသည်။ ချင်းပြည်နယ်နှင့်စစ်ကိုင်းတိုင်းနယ်နိမိတ်ဘုတ်တိုင်ကို တဖြည်းဖြည်း ၁၉၄၈ နောက်ပိုင်းမှ ချင်းတွင်းမြစ်၊ ကလေးဝ၊ ကလေးမြို့နယ် လက်ဆေးကန်၊ ကလေးမြို့တံတားဦးမှ မွန်လိုင်ကျေးရွာ၊ ထိုမှတဆင့် ကိုးမိုင်အထိ နိုနမိတ်မှတ်တိုင်နှင့်ဆိုင်းဘုတ်များကို ပြောင်းရွှေ့သည်ဟု သိရှိရသည်။ ယခုအခါ ကလေးတက္ကသိုလ်တည်ဆောက်သည့်နေရာကို ချင်းပြည်နယ်တပိုင်း၊ စစ်ကိုင်း တိုင်းတစ်ပိုင်း၊ ကလေးမြို့နယ်တွင် စော်ဘွားရေရှင်ကျေးရွာကိုလည်း ချင်းပြည်နယ်၊ တွန်းဇံမြို့နယ်ဖြစ်သော်လည်း လမ်းမကြီးအောက်ပိုင်းကို ကလေးမြို့နယ် ဟု သိရှိရသည်။ စစ်အစိုးရခေတ်ကနယ်မြေသတ်မှတ်ခြင်းကို အာဏာအမိန့် အရအပြောင်းအလဲရှိသောလည်း ၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၅၁၊ ၅၂၊ ၅၃၊ ၅၄၊ ၅၅၊မှာ နယ်မြေပိုင်းခြားသတ်မှတ်ခြင်း ပြဋ္ဌာန်းခဲ့သည်။ ပုဒ်မ ၅၂ (က)– နိုင်ငံတော်နယ်နိမိတ်ကို ပြန်လည်သတ်မှတ်ရန် လိုအပ်ပါကနိုင်ငံတော် သမ္မတသည် ပြည်ထောင်စုလွှတ်တော်အကြီးအမှူးထံ နိုင်ငံတော်နယ်နိမိတ်ပြင် ဆင်သတ်မှတ်ရေးအတွက် ပြည်ထောင်စုလွှတ်တော်၏သဘောထားကို ရယူပေးပါရန် ပထမဦးစွာ အကြောင်းကြားရသည်ဟု ပြဋ္ဌာန်းခဲ့သည်။ လူအများစုဆန္ဒ နှင့်ဆုံးဖြတ်မည်ဆိုလျှင် နေရာဒေသအလိုက် လူအနည်းစု၏ အကျိုးနစ်နာခြင်းရှိတတ်သည်ဟု ယူဆပါသည်။

## ၄။ ချင်းပြည်နယ်မှ မြန်မာစစ်သားများနှင့် ချင်းလူမျိုးများ စစ်ရာထူး တိုးမြှင့်ပေးခြင်း

၁၉၄၈ အင်းစိန်တိုက်ပွဲ၊ နိုင်ငံတော်မတည်မငြိမ်မှုဖြစ်နေသည့်အချိန် တွင် ချင်းလူမျိုးများမှ ချင်းသေနတ်ကိုင်တပ်ရင်းအမှတ် ၁ မှ အမှတ် ၄ အထိ ရှိခဲ့သည်။ ထိုခေတ်တွင် ချင်းသေနတ်ကိုင်တပ်ရင်းကို Chin Hill Battalion မှ ဖွဲ့စည်းခဲ့၍No. 1,2,3,4,Chin Riffle ဟုခေါ်သည်။ နိုင်ငံတော်အစိုးရအပေါ်မှာလည်း သစ္စာရှိသောလူမျိုးများဖြစ်သကဲ့သို့ ရန်ကုန်အစိုးရဟု ခေါ်ဆိုသော အစိုးရကို ချင်းသေနတ်ကိုင်တပ်ရင်းများ၏ စွန့်စားမှုကြောင့် ယခုအခါ ပြည်ထောင်စုမြန်မာနိုင်ငံတော်ဟု ခေါ်ဆိုရခြင်း ဖြစ်သည်။ ၁၉၄၈ ဇူလိုင်လတွင် ကာ ကွယ်ရေးဦးစီး ချုပ် ဗိုလ်ချုပ်စမစ်ဒွန်း (VCGS- Vice Chief of General Staff) နှင့် ဒုတိယဝန်ကြီး ချုပ်နှင့် ကာကွယ်ရေးဝန်ကြီး ဒုတိယဗိုလ်မှူးကြီးလကျ်ာနတ်ထွက်သည်။ ကာကွယ်ရေးဝန်ကြီးနှင့်ဝန်ကြီးချုပ်တာဝန်ကို ဦးနုက ထမ်းဆောင်ခဲ့သည်။ ဦးနုက မြောက်ပိုင်းတိုင်းစစ်ဌာနချုပ် တိုင်းမှူးဗိုလ်မှူးချုပ်နေဝင်းကို ၁၉၄၈ခုနှစ်၊ ဩဂုတ်လ ၁ ရက်နေ့တွင် ဒုတိယစစ်ဦးစီးချုပ်နှင့် ဒုတိယစစ်သေနာပတိ တာဝန်ပေး၍၊ ၁၉၄၈၊ ဩဂုတ်လ ၁၃ ရက်တွင် ဗိုလ်ချုပ်ရာထူး ခန့်အပ်သည်။ ထိုခေတ်တွင် မေဂျာ ခင်းဇမုံ (Col. Khen Za Mung ငြိမ်း) စစ်ရုံးဌာနချုပ် (World Office Military Secretary) တာဝန် ထမ်းဆောင်ခဲ့သည်။ ဗိုလ်ချုပ်နေဝင်းရောက်သောအခါ ရှေ့တန်းသို့ ရွှေ့ပြောင်းသွားခဲ့သည်။ သို့သော် ၁၉၄၈

မှစ၍ ၂၀၁၃ အထိ နှစ်ပေါင်း ၇၅ နှစ်အတွင်း ချင်းလူမျိုးများ စစ်ဗိုလ်ချုပ်ဟုခေါ်ရသော ဗိုလ်ချုပ် တွောင်ဇခိုင်နှင့် ဗိုလ်ချုပ်ဟုန်ငိုင်း သာရှိသည်ဟု သိရသည်။ ဗိုလ် မှူးချုပ်လား။ ဗိုလ်ချုပ်လားမသိ။ တခြားတိုင်းရင်းသား လူမျိုးများ ရာထူးတိုးမြှင့်ခြင်းမရှိသလောက် ဖြစ်မည်ဟု ယူဆပါသည်။ ၁၈၉၀ ခုနှစ်ခန့်မှစပြီး ချင်းတောင်တန်း တပ်ရင်းကို ဖွဲ့စည်းခဲ့သည်ဖြစ်၍၊ တဖြည်းဖြည်း ချင်းသေနတ်ကိုင် တပ်ရင်းအမှတ် ၁– အမှတ် ၄ အထိ တိုးမြှင့်ခဲ့သည်။ အမှတ် (၁) ချင်း သေနတ်ကိုင်တပ်ရင်း ၁၉၄၅ ခုနှစ် ဧပြီလာ ၄ ရက်နေ့တွင် ဖလမ်းမြို့၌ စတင်ဖွင့်လှစ်၍ တပ်ရင်းမှူး Lt.Col.Oats, Lt. Col. Hrang Thio (B.G.M), Lt. Col. Van Kulh တို့က တစ်ယောက်ပြီး တစ်ယောက်ဆက်ခံခဲ့သည်။ အမှတ် (၂) ချင်းသေနတ်ကိုင် တပ်ရင်းကို ၁၉၄၅ခုနှစ်တွင် တီးတိန်မြို့မှာ ဖွဲ့စည်း၍ ရွှေဘိုမြို့သို့ ပြောင်းရွှေ့ခဲ့သည်။ တပ်ရင်းမှူးမှာ Col. Dal Za Kam ဖြစ်၍၊ ထို့နောက်တွင် Lt. Col. Son Khaw Pau က တာဝန် ထမ်းဆောင်ခဲ့ သည်။ အမှတ် (၃) ချင်းသေနတ်ကိုင်တပ်ရင်းကို ၁၉၄၇ ခုနှစ် နိုဝင်ဘာလ (၁)ရက်နေ့၌ မြင်းခြံမြို့မှာ ဖွဲ့စည်း၍ ဗမာ့အမြောက်တပ် ဟုလည်း ခေါ်ဆိုသည်။ တပ်ရင်းမှူးကို Lt. Col. Lian Cin Zam ဖြစ်သည်။ တပ်ရင်းအမှတ် (၄) ချင်းသေနတ် ကိုင်တပ်ရင်းကို ၁၉၄၇ ခုနှစ်၌ ကလေးမြို့မှာ ဖွဲ့စည်း၍ ဝဏ္ဏကျော်ထင်၊ Maj. Awn Ngin

တည်ထောင်ခြင်း ဖြစ်သည်။ နောက်ပိုင်းတွင် ဝန်ကြီးချုပ်ဦးနုက Maj. Kap Za Thang ၊ ဒုတိယ ဗိုလ်မှူးကြီးရာထူးတိုးပေး၍ တပ်ရင်းမှူးအဖြစ် တာဝန်ယူခဲ့ပါသည်။ တာဝန်ကို ချင်းလူမျိုးများ တပ်ထဲတွင် စစ်သား ဦးရေ ၈၀၀ မှ ၆၀ ခန့်ကသာ ဗမာစကားနား လည်သည်။ သို့သော် ချင်းစစ်သား များက ရန်သူနှင့်ပြည်သူ လူထုကို ခွဲခြားတတ်ပြီး အပြစ်မဲ့လူထုများကို ပစ်သတ်ခြင်းမရှိသော ကြောင့် နာမည်ကျော်ကြားခဲ့သည်။ ၁၉၈၈ ခုနှစ် ကျောင်းသား အရေးအခင်းတွင် ပုသိမ်မြို့ အခြေစိုက် ချင်းသေနတ်ကိုင် တပ်ရင်းအမှတ် ၂ ကို တာဝန်ပေး၍ ရွှေတိဂုံဘုရားတွင် လုံခြုံရေးတာဝန် ယူခဲ့သည်။ နားမလည်သော လူတစ်ချို့က ချင်းလူမျိုးများသာဟု ယူဆ၍ ဖောက်သည်ချကာ ချင်းစစ်သားများက ကျောင်းသား သပိတ်မှောက်များကို သေနတ်ဖြင့်သတ်ဖြတ်သည်ဟု သတင်းဖြန့်ခဲ့ သည်။ ၁၉၆၂ နောက်ပိုင်း မှစ၍ တိုင်းရင်းသားလူမျိုးနာမည်ခံသော သေနတ်ကိုင် တပ်ရင်းများကို တိုင်းရင်းသားလူမျိုး များနှင့်ရောနှော၍ တပ်ဖွဲ့ အသစ်ဖွဲ့စည်းခြင်း ဖြစ်သည်။ ထို့ကြောင့် ချင်းအမျိုးသားတပ် ဟု ဆိုမည့်အစား မြန်မာ့စစ်တပ်(သို့) မြန်မာ့တပ်မတော်ဟု ခေါ်ဆို သင့်သည်။ ၂၀၀၈ ဖွဲ့စည်းပုံအခြေ ခံဥပဒေ၊ ပုဒ်မ ၃၄၈– နိုင်ငံတော် သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ မည်သည့်နိုင်ငံ သားကိုမျှ လူမျိုးဇာတိကိုးကွယ်ရာဘာသာ၊ ရာထူးဌာနန္တရအဆင့်

အတန်းယဉ် ကျေးမှု၊ အမျိုးသား၊ အမျိုးသမီး၊ ဆင်းရဲချမ်းသာတို့ကို အကြောင်း ပြု၍ခွဲခြား ခြင်းမရှိစေရဟု ပြဋ္ဌာန်းခဲ့သည်။ စစ်အရာရှိများ နှင့်ဝန်ထမ်း အရာရှိ တိုးမြှင့်ခြင်းကို လူအများစုနှင့်လူအနည်းစုများ ခွဲတမ်း ညီတူညီမျှ လူဦးရေကို အခြေခံ၍ ပေးသင့်သည်။

၁၉၈၈ ခုနှစ်မှစ၍ ၂၀၁၁ ခုနှစ် မတ်လအထိ နိုင်ငံတော်ကို စစ်အုပ်ချုပ်ရေးဖြင့် နဝတ ကောင်စီ၊ နအဖကောင်စီ ဖွဲ့စည်း၍အုပ်ချုပ်ခဲ့သည်။ ထို့ကြောင့် ပြည်ထောင်စုမြန်မာနိုင်ငံကို စစ်အာဏာနှင့် စစ်ထောက်လှမ်းရေးများက လွှမ်းမိုးခဲ့သည်။ တိုင်းရင်းသား လူမျိုးများ တောင်တန်းဒေသများတွင် ပို၍ ဒုက္ခကြုံခဲ့ရသည်။ ဗမာစကားအားနည်းခြင်းကြောင်းသော်၎င်း၊ ခရစ်ယာန်ဘာသာကို ကိုး ကွယ်သောကြောင့်သော်၎င်း၊ စစ်သားတစ်ချို့က ပြစ်မှုကျူးလွန်၍ ခိုးမှု၊ မဒိန်းမှု၊ ရှိသည်ကို တွေ့ရသည်။ တချို့တပ်ရင်းမှူးတို့က လက်ဝါးကပ်တိုင်ကို စစ်အာဏာ နှင့် ဖျက်ဆီးစေခြင်း၊ ကြိုက်သော မြေကွက်ကို သိမ်းပိုက်လျက် အဆောက်အအုံတည်ဆောက်ခြင်း၊ စေတီများတည်ခြင်း၊ နယ်မြေကျူးကျော်ခြင်းတို့ကို ချိုးဖောက်ခဲ့ သည်။ တချို့တပ်ထဲတွင် ဗုဒ္ဓဘာသာဝင်မဟုတ်သော မိန်းမများကို ရခဲ့လျှင် ရာထူးတိုးမည်ဟုသော်လည်းကောင်း၊ ဗုဒ္ဓဘာသာဝင်မဟုတ် သောသူကို နာမည်ပြောင်းပြီး ဗုဒ္ဓဘာသာသို့ ယုံကြည်ခြင်း ပြောင်း သွားခဲ့လျှင် ရာထူးတိုးမည် ဟုလည်း သိရှိရသည်။

**အေးစံသူက–**

"စာကိုဖတ်ရသလောက်တော့မြန်မာ စစ်တပ်များပတ်သက်တာ အမှန်တွေချည်းပါပဲ။ ချင်းပြည်နယ်မှာ ထိုစစ်တပ်က နယ်ထွက်ရင် စားနပ်ရိက္ခာတွေ သယ်ပိုးဖို့အတွက် မိန်းမတွေ၊ ကလေးတွေ သယ်ပေးရတယ်။ စခန်းချ၍ မယ်ဆိုရင် နေရာရှင်းပေးရတယ်။ ထင်းခုတ်ပေးရတယ်။ ရေရှာပေးရတယ်ဟု ချင်းတိုင်းရင်းသားများ လူ့အခွင့်အရေး လှုပ်ရှားသူအဖွဲ့မှ တာဝန်ရှိသူက ပြောကြားသည်"ဟု ရေးသားဖော်ပြထားသည်။ (7days Daily News No. 182, Wedness day, 23, 2013, p. D).

အထက်ပါအေးသူစံ ဖော်ပြသောသတင်းကို မှန်သည်ဟု ဆိုရမည်။ သို့သော် အကောင်းမြင်ဝါဒနှင့်ကြည့်သောအခါ ချင်းတောင်တန်းမှာ စားနပ်ရိက္ခာ ခက်ခဲမှုကြောင့် သော်၎င်း၊ စီးပွါးရေးခက်ခဲမှုကြောင့်သော်၎င်း၊ မြန်မာပြည်နိုင်ငံရေးကြောင်းသော်၎င်း၊ လူငယ်လူရွယ်များက နိုင်ငံခြား၌ အလုပ်သမားများ အဖြစ်သွားရောက်လုပ်ကိုင်နေကြသဖြင့် ကျေးရွာထဲတွင် လူငယ်များနှင့်မိန်းမများသာ ကျန်တော့သည် ဖြစ်၍ စစ်သားများက သူတို့ကိုသာခိုင်းခြင်း ဖြစ်သည်ဟု ယူဆရသည်။ မြန်မာ့ တပ်မတော်သားများကို မြန်မာ နိုင်ငံသားများကာကွယ်ရမည်ဖြစ်၍ နိုင်ငံသားများကလည်း တပ်မတော်သားများကို ဝိုင်းဝန်းကူညီပံ့ပိုးရမည် ဖြစ်သည်။ တပ်မ

တော်သားများက နိုင်ငံသားများကို ရန်သူမှ ကာကွယ်ရန် တာဝန်ရှိသည်။ နိုင်ငံသားများက တပ်မတော်သားများကို ကြောက်ရွံ့ခြင်းသည် အလွန်ဝမ်းနည်းစရာ ကောင်းလှပါသည်။

**၅။ ချင်းပြည်နယ် လျှပ်စစ်စီမံကိန်း**

၂၀၁၅ ခုနှစ် နွေရာသီကာလတွင် လျှပ်စစ်ဓါတ်အား မဂ္ဂါဝပ် (၃၀၀၀) ခန့်အထိနှင့် ၂၀၁၆ ခုနှစ် နွေရာသီကာလတွင် မဂ္ဂါဝပ် (၄၀၀၀)ခန့်အထိ သုံးစွဲလာမည်ဖြစ်သည့်အတွက် နောက်ထပ်လျှပ်စစ်ဓာတ်အား (၁၅၀၀) မဂ္ဂါဝပ်ခန့် ထပ်မံဖြည့်ဆည်းပေးရမည် ဖြစ်ပါကြောင်း ယင်းဓာတ်အားပမာဏ ဖြည့်ဆည်းပေးနိုင်ရန် (၅၀၀)မဂ္ဂါဝပ်ဓာတ်အားပေးစက်ရုံ (၃)ရုံကို ၂၀၁၅ ခုနှစ်အမီ အဆင့်အလိုက် အချိန်မီပြီးစီးအောင် တည်ဆောက်ရန် လိုအပ်ပြီး အမေရိကန်ဒေါ်လာ သန်း (၂၁၀၀)ခန့် လိုအပ်မည်ဟု လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန ပြည်ထောင်စု ဝန်ကြီး ဦးခင်မောင်စိုးက ရှင်းပြသည်။ (ညွှန်း- ကြေးမုံ သတင်းစာ ၁၃-၁၁- ၂၀၁၃၊ စာမျက်နှာ ၇)။

ချင်းပြည်နယ်တွင် မဟာဓာတ်လိုင်းသွယ်တန်းမှုစီမံကိန်းကို ၂၀၁၅ ခုနှစ်မှာ ပြီးဆုံးမည်ဖြစ်သည်။ အခုလောလောဆယ်မှာ ချင်းပြည်နယ်လိုအပ်ချက် သုံးပုံတစ်ပုံပဲ မီးအားပေးနိုင်တယ်။ ၂၀၁၅ ခုနှစ်မှာ ၅၀% ပေး နိုင်ဘို့ စဉ်းစားတယ်။ လျှပ်စစ်လိုအပ်ချက် ၆၅၆၆ ကီလိုဝပ်ဖြစ်ပြီး အခုရေအားလျှပ်စစ်ဓာတ်နှင့် ဒီဇယ်ဓာတ်

အားပေးစနစ် ၁၃၉၆ ကီလိုဝပ်သာပေးသည်။ ၆၆ KV မဟာဓာတ်လိုင်းသွယ်တန်းမှုအနေဖြင့် ကျော–ဂန့်ဂေါ– ဟားခါး– ၈၉ မိုင်၊ ဟားခါး–ဖလမ်း–သိုင်းငင်း ၅၀ မိုင်၊ ပေါက်–မင်းတပ် ၃၅ မိုင်၊ သိုင်းငင်း–ကလေး–ကလေးဝ ၃၀ မိုင် လမ်းကြောင့်တို့ဖြင့် သွယ်တန်းမည်ဖြစ်ပြီး ဓာတ်အားခွဲစက်ကို ဟားခါးနှင့် ဖလမ်းမြို့တွင် တည်ဆောက်မည် ဖြစ်ကြောင်း ချင်းပြည်နယ် လျှပ်စစ်ဝန်ကြီး ဦးကျင်းလျှန်ပေါင် နှင့် ချင်းပြည်နယ်လျှပ်စစ်အင်ဂျင်နီယာမှူး ဦးသန်းဝင်းတို့ ပြောဆိုသောစကားကိုးကားပြီး (The Voice journal Sept 28, 2013-p-4) မှာ ဖော်ပြပါသည်။ တီးတိန်ဘက် သို့ စီမံကိန်းမရှိသေးဘူး။

## ၆။ ချင်းပြည်နယ် တောင်ယာစိုက်ပျိုးရေးနှင့်လက်ဖက်စိုက်ခင်း

နိုင်ငံတော်အစိုးရအနေဖြင့် ချင်းပြည်နယ်အတွင်း ကျေးလက်ဒေသဖွံ့ ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေးလုပ်ငန်းများကို လုပ်ကိုင်ရာတွင် အရေးကြီးသည့် စိုက်ပျိုးရေးကဏ္ဍတွင် စိုက်ပျိုးရေး ရရှိရေးအတွက် ၂၀၁၁ ဘဏ္ဍာရေးနှစ်မှ ယနေ့အထိ ငွေကျပ် ၂၆၆ သိန်း အသုံးပြုခဲ့ကြောင်း ချင်းပြည်နယ်တွင် လက်ရှိစပါးစိုက် လယ်မြေဧက ၃၀၀၀၀ ရှိသည့်အနက် ဧက ၂၅၀၀၀ ခန့်ကိုသာ စိုက်ပျိုးရေပေးဝေနိုင်ပြီး ရွှေ့ပြောင်းတောင်ယာစိုက်ခင်းများကို

အမြဲတမ်း စိုက်ကွင်းများအဖြစ် လုပ်ကိုင်နိုင်ရန်အတွက် အရပ်ဘက်ဖွဲ့ အစည်းများ NGO များ၏ အကူအညီများဖြင့် ပူးပေါင်းလုပ်ဆောင်နေဆဲဖြစ်သည်ဟု ချင်းပြည်နယ် စိုက်ပျိုးရေးဝန်ကြီး ဦးဇန်းထောင်း၏ ပြောကြားချက်အရ သိရသည်။

ချင်းပြည်နယ်တွင် အဓိကစိုက်ပျိုးဖြစ်ထွန်းအောင်မြင်နေသည်။ စိုက်ပျိုးသီးနှံများမှာ အားလူး၊ ဧရာ၊ ကြက်သွန်၊ ဂေါ်ဖီထုပ်၊ ပန်းဂေါ်ဖီ၊ ဂေါ်ရခါးသီး၊ ခရမ်းချဉ်ဦး၊ ပဲအမျိုးမျိုး အစရှိသည်နှင့် အခြားနှစ်ရှည်အစရှိသည့် သီးနှံများဖြစ်ထွန်းလျက်ရှိပြီး လယ် ၂၅၈၄၄ ဧက၊ ယာ ၁၅၆၅ဧက၊ ကိုင်းကျွန်း ၄၅၇၆ဧက၊ ဥယျာဉ်ခြံမြေ ၁၀၇၁၄ ဧက (တောင်ယာ ၁၈၉၁၅ ဧကစိုက်ပျိုးကြောင်း သိရသည်။ (ဇိုဟောဆာချင်းတောင်မြေ ကြေးမုံသတင်း ၃၀-၁၀-၂၀၁၃ စာ-၁၆) ။ ၁၉၉၉-၂၀၀၀ ခုနှစ်အထိ ဧကပေါင်း ၂၀၄၀၀ စိုက်ပျိုးနိုင်ခဲ့ကြောင်း ပင်လယ်ရေမျက်နှာပြင်အထက် ပေ ၃၀၀၀ မှ ပေ ၅၀၀၀ အတွင်း ဖြစ်ထွန်းအောင်မြင်သည်။ ပလက်ဝမြို့နယ်မှလွဲ၍ (၁၁)မြို့နယ်တွင် စိုက်ခဲ့သည်။ ဟားခါး နယ်ဧက ၂၃၂၁၊ ဖလမ်းနယ် ဧက ၃၃၂၀၊ တီးတိန်းနယ် ဧက-၃၉၈၉၊ ထန်တလန်နယ်ဧက ၁၇၁၇၊ တွန်းဇန်နယ်ဧက-၁၅၅၈၊ ကျီးခါးနယ်ဧက-၄၉၅၊ ရိဒ်ခေါ်ဒါလ်နယ်ဧက - ၂၄၀၊ ကန်ပလက်နယ် ဧက ၁၅၆၂၊ ရေဇွာနယ် ဧက-၄၂၉၊ မင်းတနယ် ဧက ၂၈၉၄ စိုက်ပျိုးခဲ့သည်။

တီးတိန်–ဒေါ်လ်လွင်ကျေးရွာတွင် အခါးအခြောက် (Green Tea) စက်ရုံ၊ မင်းတပ်မြို့နှင့် မတူပီးမြို့တွင်လည်း တည်ဆောက်၍ ဟားခါးမြို့တွင် အချိုခြောက် (Black Tea) စက်ရုံတည်ဆောက်သည်။ တောင်ပေါ်တွင် တစ်ပိသာကျပ် ၃၈၀၀၊ ကလေးမြို့တွင် ၈၀၀၀ ရှိကြောင်း သိရှိသည်။ (ကြေးမုံသတင်းစာ၊ ၉–၉–၂၀၁၃ အချပ်ပိုစာ – ၆)။

## ၇။ ချင်းပြည်နယ် ပြန်တမ်းဝင်အရာရှိ စစ်ဌာနမှ စာမေးပွဲဖြေဆိုခြင်း

ပြည်ထောင်စုရာထူးဝန် အဖွဲ့ အဖွဲ့ဝင် ဦးငွန်းမောင်းသည် ဝန်ကြီးဌာန (၉) ခုတွင် လစ်လပ်လျက်ရှိသော ပြန်တမ်းဝင်အရာရှိဝင်အရာရှိဝင်ပေါက်ရာထူး ၂၃ နေရာအတွက် ပြုလုပ်သည့် ချင်းပြည်နယ် စာစစ်ဌာနရေးဖြေ စာမေးပွဲဖြေဆိုမှုအား အောက်တိုဘာ ၂၆ ရက် နံနက် (၁၀း၀၀)နာရီက ဟားခါးမြို့ အ.ထ.က (၁)စာစစ်ဌာနသို့ လာရောက်ကြည့်ရှုစစ်ဆေးသည်။ ယခင်က ရန်ကုန်နှင့် နေပြည်တော်တို့တွင်သာ စာစစ်ဌာနဖွင့်လှစ်၍ တိုင်းရင်းသားအားလုံး ငွေကုန်ကြေးကျနည်းနည်းဖြင့် ဖြေဆိုနိုင်ရန်တိုင်းနှင့် ပြည်နယ်မြို့တော်တိုင်းတွင် ဖြေဆိုခွင့်ပေးခြင်းဖြစ်သည်။ချင်းပြည်နယ်က လျှောက်ထားသူ ၅၃ ဦးဆိုပြီး အယောက် (၃၀)က ဝင်ရောက်ဖြေဆိုကြောင်း၊ တစ်မြို့လုံး လျှောက်ထားသူ ၆၀၀၀ ကျော်ရှိကြောင်း

သိရသည်။ အရည်အချင်းစစ်စာမေးပွဲအတွက် မြန်မာစာ၊ အင်္ဂလိပ်စာ၊ အထွေထွေ ဗဟုသုတများကို လေ့လာထား ရန်လိုကြောင်း ဦးငွန်မောင်းက ပြောကြားသည်။ အောက်တိုဘာလ ၂၆ ရက်မှ ၂၇ ရက်အထိ စာမေးပွဲဖြေဆိုခဲ့ပါသည်ဟု သိရှိရသည်။ (ညွန်း ပြန်/ဆက် ချင်းပြည်နယ်၊ ကြေးမုံသတင်းစာ၊ ၃-၁၁-၂၀၁၃၊ အချပ်ပို-စာ-၇)

**၈။ ချင်းပြည်နယ်သို့ နိုင်ငံခြားသားများ ခရီးသွားလာခြင်း**

ချင်းပြည်နယ်သို့ နိုင်ငံခြားသား ခရီးများရောက်ပြီ နိုင်ငံတော်အစိုးရအဆက်ဆက်မှာ ချင်းပြည်နယ်သို့ နိုင်ငံခြားသားများ သွားလာခြင်းပိတ်ပင်တားမြစ်သော်လည်း ဦးသိန်းစိန်အစိုးရက တံခါးဖွင့်ပြီး ချင်းပြည်နယ်သို့ နိုင်ငံခြားသား ခရီးသည်များသွားရောက်ခြင်း ခွင့်ပြုသည့် ဒေသတွေ့ရသည်။ ခွင့်ပြုချက် ၃ မျိုးဟု ခွဲခြားထားသည်။

၁။သွားလာခွင့်ပြုနယ်မြေ

(က)ကန်ပလက်မြို့နယ်

(ခ)မင်းတပ်မြို့နယ်

၂။မြို့ပေါ်ခွင့်ပြုမြို့ပြင်ခွင့်ပြုချက်တောင်းခံရန်နယ် မြေများ-

(က)တီးတိန်မြို့နယ်

(ခ)တွန်းဇန်မြို့နယ်နှင့် ကျီးခါးမြို့နယ်ခွဲ

(ဂ)ဖလမ်းမြို့နယ်နှင့် ရိခေါ်ဒါလ်မြို့နယ်ခွဲ

(ဃ)ထန်တလန်မြို့နယ်

(င)ဟားခါးမြို့နယ်

၃။ခွင့်ပြုချက်တောင်းခံရမည့် နယ်မြေ

(က)ပလက်ဝမြို့နယ်နှင့် ဆမီမြို့နယ်ခွဲ

(ခ)မတူပီးမြို့နယ်နှင့် ရေဇွာမြို့နယ်ခွဲ တို့ ဖြစ်သည်။

(မြန်မာဟော်တယ်နှင့် ခရီးသွားလာရေးဦးစီးဌာန (ရက်စွဲ ၂၃-၂-၂၀၁၃))။ "ချင်းပြည်နယ်မြောက်ပိုင်းမှာ ဘာမှ မရှိဘူးလို့ သွားခွင့်မရှိဘူးလား။" "အန္တရာယ်များးလို့ မြို့ပြင်သွားခွင့် တောင်းခံလိုတာလား" ဟု မေးစရာရှိသည်။ ကန်ပလက်မြို့နယ် နှင့် မင်းတပ်မြို့နယ်တို့၌ သွားလာခွင့်ပြု ချက်ရသည်ကို သိရသည်။

**၉။ ချင်းပြည်နယ် ဒေသကောလိပ်အား ကလေးကောလိပ် အဖြစ် ပြောင်းခြင်း**

ကလေးမြို့ကို စစ်ကိုင်းတိုင်းဒေသကြီး၊ တီးတိန်မြို့နယ်၊ ချင်းပြည်နယ်နှင့် နယ်နိမိတ်၊ ချင်းပြည်နယ် တံခါးဝမှာ ရှိသည်။ ချင်းပြည်နယ်မြောက်ပိုင်း ကျီးခါး၊ တီးတိန်၊ ဖလမ်း မှ ချင်းပြည်တောင်ပိုင်းသို့ သွားမည်ဆိုပါက လမ်းပမ်း ဆက်သွယ်ရေးခက်ခဲသောကြောင့် ကလေးမြို့မှ ရန်ကုန်-သံတွဲ-ပလက်ဝဘက်သို့ သွားလာခြင်း ဖြစ်သည်။ ကလေးမြို့နယ်ရှိ ကျေးရွာအုပ်စု (၄)အုပ်စုနှင့် မြို့ပေါ်ရပ်ကွက် ၁၉ ရပ်ကွက်မှ ကျောင်းသား/ကျောင်းသူများ၊

ချင်းပြည်နယ်၊ တမူးမြို့နယ်မှသော်လည်းကောင်း၊ ကောလိပ်ကျောင်းသူ/ကျောင်းသားများ တက်ရောက်ခဲ့ပါသည်။ ကလေးမြို့တွင် ကွန်ပျူတာ တက္ကသိုလ်၊ နည်းပညာ တက္ကသိုလ်နှင့် ကလေးတက္ကသိုလ်သုံးခုရှိသည်။

**စာရေးသူ ဂျူနိုင်းက–**

ကလေးတက္ကသိုလ်သည် ချင်းပြည်နယ် တံခါးဝခိုင်ကမ်းကျေးရွာအနီး ချင်းတောင်ခြေရင်းတွင် တည်ရှိကာ ၁၉၉၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်တွင် ကလေးကောလိပ်အဖြစ် စတင်ဖွင့်လှစ်ခဲ့ပြီးနောက် ၁၉၉၉ ခုနှစ် ဇူလိုင်လ ၇ ရက်တွင် ကလေးဒီဂရီကောလိပ်အဖြစ်သို့ တိုးမြှင့်ခဲ့ကာ ၂၀၀၃ ခုနှစ် မေလ ၁၄ ရက်တွင် ကလေးတက္ကသိုလ် အဖြစ်သို့ တိုးမြှင့်ဖွင့်လှစ်ခဲ့ပါသည်။ ယခုအခါ စာသင်ခန်းတစ်ခန်းလျှင် ကျောင်းသား/ကျောင်းသူ ၁၀၀ ခန့်သာသင်ကြားပြီး ယခုပညာသင်နှစ် (၂၀၁၃–၂၀၁၄)တွင် နေ့ကျောင်းသား ၄၅၀၀ ကျော်နှင့် အဝေးသင်ကျောင်းသား (၄၃၀၀)ခန့် ပညာသင်ကြားကာ နှစ်စဉ်ဘွဲ့ရမောင်မယ် ၁၀၀၀ ကျော် မွေးထုတ်ပေးနိုင်ခဲ့သည်။ ယခုတွင် စာသင်ကျောင်းများ အဆောက်အအုံ မလုံလောက်ပါသဖြင့် သုံးထပ်ဆောင်အပြင် အလျား ၁၉၂ ပေ၊ အကျယ် ၁၈ ပေ ရှိသုံးထပ်စာသင်ကျောင်းကို ဆောက်လုပ်ပြီး ကျပ်သိန်းပေါင်း ၁၉၉၆၉ ကုန်ကျမည်ဖြစ်ကြောင်း သိရှိရသည်ဟု ရေးသည်။ (ကြေးမုံနေ့စဉ်သတင်းစာ၊ ၃–၁၁–၂၀၁၃ ချပ်ပို–စာ–၅)။

အထက်ပါ ဂျူနိုင်းဖေါ်ပြသော ကလေးကောလိပ် တည်ရှိသည့် နေရာနှင့် ကလေးကောလိပ်ဖွင့်လှစ်ချင်း ဗိုမီးဒ (ချင်း) တစ်ယောက်ရှုထောင့် (အမြင်)နှင့် ရှင်းပြချင်ပါတယ်။ စာရေးသူလည်း ဒီ ကလေးကောလိပ်တည်ဆောက် စခါ မှာ ၁၉၉၁ ကလေးမြို့မှာ ချင်းတောင် မှ မိသားစုနှင့် ပြောင်းရွှေ့နေထိုင်ခဲ့၍ ကလေးကောလိပ် ဖွင့်ပွဲများလည်း ပညာရေးဝန်ကြီးဌာန ဝန်ကြီးဗိုလ်မှူးကြီး ဖေသိန်း လာရောက်သည်ကို တွေ့သည်။

ဗိုလ်ချုပ်ကြီးခင်ညွန့် နအဖကောင်စီအတွင်းရေးမှူး (၁)စစ်ထောက်လှမ်းရေး ညွှန်ကြားရေးမှူးချုပ်၊ မြန်မာ နိုင်ငံပညာတိုး တက်ဖွံ့ ဖြိုးရေးကောင်မီတီဥက္ကဋ္ဌ လာရောက်သော အခါလည်း ကလေးမြို့သူမြို့သားများက ဝမ်းမြောက် ဝမ်းသာစွာ ကြိုဆိုခဲ့ပါသည်။ (ခုနှစ်မေ့သွားလို့ ခွင့်လွှတ်ပါ) Sihzang ချင်း၊ တိုင်းရင်းသား စစ်အငြိမ်းစား အင်္ဂလိပ်ခေတ် အဘိုးအိုတစ်ယောက်ကလည်း ရိုးရာဝတ်စုံဝတ် ဆင်ကာ စစ်ဝန်ထမ်းရင်ထိုးကို တပ်၍ ကလေး ကော်လိပ်မှ အပြန်လမ်း ယခု ၉ မိုင်ရဲခစန်းဘေးမှ ဗိုလ်ချုပ်ကြီး ခင်ညွန့်ကို ကြိုဆိုခဲ့ပါသည်။ ကားဒရိုင်ဘာက ကားတဖြည်းဖြည်း မောင်းကာ ဗိုလ်ချုပ်ကြီး ခင်ညွန့်က ထိုအဘိုး အိုကြီး မြင်သောအခါ ကားရပ်ခိုင်းပြီး ကားပေါ်မှ ဆင်းခဲ့ကာ နှုတ်ဆက်စကားပြော၍ အင်္ဂလိပ်စကားနှင့် စကားပြောခဲ့သည်ကို သိရသည်။ ကလေးကော

လိပ် တည်ဆောက်ကတည်းက ဆိုင်းဘုတ်နှင့် ဆောက်လုပ်ရေး ဆိုင်းဘုတ်၊ အလုပ်သမားကားများတွင် ချင်းပြည်နယ်ဒေသ ကောလိပ်ဟု ရေးသည်ကို တွေ့ရသည်။ တချို့ဆိုင်းဘုတ်မှာ ခိုင်ကမ်းကောလိပ်၊ ချင်းပြည်နယ်ဟု ရေးသည်။ ချင်းလူမျိုးများက ဝမ်းမြောက် ဝမ်းသာစွာ ချင်းပြည် နယ်က ကောလိပ်တစ် ခုရှိပြီဟု ပြောကြသော်လည်း ၁၉၉၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်နေ့ ရောက်သောအခါ ကောလိပ်ဖွင့်နေ့ဖြစ်၍ ကိုးမိုင်ရဲစခန်းဘေးမှာ ကလေးကောလိပ်ဆိုင်းဘုတ်ကို ဖျက်သိမ်း၍ ယခုအခါ ကလေး ကောလိပ်မုခ်ဦး (ဂိတ်)ကို ၈ မိုင် ကလေး(လဝက) ရုံးရှေ့မှာ တည် ဆောက်ခဲ့ပါသည်။ ချင်းလူမျိုးများက ကိုယ်အိမ်ခြံဝင်းမှာ လူတစ်ယောက်က အိမ်တစ်အိမ်ဆောက်၍ ဝင်ထွက်ပေါက် လည်း (ဂိတ်)ကို သူတို့မြေကွက်၊ ခြံဝင်းမှတဆင့် ဖောက်လုပ်သကဲ့သို့ ခံစားပါသည်။ အကြောင်းမှာ ကလေးကောလိပ် တည်ဆောက် သည့် မြေကွက် တည်ရှိသည့်နေရာ ခိုင်ကမ်းရွာအနီး ချင်း တောင်ခြေ”ဟု စာရေးသူ ဂျူနိုင်းက ရေးသော်လည်း ခိုင်ကမ်းကျေး ရွာ၊ တီးတိန်မြို့နယ်၊ ချင်းပြည်နယ်ဖြစ်သည်ဟု ရှင်းပြလိုပါသည်။

ကလေးကောလိပ်နှင့်ပတ်သက်၍ ချင်းလူမျိုးအထူးသဖြင့် ဇိုးမီး (Zomi) များ ခံစားချက်က ပိုမိုပြင်းထန်လွန်း၍ စိတ်နာ သော်လည်း သူတို့က ခရစ်ယာန်ဘာ သာဝင်များဖြစ်၍ ခွင့်လွှတ်ခြင်း ဘရားကို အယူဝါဒရှိ သဖြင့် ဘာမှ မပြောလိုပါ။

ပိုခိုင်ကမ်းကို ကိုလိုနီခေတ်တော်လှန်ရေးခေါင်းဆောင်ကြီး ဗိုလ်ခိုင်ကမ်း ဖြစ်သောကြောင့် ချင်းလူမျိုးများအတွက် ကလေးကော လိပ်တည်ရှိ သည့်နေရာကို အရေးပါလှသည်။ အကြောင်းမှာ ဗိုလ်ခိုင်ကမ်းက ဇိုဂမ် (ချင်းမြေ)ကို အသက် (ခေါင်း)ကို ပေး၍ ကိုလိုနီဗြိတိသျှစစ်တပ်များကို တော်လှန်ခဲ့ကာ "ငါတို့ ဘိုးဘွား နယ်မြေတစ်လက်မတောင် မပေးဘူး၊ နင်တို့ အမြောက်ပစ် သေနတ်ကိုလည်း ငါမကြောက်"ဟု ဆိုကာ တူမီးသေနတ်နှင့် အင်္ဂလိပ်တို့ကို တော်လှန်ခဲ့သူ ခိုင်ကမ်းကျေးရွာမှာ တည်ဆောက် သော ကလေးကောလိပ်ကြောင့် ချင်းလူမျိုးများက နအဖကောင်စီအ စိုးရ(စစ်အာဏာ ရှင်များ)ကို အံ့သြခဲ့ပါသည်။ တဖက်မှာလည်း အင်္ဂလိပ်စစ်သားများထက် ကြောက်ရွံ့ခဲ့ပါသည်။

ကိုလိုနီနယ်ချဲ့စနစ် အင်္ဂလိပ်စစ်တပ်များ ၁၉၄၈ ခုနှစ်မှ ချင်းတောင်မှ သော်လည်းကောင်း၊ မြန်မာပြည်မှ သော်လည်း ကောင်း၊ ထွက်ခွာသွားခဲ့ သော်လည်း ချင်းတောင်တန်းနယ်နိမိတ် တိုးချဲ့ကျူးကျော်ခြင်းကို မြန်မာ့တိုင်းရင်းသားထဲမှာ ရှိသေးသည်ဟု ဆိုရပါမည်။ စစ်ကိုင်းတိုင်းနှင့် ချင်းပြည်နယ်မှာ ခိုလှုံသောမဏိပူရ လက်နက်ကိုင်တပ်ဖွဲ့များထက် ကြောက်စရာ ရှိသည်။ စစ်တပ်က အာဏာလည်းရှိ၊ သေနတ်လည်းရှိသော်ကြောင်း ချင်းလူမျိုးများက ဗမာစကားလည်း မကျွမ်းသောကြောင့် တကယ်ကို ကြောက်ရွံ့သည်။

ကလေးကောလိပ် တည်ဆောက်သည့် မြေကွက်ချင်းပြည်နယ် ဧရိယာ အကျယ် ၁၀၈.၅၆ ဧက ဖြစ်၍၊ စစ်ကိုင်းတိုင်းဧရိယာအကျယ်အဝန်း ၇၆.၇၄ ဧက၊ စုစုပေါင်း ၁၈၅ ဧကဖြစ်သည် ဟု သိရှိရသည်။ ယခုအခါ ဟားခါးမြို့မှာ ကောလိပ်တစ်ခုတည်ဆောက်ရန် ဒေသခံများက တောင်းဆိုကြောင်း သိရှိရသည်။ ချင်းပြည်နယ် ကောလိပ်ကလေး ဟု နာမည်ပြောင်းခဲ့ပြီးဖြစ်၍ ချင်းပြည်နယ်မှာ အနည်းဆုံးတောင်ပိုင်းနှင့် မြောက်ပိုင်းမှာ ကော်လိပ် တစ်ခုစီရှိသင့် သည်။ ကလေးကောလိပ်မှာ ဆိုရင်ချင်းနှင့် မြန်မာကျောင်းသားများ၊ ကလေးကောလိပ်နာမည်ကြောင့် ခဏခဏ ရန်ဖြစ်သည်။ ကလေးတက္ကသိုလ်ဝန်ထမ်းများက ရှားပါးစရိတ် (လစာ) မရတာလည်း နစ်နာရှုံးဆုံးမှုတစ်ခုပင် ဖြစ်သည်။

## ၁၀။ ချင်းပြည်နယ်အုပ်ချုပ်ရေးနှင့် ခရိုင်မြို့နယ်အဆင့် ချင်းတောင်တန်းနှင့်လူရှည် တောင်တန်းညီလာခံ

(Chin Hills - Lusei Hills Conference)

အစိုးရကချင်းတောင်တန်းနှင့် လူရှည်တောင်တန်းမှာ နေထိုင်သောလူမျိုးများလူမျိုးနွယ်တူများဖြစ်၍ ပူးပေါင်းဖွဲ့စည်းပြီး အုပ်ချုပ်ရေးနယ်မြေ တစ်ခုအောက်မှာအုပ်ချုပ်မည်ဟု ရည်ရွယ်ချက်ရှိသည်၊ ထိုကြောင့် Major.EH.Hloken Secretary, Government of India ဦးစီး၍ ၁၈၉၂ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်နေ့တွင် အိန္ဒိယ ဘုရင်ခံချုပ်အိမ်တော် ကာလကတ္တားမြို့၌

အစည်းးအဝေး နံနက် ၁၂းဝဝနာရီတွင် စတင်ခဲ့သည်။ ထိုအစည်း အဝေး၌ အချက် (၁၆)ပါတင်ပြဆွေးနွေးခဲ့သည်။ အချက်တစ်ချက်က ချင်းတောင်နှင့် လူရှည်တောင်တန်း ပူးပေါင်း၍ အုပ်ချုပ် ရေးနယ်မြေ တစ်ခု အောက်မှာ အုပ်ချုပ်ရန်ဖြစ်သည်။ သို့သော်မြန်မာကော်မီရှင်နာ Sir.Alexandra Mackenzie-KCSIက ကန့်ကွက်ခဲ့၍ ယနေ့အထိ လူမျိုးတမျိုးဖြစ်သော်လည်းဇိုရာမ် (Lusei) ကို အိန္ဒိယနိုင်ငံ၊ ဇိုဂမ် (Chin) ကို မြန်မာနိုင်ငံ တွင် ပါဝင်ခဲ့ပါသည်။ (R.Savunga & Valpuiapa, 1988 p.30)။ ၁၉၃၇ခုနှစ် ဧပြီလတစ်ရက်နေ့တွင် အိန္ဒိယအစိုးရမှ မြန်မာသီး ခြားအုပ်ချုပ်၍အစိုးရမှ အဓိပတိ ဒေါက်တာဘမော်ဖြစ်သည်။ ဤအ ချိန်တွင် ချင်းနှင့် လူရှဲတောင်တန်း အိန္ဒိယပြည်နှင့် မြန်မာပြည် အစိုးရနှင့် မသက်ဆိုင်ပါ။ ပါကိစ္စတန်၊ အစ္စလာမ်မစ် သမ္မတနိုင်ငံဟု ခေါ်သည်။ မြန်မာ့ခေါင်းဆောင်တစ်ချို့ ကလည်း မြန်မာဗုဒ္ဓသမ္မတနိုင်ငံကဲ့သို့ အုပ်ချုပ်သောကြောင့် လူမျိုး ရေးပြဿနာ ဖြစ်ပေါ်လာ၍ ငြိမ်းချမ်းရေး ဆုံးရှုံးခဲ့သည်။

၁။ အိန္ဒိယသမ္မတနိုင်ငံလွတ်လပ်ရေး ၁၉၄၇ခုနှစ်၊ ဩဂုတ်လ ၁၅ ရက်နေ့တွင် လွတ်လပ်ရေးရ၍ပါကိစ္စတန်နိုင်ငံ အရှေ့နှင့် အနောက်ပါဝင်သည်။ ပါကိစ္စတန်နိုင်ငံက သီးခြားမူဆလင်နိုင်ငံ ဟည်ထောင်လိုသောကြောင့် ထိုနှစ်မှ ပင်ခွဲထွက်ခဲ့သည်။

၂။ ပြည်ထောင်စုမြန်မာနိုင်ငံ ၁၉၄၈ခုနှစ်၊ ဇန်နဝါရီလ ၄ရက်နေ့တွင် လွတ်လပ်ရေးရ၍ ၁၉၄၇ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ရက်နေ့ ပင်လုံစာချုပ်အရ မြန်မာနိုင်ငံကိုမြန်မာပြည်မနှင့် တောင်တန်းဒေသပူးပေါင်း၍ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံဟုခေါ်သည်။ ဤကဲ့သို့ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံဖြစ်ပေါ်လာခြင်း နောက်ခံသမိုင်းဖြစ်သော်လည်း ၁၉၆၂ခုနှစ် နောက်ပိုင်းမှစ၍ လူနည်းစုတောင်တန်းဒေသများ နိုင်ငံတော်အစိုးရက လက်နက်နိုင်ငံလို–ကိုလိုနီနိုင်ငံလို အုပ်ချုပ်ခဲ့သည်ကိုတွေ့ရသည်။

၃။ ဘင်္ဂလားဒေ့ရှ်ပြည်သူ့သမ္မတနိုင်ငံ – ၁၉၇၂ခုနှစ်၊ ဒီဇင်ဘာလ (၁၇)ရက်နေ့တွင် အရှေ့ပါကစ္စတန်က အိန္ဒိယတပ်မ တော်အကူအညီဖြင့် သီးခြားနိုင်ငံတည်ဆောက်၍ ဘင်္ဂလားဒေ့ရှ်နိုင်ငံဟုခေါ်သည်။

အထက်ပါနိုင်ငံတော်အစိုးရသုံးပါးလက်အောက်မှာ ကူကီး–ချင်း–ဇိုမီး၊ မီးဇို အမျိုးသားများယနေ့အထိ ပင်ခွဲခွာခြင်းဖြစ်၍ နိုင်ငံတကာနယ်နိမိတ်ကခွဲခြားသောကြောင့် လူမျိုးနွယ်တူများဖြစ်သော်လည်း နယ်ကူးသောအခါ နိုင်ငံခြားသားများဖြစ်လာသည်။ အိန္ဒိယနှင့် မြန်မာနယ်စပ်ထိစပ်မှု ၁၆၄၃ကီလိုမီတာဖြစ်သည်။

၁၈၉၈ ခုနှစ်တွင် ဗြိတိသျှတို့က အထက်မြန်မာနိုင်ငံတရားဥပဒေ (The Upper Burma Law Act - 1898) ကို ပြဋ္ဌာန်းခဲ့သည်။ ၁၈၉၆ ခုနှစ်တွင် ချင်းတောင်တန်းအက်ဥပဒေ (The Chin Hills Regulation Act-1896) ကို ပြဋ္ဌာန်းခဲ့၍ အုပ်ချုပ်ခဲ့သည်။ ၁၈၉၇

ခုနှစ်တွင် မြန်မာပြည်ကို ဒုတိယဘုရင်ခံအဆင့်အုပ်ချုပ်သော နယ်အဖြစ် တိုးမြှင့်ခဲ့ကာ မင်းဘူး၌ တိုင်းရုံးဖွင့်လှစ်၍ ၁၉၀၇ ခုနှစ်တွင် မကွေးသို့ ပြောင်းရွှေ့ကာ ရုံးစိုက်ခဲ့သည်။ မကွေး (Commissioner) တိုင်းမင်းကြီး လက်အောက်မှာ ချင်းတောင်တန်းနှင့် ရခိုင်တောင် တန်းဒေသ၊ နာဂါး ကချင်လည်း ထားခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် ရှမ်းပြည်ထောင်စု (The Federal Shan State) ဖွဲ့စည်းကား ချင်း၊ ကချင်၊ ရှမ်းနှင့် တချို့နယ်ပယ်များ ဖွဲ့စည်း၍ အိန္ဒိယအစိုးရ အက်ဥပဒေ (Goverment of India Act-1935) အရ အုပ်ချုပ်ခဲ့ကာ ဘုရင်ခံက တိုက်ရိုက်အုပ်ချုပ်ခဲ့သည်။ ထိုဒေသများကို မဖွံ့ဖြိုးသေး သောဒေသ (Backward Tract) ဟု ခေါ်သည်။

ဒီနေ့အထိ ချင်းပြည်နယ်မြောက်ပိုင်းနှင့် တောင်ပိုင်းကား လမ်းလည်း မပေါက်၊ ချင်းပြည်နယ်ခွဲတမ်းကောလိပ် တစ်ခုတောင် မရှိသေးတာကို စဉ်းစား တဲ့အခါ တောင်တန်းဒေသအုပ်ချုပ်ရေး ညွှန်ကြားရေးမှူး Mr. Stevenson စကား ပြန်သတိရသည်။ Mr. Steven Son က ချင်းခေါင်းဆောင်တို့ကို သင်တို့ မတိုးတက် မဖွံ့ ဖြိုးသေး ဘူးလို့ မြန်မာ ပြည်မနှင့် လွတ်လပ်ရေးရယူခဲ့လျှင် တိုးတက်တာထက် နိမ့်ကျသွားမည်ဟု ဆိုခဲ့ဘူးသည်။ ယခုအခါ တွင် ဗိုလ်ချုပ်အောင်ဆန်း စကားထက် Mr. Steven စကားမှန်သည် ဟု စာရေးသူ က မှတ်ချက်ချသည်။ သို့သော် ၁၉၄၈ ခုနှစ် လွတ်လပ်

ရေးရပြီး နောက် ချင်းတောင်တန်းကို ဗြိတိသျှတို့ လက်အောက်မှ ချန်ခဲ့ပြီးလွတ်လပ်ရေးရမယ်ဆိုလျှင် ဟောင်ကောင်၊ ထိုင်ဝမ်နှင့် တရုတ်ပြည်မကဲ့သို့ မြန်မာပြည်သို့ ဝင်မလား? သီးခြားလွတ်လပ်ရေး နိုင်ငံအဖြစ် ရပ်တည်မည်လားဟု ရှုပ်ထွေးမှုအများကြီး ဖြစ်ပေါ်လာမည်ဖြစ်သည်။

၁၉၄၇ (၁၉၄၈ မှ အတည်ပြု) ဖွဲ့စည်းပုံ အခြေခံဥပဒေ ပြဋ္ဌာန်းခဲ့သည်။ ၁၉၆၂ ခုနှစ်တွင် ချင်းဝိသေသတိုင်း အက်ဥပဒေ (Chin Special Division Act - 1962) ပြဋ္ဌာန်း၍ ၁၉၇၄ ခုနှစ်မှာ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်က ဖွဲ့စည်းပုံ အခြေခံဥပဒေသစ် ပြဋ္ဌာန်း၍ ၁၉၈၈ ခုနှစ်မှ ၂၀၁၀ ခုနှစ် မတ်လအထိ နအဖကောင်စီ(စစ်အစိုးရ) က အုပ်ချုပ်ခဲ့သည်။ ၂၀၀၈ ခုနှစ်မှာ ဖွဲ့စည်းပုံအခြေခံဥပဒေပြဋ္ဌာန်းခဲ့၍ ယနေ့ ၂၀၁၃ထိ အသုံးပြုခဲ့သည်။

**(က) ချင်းတောင်နယ်နိမိတ်သတ်မှတ်ခြင်း**

၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေအရ နယ်နိမိတ်နှင့် အုပ်ချုပ်ရေး ပြုလုပ် ခဲ့သည်။ ၁၉၈၈ ခုနှစ်မှ ၂၀၁၀ ခုနှစ်အထိ ချင်းပြည်နယ်နှင့် မြန်မာပြည်မှ မကွေး၊ စစ်ကိုင်း၊ ရခိုင်နယ်နိမိတ်များ၊ တစ်ချို့ဒေသများကို ပြည်ထဲရေးဝန်ကြီး ဌာနက အမိန့်စာမပါဘဲ ဥပဒေမဲ့ဖြင့်စစ်အာဏာအမိန့်နှင့် ဒေသကွပ်ကဲအုပ်ချုပ်ရေးမှူး၊ စစ်ဘက်အရာ ရှိများနှင့် ထွေအုပ်အရာရှိရုံးများသိမ်းပြီး သူတို့ကြိုက်တဲ့ နယ်မြေများ အဆောက်အအုံတည်ဆောက်ခြင်း၊ အုပ်ချုပ်ရေး နယ်မြေတိုးချဲ့ခြင်းကို ပြု လုပ်ခဲ့သည်။

**(ခ) အိန္ဒိယ နှင့် ချင်းတောင်နယ်နိမိတ်**

၁၉၀၀ ခုနှစ်တွင် Col. Maxwell နှင့် Capt. H.W.G. Cole တို့က Lushai Hills (Mizo) နှင့် Chin Hills နယ်နိမိတ်သတ်မှတ်၍ ၁၉၀၃ ခုနှစ်တွင် Col. Shakespear နှင့် Capt. Rundall က Manipura Hills နှင့် Chin Hills နယ်နိမိတ် သတ်မှတ်ပေးခဲ့သည်။

၁၈၉၄ ခုနှစ်မှာ ချင်းတောင်တန်းအုပ်ချုပ်ခဲ့သူ Mr. B.Carey နှင့် Mr. N.T.Tuck က ချင်းတောင်နှင့် မြန်မာပြည်မ (သီပေါ်-မြန်မာဘုရင် နယ်မြေ)နယ်မြေခွဲခြားသတ်မှတ်ခဲ့သည်။ ထို့ကြောင့် ချင်းလူမျိုးအုပ်ပိုင် (စော်ဘွား) အဖြစ် ခန့်ထားခြင်းခံသော အုပ်ပိုင်များ၏ သားတို့မြေးစဉ်ဆက်များက ချင်းတောင်တန်း နယ်နိမိတ်အမှန်သိသည်။ ထိုခန့်စာများ (Appointment of Chief / Feudal Chief) တွင် အုပ်ချုပ်မည်။ နယ်မြေပါရှိသည်။ ချင်းလူမျိုး ထဲမှာလည်း ကလေးကောလိပ်တည်နေရာအသိဆုံး Sihzang လူမျိုးနွယ် Zomi တို့ ဖြစ်သည်။

**(ဂ) နယ်နိမိတ်သတ်မှတ်ခြင်းနှင့်အုပ်ချုပ်ရေး**

၁၈၉၇ ခုနှစ်တွင် မြန်မာပြည်ကို ဒုတိယဘုရင်ခံ လက်အောက်တွင် ထား၍ အိန္ဒိယပြည်နယ်အဖြစ် တိုးမြှင့်သတ်မှတ် ထားပြီးနောက် ရုံးချုပ်ကို မင်းဘူးမြို့၌ သတ်မှတ်ထားသော်လည်း ၁၉၀၇ ခုနှစ် စက်တင်ဘာ ၁၉ ရက်နေ့တွင် မကွေးတိုင်းသို့ ပြောင်းရွှေ့ရုံးစိုက်ထားပါသည်။ ၁၈၉၈ ခုနှစ်တွင် အထက် မြန်မာပြည်

(The Upper Burma Law Act 1898) အက်ဥပဒေ ပြဋ္ဌာန်းခဲ့ပါသည်။ အထက်မြန်မာပြည်အဖြစ် သတ်မှတ်ပြဋ္ဌာန်းရာတွင် ချင်းတောင်တန်း၊ ကချင်နှင့် ရှမ်းပြည်နယ် ပူးတွဲထားသောကြောင့် ဧရိယာအားဖြင့် ၁၅၇၆၀၀၀၀ စတုရန်းမိုင် ကျယ်ဝန်းလျက် ရှိပါသည်။ အောက်မြန်မာပြည်ကို Division (၄) ခုအထက် မြန်မာပြည်ကို Division တိုင်း (၄)ခု အဖြစ် သတ်မှတ်ထား၍ စီရင်စု (၃၈)ခုရှိ သည်။ မကွေးတိုင်း၏ အဓိကကျသော နယ်မြေမှာ ချင်းတောင်တန်း ပင်ဖြစ်သည်။ ပင်လုံစာချုပ်အရ မြန်မာပြည်(Goverment of Burma)နှင့်တောင်တန်းဒေသများ (Frontier Areas) ပူးပေါင်း၍ပြည် ထောင်စုသမ္မတ မြန်မာနိုင်ငံတော် (Republic of Union of Myanmar) ဟု ခေါ်သည်။

**(ဃ) ခရိုင်၊ မြို့နယ်များ**

၁။၁၈၉၀–၁၈၉၄ အကြားမ မင်းတပ်၊ ကန်ပလက်၊ တီးတိန်၊ ဖလမ်း၊ ဟားခါးများကို မြို့အဖြစ်သတ်မှတ်ခြင်းဖြစ်၍ ချင်းပြည်နယ်ကို ခရိုင်မြို့တော်လည်း ဖလမ်းမြို့ဖြစ်သည်။ ထို့ကြောင့် ချင်းပြည်နယ်မှာ ဖလမ်းခရိုင်နှင့် မင်းတပ်ခရိုင်နှစ်ခုသာ ၂၀၁၂ ခုနှစ်အထိ တည်ရှိခဲ့သည်။ ၁၉၄၈ ခုနှစ်မှ ၁၉၇၂ ခုနှစ်အထိ ခရိုင်(၂)၊ ခရိုင်ခွဲ(၄)၊ မြို့နယ် (၉)၊ မြို့နယ်ခွဲ (၁၄)အဖြစ်လည်း အုပ်ချုပ်ခဲ့သည်။ ဖလမ်းခရိုင်မှ တွန်ဇန်၊ တီးတိန်မြို့ ဟားခါးမြို့ ဖလမ်းမြို့ ထန်တလန်မြို့ မင်းတပ်ခရိုင်မှ မင်းတပ်၊ မတူပီ၊ ပလက်ဝ၊ ကန်ပလက်မြို့နယ်ပါဝင်သည်။

၂။ ၂၀၀၂ ခုနှစ်တွင် ဖလမ်းခရိုင်၊ တွန်ဇံမြို့နယ်မှ ကျီးခါးမြို့နယ်ခွဲ၊ ဖလမ်းမြို့နယ်မှ ရီခေါ်ဒါလ်မြို့နယ်ခွဲ၊ မင်းတပ်ခရိုင်၊ မတူပီးမြို့နယ်မှ ရေဇွာမြို့နယ်ခွဲထုတ် ဖွဲ့စည်းသည်။ မြို့နယ် (၉)နှင့် မြို့နယ်ခွဲ (၃) ပေါင်း (၁၂)မြို့နယ်ပါဝင်သည်။

၃။ ၂၀၁၂ ခုနှစ်မှာ ဟားခါးနှင့် ထန်တလန်ပေါင်းစည်း၍ ဟားခါးခရိုင်အဖြစ် သတ်မှတ်ကာ ပလက်ဝမြို့နယ်မှ ခွဲ၍ ဆမီးမြို့နယ်ခွဲအဖြစ် သတ်မှတ်ခဲ့သည်။ ယခုအခါ ခရိုင် (၃) မြို့နယ်နှင့် မြို့နယ်ခွဲ (၁၄) ခု ဖြစ်သည်။

၂၀၁၂ မတ်လ ၃၁ရက် ဇိုမီးများက TEDIM MYO ကို ခရိုင်အဖြစ် သမ္မဦးသိန်းစိန်ထံ စာဖြင့်တောင်းဆိုသော်လည်း မရခဲ့ပါ။ ချင်းပြည်နယ်ဝန်ကြီးချုပ် ဦးဟုန်ငိုင်းလည်း တီးတိန်မြို့သို့ ခရီးစဉ်မှာ ဝမ်းနည်းစွာ ကြိုဆိုခဲ့သည်ဟု သိရသည်။ ပြည်နယ်လွှတ်တော် ဥက္ကဋ္ဌ ပို ဟောက်ခင်းခမ် က တီးတိန်မြို့ခရိုင်ရ စေချင်တယ်၊ ပြည်နယ်လွှတ်တော်ဆန္ဒမဲခွဲ၍ မဲရှုံးလို့ မရတာဟုဆိုသည်။ တချို့က ချင်းကိုယ်စားပြည်ထောင်စုလွှတ်တော်၊ အမျိုးသားလွှတ်တော်ကိုယ် စားလှယ်တို့က လျှောက်လွှာစာကို အထက်မတင်ဘူးလို့ ပြောကြ သည်။ အချိန်တန်မှ ရမှာပါ။ ပြင်ဆင်မှုလိုပါသေးသည်ဟု ယူဆပါသည်။

၂၀၀၈ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေမှာ ဒီမိုကရေစီစနစ်ဖြင့် လူထုအများစုဆန္ဒမဲပေးခြင်း (၇၅% ) ရာခိုင်နှုန်း ထောက်ခံမဲ

လိုအပ်သည် ဟုဆိုသည်။ အမြဲတမ်းလူနည်းများစု ထောက်ခံမှဲ့ဆို လျှင် ကိုးကွယ်သည့် ဘာသာမှာ ဗုဒ္ဓဘာသာ အများဆုံး၊ ကြံ့ခိုင်ရေး ပါတီလည်း အများဆုံး မြန်မာစကားပြောသူကိုလည်း လူဦးရေအများ ဆုံးဖြစ်သည်။ လူနည်းစု များအတွက် ရသင့်ရထိုက်တဲ့အရာကို ဖြည့်ဆည်းမှသာ နိုင်ငံတော်ကို အေးချမ်းတည်ငြိမ်မည် ဖြစ်သည်။

**၁၁။ ချင်းပြည်နယ်စပ်ကုန်သွယ်ရေးစခန်းတရားဝင်အ ပြည့်ပြည့်ဆိုင်ရာ ဂိတ်မရှိသေး**

မီးဇိုရမ်ပြည်နယ်ဆိုင်ခွန်ဖိုင် (Sai Khum Phai)ကျေးရွာကို အနီးယ– မြန်မာနယ်စပ်ကုန်သွယ်ရေးစခန်းအဖြစ် မီးဇိုရမ်ပြည်နယ် ကုန်သွယ်ရေးနှင့် စီးပွားရေးဌာနဝန်ကြီး Pu Larinliana Sailo က ၁၄–၉–၂၀၀၃ တွင် ကျောက်တိုင်စိုက်ထူခဲ့ကြောင်း သတင်းရသည်။ ပြည်နယ်ကုန် သွယ်ရေးဝန်ကြီးက နှစ်နိုင်ငံကျေးရွာ လူကြီးများကို ပဋိပက္ခများမဖြစ်ပေါ်စေရန်အတွက် တိုက်တွန်း ခဲ့သည်။ ဆိုင်ခွန်ဖိုင်မှ ကျေးရွာ (၁၁)ရွာကို ဖြတ်ကာမြို့တော် ဟားခါးအထိ လမ်းကို မြတ်နိုးသူ ကုမ္ပဏီက ပြီးခဲ့သည့် နွေရာသီ ကတည်းက လမ်းဖောက် ခဲ့ကြောင်း၊ မီဇိုရမ် အစိုးရဘက်ကလည်း ဒေသတွင်ကားလမ်းများ အတွက် ရူပီငွေ သိန်း ၈၀၀ အကုန်ကျခံ၍ လမ်းဖောက်ထားကြောင်း သိရသည်။ (Hot News, Vol-4, No 259, Sept 27, Oct 8, 2013. p. 22)။ လူနေမှုဘဝ၏ ပဋိပက္ခဖြစ်ပွား ခြင်းအကြောင်းရင်းတစ်ရပ်ကို

ဆင်းရဲဒုက္ခခြင်းကြောင့် ဖြစ်ပေါ်လာတတ်သည်။ ဆိုင်ခွန်ဖိုင် ကျေးရွာကို နယ်စပ်ကျေးရွာဖြစ်သကဲ့သို့ လက်နက်ကိုင် တပ်ဖွဲ့ တချို့ ခိုလှုံသော ဒေသတခုလည်းဖြစ်ဖူးသည်။ ဤအရက်ချက်၍ အသက်မွေးဝမ်းကျောင်းပြုလုပ်ခြင်း၊ မူးယစ်ဆေး ဝါးမှောင်ခို လက်လီလက်ကား ရောင်းဝယ်သောဒေသလည်း ဖြစ်သည်။ ဤ အကြောင်းပြချက်များကြောင့် မီဇိုရမ်လူငယ်တချို့ က မီးရှို့ခဲ့ခြင်း ဖြစ်သည်။ (Chinworld, July-2013)

၂၀၁၃ခုနှစ်၊ ဧပြီလ ၂၄ရက်နေ့တွင် Vaphai ရွာကချင်းလူမျိုး (Laimi) နေထိုင်သောကျေးရွာ SaikhumPhai မီးရှို့လိုက်သောအခါ ကျောင်းဆက်လက်မတက်နိုင်၍ ကလေး၁၀ ယောက်အတွက် ကျောင်းပြန်လည်ဆက်တက်နိုင် ရန် Non Residential Special Training Centre ကိုစက်တင်ဘာလ ၁၄ရက် နေ့က SA Mission Champhai District မှ ယာယီ ၃လအတွင်းဖွင့် လှစ်ပေးခဲ့ ကြောင်းထပ်မံသိရှိရသည်။ အဆိုပါနယ်စပ်ကုန်သွယ်ရေး လမ်းကြောင်းသည် နယ်စပ် Saikhumphai ရွာ ကနေချင်းပြည်နယ် Leilet, Silawn, Singai, Zawngte, Thip Caang, Haimual, Thinghual, Tikhuang Tum, TlangKhua, Ngatounu, Tlangzar ရွာ ဖြတ်သန်းပြီး မြို့တော်ဟားခါးမြို့ သို့ဝင်သွား မည်ဖြစ်သည်။

ချင်းပြည်နယ်အတွင်းရှိ လက်ရှိရွာဆက်ကားလမ်း ၁၅မိုင်အတွက် မြတ်နိုးသူကုမ္ပဏီကယခုနှစ် နွေရာသီက ဖောက်

လုပ်ခဲ့ပြီးဖြစ်ကြောင်း တီအို (Tio) ချောင်းတံတားဆောက်လုပ်ဘို့ ချင်းပြည်နယ်ဆောက်လုပ်ရေးဌာန ဝန်ကြီး Pu Ngun Sang Aung က မေလအတွင်းမှာ သူကိုယ်တိုင်လေ့လာပြီးပြီဖြစ်သည်။

မီးဇိုရာမ်ပြည်နယ်ကုန်သွယ်ရေးနှင့် စီးပွားရေးဌာန ဝန်ကြီး Pu LalrinLiana Sailo က "MIZO Two " ဆိုတာမရှိဘူး ဇို(Zo)မျိုးနွယ်စုအားလုံး ဟာတစ်ဝမ်းထဲတအူတုံဆင်းမျိုးနွယ်တွေဖြစ်သည်။ ယခင်ကမလိုလားအပ်တဲ့ပြဿနာတွေကို မေ့ထားပြီးအိန္ဒိယ–မြန်မာနှစ်နိုင်ငံအတွက် အကျိုးရှိမယ်၊ Border Trade Centre အဖြစ်ထားရှိတာ အများကြီး ဂုဏ်ယူဝမ်းမြောက်မိတယ်ဟု ပြောကြားခဲ့သည်။ (ညွှန်း Khonum Thung Journal Vol - 1, No-6, Oct 2013 P.3) ချင်းလူမျိုးများထဲမှာ ပြည်နယ်အဆင့်နှင့် အထက်ခေါင်းဆောင်များသဘောထားအမြင်မှာ လူမျိုးရေး ပြဿနာဖြစ်ပေါ်စေသောအတွေးအခေါ်မရှိသော်လည်း လူငယ်ပိုင်းမှာ ဘာသာစကားမတူတာ၊ လူမျိုးအမည်ကွဲတာကြောင့် ခွဲခြားခြင်းဖြစ်ပေါ်လာတတ်သည်။

အမျိုးသားလွှတ်တော်အစည်းအဝေးနိဝင်ဘာလ ၆ ရက်နေ့ ၂၀၁၃ ခုနှစ်မှာ နေပြည်တော်၌ ကျင်းပစဉ် ချင်းပြည်နယ်မဲဆန္ဒနယ်အမှတ် (၃) မှ ဦးပေါလ်ထန်ထိုင်း၏မြန်မာ–အိန္ဒိယနယ်စပ်တစ်လျှောက်ရှိ နယ်စပ်ကားလမ်း (၃) ခုကို အပြည်ပြည်ဆိုင်ရာ

ဝင်ထွက်ပေါက်များအဖြစ် တရားဝင်ဂိတ်များဖွင့် လှစ်ရန် အစီအစဉ်ရှိ/ မရှိမေးခွန်းစပ်လျဉ်း၍ စီးပွါးရေးနှင့်ကူးသန်း ရောင်းဝယ်ရေး ဝန်ကြီးဌာနဒုတိယဝန်ကြီး ဒေါက်တာ ပွင့်ဆန်းက မြန်မာ–အိန္ဒိယနိုင်ငံနယ်စပ်တွင် (၁) တမူးနယ်စပ်ကုန်သွယ်ရေး စခန်း (၂) ရိဒ်နယ်စပ်ကုန်သွယ်ရေးစခန်း (၃) ထန်တလန်ယာယီ နယ်စပ်ကုန် သွယ်ရေးစခန်းတို့ကို ဖွင့်လှစ်ဆောင်ရွက်ခဲ့ ကြောင်း ပြောကြားသည်။ ရည်ရွယ်ချက်များကို နှစ်နိုင်ငံ ချစ်ကြည်ရင်းနှီးမှုရှိ ခြင်း၊ ဒေသအတွင်း လုံခြုံငြိမ်းချမ်းမှုရှိခြင်း၊ လမ်းပန်းဆက်သွယ်မှု ချောမွေ့ကောင်း မွန်ခြင်း၊ နှစ်နိုင်ငံ ကုန်သွယ်မှုလုပ်ငန်းအစီအစဉ် နှင့်ဘဏ်လုပ်ငန်း အစီအစဉ်များ ညှိနှိုင်းသဘောတူညီမှုနှင့် ယင်းအခြေ ခံ အဆောက်အ အုံများ၊ ထူထောင်ပေးနိုင်မှုရှိခြင်း၊ ဒေသတွင်းစားသုံးမှု ဖူလုံသည့် အပြင် ပိုလျှံမှုရှိခြင်းပြည်တွင်း ပြည်ပဈေး ကွက်သို့သို့ ရောက်ချနိုင် မည်။ ကုန်ပစ္စည်းများရှိခြင်းနှင့်ဈေးကွက်ဖွံ့ဖြိုးမှုရှိခြင်း၊ အခြား ပြည်တယ်၊ တိုင်ဒေသကြီးများနှင့်လည်း ချိတ်ဆက်၍ ကုန်စည်များ ကို တရားဝင်နည်းလမ်းဖြင့် ကူးသန်းရောင်းဝယ်ပြီး တိုက်ရိုက် (သို့မဟုတ်) တစ်ဆင့်ခံ ကုန်သွယ်ရောင်းချမှုပြုနိုင် သည့် အခြေအ နေရှိခြင်း၊ နယ်စပ်ကုန်သွယ်ရေးစ ခန်း ဖွင့်လှစ်မည့်နယ်စပ် ဒေသတွင် နှစ်နိုင်ငံ နယ်နိမိတ်တိုင်းတာရေး ကိစ္စရှင်းလင်းပြီး ဖြစ်ခြင်း စသည့်အချက်များကိုလည်း ထည့်သွင်းစဉ်းစားရမည် ဖြစ် ကြောင်းလည်းရှင်းပြသည်။

မြန်မာ–အိန္ဒိယ နယ်စပ်ကားလမ်း (၇)လမ်းရှိခဲ့ရာ၊ နယ်စပ်ကုန်သွယ် ရေးစခန်းဆောင်ရွက်ပေးနိုင်သည်။ နှစ်ခုသာ ဖွင့်လှစ်ပေးနိုင်ကြောင်း၊ ထိုနယ် စပ်ကုန်သွယ်ရေးစခန်း (၂)ခု နှင့် ဆက်သွယ်ပေးသည့်လမ်းကြောင်း (၃)ခု ဖြစ်သည့်

(၁) ကလေး–တီးတိန်–ရိဒ်မှ မီဇိုရမ်–တီအိုလမ်း

(၂) ဟားခါး–ဖလမ်း–ရိဒ်မှ မီဇိုရမ်–တီအိုလမ်း

(၃) ဟားခါး–ထန်တလန်–ဆိုင်ဆီခြောက်မှ မီဇိုရမ်–ဆိုင်ခွန်ဖိုင်–အိန္ဒိ ယပြည်၊

အထက်ပါကုန်သွယ်ရေး စခန်း (၃)ခုကို တရားဝင်ဂိတ်များဖွင့်လှစ်ထားပြီး ဖြစ်ပါကြောင်း၊ လက်ရှိအခြေအနေတွင် ကျန်လမ်းကြောင်း (၄)ခုတွင် တရားဝင် ဂိတ်များဖွင့်လှစ်ရန်အတွက် သော်လည်းကောင်း၊ လက်ရှိဖွင့်ပြီး တရားဝင်ဂိတ် အပါအဝင် မြန်မာ–အန္ဒိယ်နယ်စပ်ရှိကားလမ်း (၇)ခုလုံးကို အပြည်ပြည်ဆိုင်ရာ ဝင်ထွက်ပေါက်အဖြစ် တရားဝင်ဖွင့်လှစ်ရန် အစီအစဉ်မရှိသေး ကြောင်းဖြင့် ပြန် လည် ဖြေကြားခဲ့သည်။ (ကြေးမုံ နေ့စဉ်သတင်းစာ ၇–၁၁–၂၀၁၃၊ စာ–၉)။

## ၁၂။ ချင်းပြည်နယ်သဘာဝ သယံဇာတ စီမံကိန်း

၂၀၁၃ ဇွန်လ ၉ ရက် ဗိုမီးလူငယ်ညီလာခံ တီးတိန်မြို့တွင် ကျင်းပသောအခါ ကြေငြာချက် ၇ ချက် ထုတ်ပြန်ခဲ့ပြီး နံပါတ်လေးမှာ မြေတောင်သတ္တုစီမံကိန်းရပ်ဆိုင်းပေးပါရန် တောင်းဆိုခဲ့သည်။ ထိုကဲ့သို့ အောက်ပါအတိုင်း ဒုတိယအကြိမ် ချင်းအမျိုးသားညီလာခံက ကြေငြာချက်ထုတ်ပြန်ခဲ့သည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ပြည်နယ်နှင့်တိုင်း (၁၄) ခု အနက်ချင်းပြည်နယ်ရှိ သဘာဝသယံဇာတ များ စီမံခန့်ခွဲမှုကို ယင်းပြည်နယ်အစိုးရအား ပေးအပ်ရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၂–၁၈ ရက်ထိ ဟားခါးမြို့တွင် ကျင်းပသော (CNF ဦးစီး) ဒုတိယအကြိမ် ချင်းအမျိုးသားညီလာခံသဘောထားထုတ်ပြန်ချက် (၁၃) ချက်တွင် ထည့်သွင်းတောင်းဆိုထားကြောင်းသိရသည်။ ချင်းအမျိုသား ပထမအကြိမ်ညီလာခံကို ၁၉၄၈ ခုနှစ်၊ ဖေဖော်ဝါရီ (၂၀) ရက် ဖလမ်းမြို့၌ ကျင်းပသည်။

ချင်းအမျိုးသားညီလာခံကျင်းပရေးကော်မတီညှိနှိုင်း ရေးမှူး ဆလိုင်းအိုက်ဇက်ခင် ကချင်းပြည်နယ် သယံဇာတတွေက တော် တော်နည်းလာပြီ။ သစ်တောပိုင်းမှာ မရှိသလောက်နည်းလာပြီ။ သယံဇာတစီမံခန့်ခွဲမှုကို ကိုယ်ပိုင်လုပ်ခွင့်ရှိမှ ပြည်နယ်ရဲ့ ဖွံ့ ဖြိုးတိုးတက်မှုရှိမှာပါဟုဆိုသည်။

ဆလိုင်းငယ်ပီး က "ကျွန်တော်တို့ချင်းပြည်နယ် ကျွန်းသစ် ထုတ်တဲ့နေရာမှာ လမ်းပမ်းဆက်သွယ်ရေး မကောင်းလို့ဆိုပြီး ချင်းမြောက်ပိုင်းကို စစ်ကိုင်းတိုင်းထဲထည့်လိုက်တယ်။ တောင်ပိုင်း ကိုလည်း မကွေးတိုင်းထဲ ထည့်လိုက်တယ်။ ဒါဟာ ပြည်နယ်အ တွက်နစ်နာတာပဲ။ မြေတောင်၊ ဖားတောင် ကိစ္စလည်းပွင့်လင်း မြင်သာမှု မရှိဟုဆိုသည်။ အချို့မြေများမှာ အစိုးရမှ မြေလွတ်မြေရိုင်း ဟုသတ်မှတ်ထားကြောင်း ပြောသည်။

ချင်းပြည်နယ် ထန်လန်မြို့နယ် လွှတ်တော်ကိုယ်စားလှယ် ဒေါ်သဇင် က "ပြည်နယ်အနေနဲ့ ချင်းပြည်နယ် သဘာဝသယံဇာတ စီမံခန့်ခွဲမှုနှင့် မြေလွတ်မြေရိုင်းတွေ နစ်နာမှုကို လာမည့် ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ( ) နဝမအကြိမ် ပြည်သူ့လွှတ်တော်တွင် အဆို တင်သွင်းသွားမည်ဖြစ်ကြောင်း သိရသည်။ (ပြည်ကျော်–လူထုပုံရိပ်၊ Vol.(2), No. (11) Friday, Nov.13, 2013, p.10)

**ချင်းပြည်နယ်သစ်တောနှင့် သတ္တုဝန်ကြီးဦးကျော်ငြိမ်း နှင့် ဖလားဝါးနယ်ယူးစ်ဂျာနယ်တွေ့ဆုံမှုသီးသန့်တွေ့ဆုံ မေးမြန်း ခန်းမှကောက်နုတ်ချက်**

ဝန်ကြီး ဦးကျော်ငြိမ်း က၊

ချင်းပြည်နယ် မြို့နယ်ကိုးခုမှာ ရှစ်ခုလောက်မှာ သတ္တုထွက် သည်။ ခနောက်စိမ်း၊ နီကယ်၊ ခရိုမိုက်၊ သံသတ္တု ကန့်ကူဆန်၊ ထုံးကျောက် တွေထွက်ရှိပါတယ်။ လက်ရှိမှာ ကုမ္ပဏီ (၁၁) ခုက လျှောက်ထားလို့ ကုမ္ပဏီ (၅) ခုကိုသာခွင့်ပြုတယ်။ တူးဖော်ခွင့်ပြုတဲ့ ဒေသကို တီးတိန်မြွေတောင်၊ ဖလမ်းမြို့နယ် ဝေဘူလတောင်၊ ဟံသာ၊ ရေစို၊ စီသာ ဒေသ၊ တွန်းဇန်မြို့နယ်တွေမှာ တူးဖော်ခွင့်ပြု ထားပါတယ်။ အဲဒီ ကုမ္ပဏီတွေက ခရိုမိုက်၊ နီကယ်၊ ခနောက်စိမ်း တွေကို တူးဖော်မှာဖြစ်တယ်။ ခွင့်ပြုမိန့်ကျပေမယ့်လည်း စမ်း သပ်တိုင်းတာမှုတွေတောင် တစ်ချို့က မလုပ်ကြသေးဘူးပါဘူး။ ပြည်နယ်အစိုးရမှာ ဆုံးဖြတ်ပိုင်ခွင့်မရှိသေးဘူး။ ကွင်းဆက်မိ

တိုင်းတာပြီး သဘောထားမှတ်ချက်ပေးရတဲ့အဆင့်ပဲရှိတယ်။ ပြည်ထောင်စုအစိုးရကပဲ ဆုံးဖြတ်ပြီး ခွင့်ပြုထားတာပါ။ ပြည်ထောင်စုအစိုးရက ဥပဒေတစ်ခုရေးဆွဲလို့ အကျိုးအမြတ်သတ်မှတ်ခြင်း တိကျမရှိဘူးတဲ့အတွက် ပြည်သူလူထုက ပြည်နယ်အစိုးရကို ယုံကြည်မှုအားနည်းတယ်။ ချင်းပြည်နယ်ကို အရင်ခေတ်ကထက်စာရင်း လမ်း၊ တံတား၊ ကျေးလက်မီးလင်းရေး၊ ရေရရှိရေး ကိုအထိုက်အလျောက် လုပ်ဆောင်နိုင်ခဲ့ပါတယ်။ ထင်သာမြင် သာတော့ရှိပါတယ်။ ဒါပေမယ့် ပြည်သူတွေက အားမရကြသေးပါဘူး ဟုပြောသည်။ (အောင်အောင်နှင့် ဝန်ကြီး ဦးကျော်ငြိမ်းတွေ့ဆုံးခြင်း – The Flower News, Vol.9, No.49-Dec 17-23, 2013 - p.18)

## ၁၃။ချင်းပြည်နယ်တောင်တန်းဒေသ ဗုဒ္ဓဘာသာ ပြန့်ပွါးရေးပြ နာ

## (၁)ချင်းပြည်နယ်ဘာသာရေးချိုးဖောက်မှုနှင့် ဗုဒ္ဓသာသနာပြု ကျောင်းထိုင် ဦးနန္ဒသီရိ

ချင်းပြည်နယ်၊ မင်းတပ်မြို့နယ်၊ ပန်းအော့ကျေးရွာမှ ဗုဒ္ဓသာသနာပြုကျောင်းထိုင် ဘုန်းတော်ကြီး ဦးနန္ဒသီရိ အား အရေးယူပေးရေး ဒေသခံ ဦးနိုင်ထန်း ကမြို့နယ်အုပ်ချုပ်ရေးမှူးထံ ယခုလအောက်တိုဘာလ (၉) ရက်နေ့က တိုင်ကြားလိုက်ကြောင်း သိရသည်။

ဦးနန္ဒသီရိသည် ဒေသခံ ခရစ်ယာန်ဘာသာဝင်များအပေါ် ဘာသာသာသနာကို အကြောင်းပြုပြီး ခွဲခြားဆက်ဆံခြင်း၊ ခရစ်ယာန်သာသနာကို စော်ကားနှောင့်ယှက်ခြင်းများ ပြုလုပ်ကြောင်း ယင်းလုပ်ရပ်သည် ကုလသမဂ္ဂ၏ ကြေငြာချက် လူ့အခွင့်အရေး ဖွဲ့စည်းပုံခြေခံဥပဒေ (၂၀၀၈) ပြဌာန်းချက်ကိုလည်း ဖောက်ဖျက်ကျူး လွန်နေသည်ဟု ဖော်ပြထားသည်။ ဦးနန္ဒသီရိသည် ခရစ်ယာန်ဘာ သာကို တိုက်ဖျက်ရန် လာရောက်ပြီး သာသနာပြုခြင်းဖြစ် သည်ဟုဆိုပြီး ခရစ်ယာန်ဘာသာဝင်များအား ဝတ်ပြုစည်းဝေးပွဲမပြု လုပ်ရန် တားမြစ်ခြင်း၊ လက်မှတ်များရေးထိုးခိုင်းခြင်း၊ ဘုရား ဝတ်ပြုစဉ်ဓာတ်ပုံများရိုက်ယူခြင်း၊ ဘုရားဝတ်ပြုဦးဆောင်သူကို ကိုယ်ထိလက်ရောက်ကျူးလွန်ခြင်းတို့ကို ကျူးလွန်သဖြင့် အရေးယူပေးရန်တိုင်ကြားထားခြင်းဖြစ်သည်ဟု သိရသည်။ ထိရောက်စွာအရေးယူပြီး တခြားဒေသသို့ပြောင်းရွှေ့ပေးရန်နှင့် ခရစ်ယာန်သာသာဝင်များအား တိုက်ဖျက်ရန် ဗုဒ္ဓဘာသာ သာသနာ ပြုဘုန်းကြီး များ၏ ခန့်အပ်ခြင်း မှန်၊ မမှန် အမြန်ဆုံး စုံစမ်းပေးပါ ရန်ဟု ပါရှိသည်။ နတ်ကိုးကွယ် ဘာသာဝင်လည်း နိုင်ငံတော်က အသိအမှတ်ပြုရန်ပါရှိသည်။

၂၀၀၈ ခုနှစ် စာရင်းအရ ချင်းပြည်နယ်တွင် ခရစ်ယာန်ဝင် ၈၇.၃၀% ၊ ဗုဒ္ဓဘာသာဝင် ၁၁.၂၉%၊ နတ် ဘာသာဝင် ဝ.၇၉% နှင့် အခြားဘာသာဝင် ဝ.၆၄% ရှိပြီး မင်းတပ်မြို့နယ်တွင်

ခရစ်ယာန်ဝင် ၅၇.၁၂%၊ ဗုဒ္ဓဘာသာဝင် ၄၁.၂၆% နှင့် နတ်ဘာသာဝင် ၁.၆၂% ရှိသည်။ ချင်းလူ့အခွင့်အရေးအဖွဲ့ချုပ်၏ သာသာရေးဆိုင်ရာ အခွင့်အရေးချိုးဖောက်မှု နောက်ဆုံးအစီရင်ခံစာအရ ချင်းပြည်နယ်တွင် ၂၀၁၁ မတ်လ-၂၀၁၃ မတ်လ အထိ သာသာရေးအခွင့်အရေးဆိုင်ရာ ချိုးဖောက်မှု ၁၅ ခုရှိကြောင်း သိရသည်။ (KhonumThung, Vol.1 No.7, No.2013P.4) ၂၀၁၂ စာရင်းအရ ချင်းပြည်နယ် လူဦးရေ ၅၃၃,၀၄၇၊ ဗုဒ္ဓဘာသာ ၆၀,၁၉၉၊ ခရစ်ယာန် ၄၆၅,၃၅၂၊ အစ္စလာမ်မစ် ၁၃၇၊ ဟိန္ဒူ ၄၂၊ Laipianism ၃၂၅၄၊ နတ်ကိုးကွယ် ၄၀၆၄ (Source. CHRO, Refference, Ministry of Religious Affairs. Chin State 2012) ၁၉၈၈ ခုနှစ် မှစ၍ ယနေ့ (၂၀၁၃) စစ်အစိုးရခေတ်အတွင်းမှာ ချင်းပြည်နယ်မှာ လက်ဝါးကပ်တိုင် ၂၀ ဖျက်ဆီးခံခဲ့သည်ဟု CHRO-Director Salai Bawi Lian Mang- ချင်းလူ့အခွင့်အရေးအဖွဲ့က ၂၀၁၃ ခုနှစ် ဒီဇင်ဘာလ (၇) ရက်နေ့တွင် Chin Land Today Info မှာ ဖော်ပြခဲ့ပါသည်။ ဘာသာရေးကြောင့် လူ့အဖွဲ့အစည်းခွဲခြားခြင်းကို ကရင်ဗုဒ္ဓဘာသာနှင့် ခရစ်ယာန် ကဲ့သို့ ချင်းအမျိုးသားထဲမှာ မလိုလားသော ပြဿနာတစ်နေနေ့မှာ ဖြစ်ပေါ်လာမှာဖြစ်၍ ကြိုတင်သတိထားဖို့လိုသည်ဟု သိစေလိုပါသည်။

## (၂ )ချင်းပြည်နယ်မြောက်ပိုင်းရှိထေရဝါဒဗုဒ္ဓသာသနာပြု ကျောင်း များသို့ ဆိုင်ကယ်အစီး (၃၀) လှူဒါန်း

မှော်ဘီမြို့နယ် အောင်ဇမ္ဗူတောရဆရာတော် ဘဒ္ဒန္တ ပဏ္ဍာဝံသ မှ ဆိုင်ကယ်အစီး (၃၀) အား ရေစက်ချ လှူဒါန်းပွဲသို့ ဒီဇင်ဘာလ (၈) ရက်၊ နေ့လယ် (၂) နာရီက ကလေးမြို့ မဟာသန္တိ စာသင်တိုက်ကြီးရှိ ဓမ္မာရုံကြီးတွင် ကျင်းပပြုလုပ်ခဲ့ကြောင်း သိရသည်။ ဆရာတော်ဘဒ္ဒန္တ ပဏ္ဍာဝံသသည် ယခင်ကလည်း ချင်းပြည်နယ်မြောက်ပိုင်းရှိ ဗုဒ္ဓသာသနာပြုကျောင်းပေါင်း (၂၈) ကျောင်းအတွက် ဆန်(၁)အိတ်နှင့် ဆီ(၁)ပုံး စီလှူဒါန်းခဲ့ကာ ယခုအကြိမ်တွင် ထပ်မံ၍ ချင်းပြည်နယ်မြောက်ပိုင်း၊ ဖလမ်းမြို့နယ်ရှိ ဗုဒ္ဓသာသနာပြုကျောင်း (၁၀) ကျောင်း၊ တွန်းဇံမြို့နယ်ရှိ ဗုဒ္ဓ သာသနာပြုကျောင်း (၄) ကျောင်း၊ တီးတိန်မြို့နယ်ရှိ ဘုန်းတော်ကြီးကျောင်း (၅) ကျောင်း၊ ထန်တလန်မြို့နယ်ရှိ ချင်းတောင် သာသနာပြုကျောင်း (၂) ကျောင်း၊ ဟားခါးမြို့နယ်ရှိ သီလရှင်ကျောင်းအပါအဝင် စာသင်တိုက်နှင့် ဗုဒ္ဓသာသနာပြုကျောင်းပေါင်း (၉) ကျောင်း စုစုပေါင်း ချင်းပြည်နယ်မြောက်ပိုင်းတစ်ခွင် ဗုဒ္ဓသာသနာပြုကျောင်းပေါင်း (၃၀) အတွက် တန်ဖိုး သိန်း (၁၃၀) ခန့်ရှိ ဆိုင်ကယ်အစီး (၃၀) ကို လှူဒါန်းခဲ့ကြောင်း သိရသည်။ (Thang Cin Khual, Reporter News Journal, Issue-50, Dec 15, 2013 - p.15)

## (၃) ဘာသာရေးကို အမျိုးသားရေးသာမဟုတ် လူတိုင်းအ တွက်ဖြစ်စေပါ

နိုင်ငံတိုင်းမှာ ဘာသာရေးအကြီးအကဲများ၊ နိုင်ငံခေါင်းဆောင် အကြီးအကဲများရှိသလို ပြည်ထောင်စုမြန်မာ နိုင်ငံမှာလည်း ရှိသည်ဟု ရှင်းပြစရာမလိုပါ။ သို့သော် လူဦးရေသန်း (၆၀) ၂၀၁၃ မှာ ဗုဒ္ဓဘာ သာကိုးကွယ်သူ သန်း ၄၅ ကျော်သော မြန်မာနိုင်ငံသားများသည် တစ်ခြားဘာသာဝင်လူနည်းစုများ ယူဆခြင်း မတူကြပေ။ ဤကဲ့သို့ ယူဆပုံ၊ ယုံကြည်ခြင်း၊ အယူဝါဒမတူသော လွတ်လပ်စွာကိုး ကွယ်ခွင့်ရသော နိုင်ငံသားများက ဘာသာရေးကို အခြေခံ၍ လူမျိုး ရေးဝါဒ ဖြစ်စေခြင်းကို ရှောင်ရှားသင့်သည်။ မြန်မာနိုင်ငံသား တစ်ယောက်က လူ့အခွင့်အရေး၊ ဥပဒေ ချိုးဖောက်မှုကြောင့် နိုင်ငံတော်အစိုးရ နာမည်ပျက်၊ တစ်ပြည်လုံးလည်း နာမည်ပျက်၊ နိုင်ငံသားအားလုံးလည်း နာမည်ပျက်ခဲ့သည်ဟု စဉ်းစားသင့်ပါသည်။ ဘာသာရေး ခေါင်းဆောင်များက ဘာသာရေး ကျောင်းဝင်း၊ အ ဆောက်အအုံထဲမှာ ထိုင်၍တရားဟောပါ။ လောကီရေးရာနိုင်ငံရေး ကို နိုင်ငံရေးခေါင်းဆောင်များ လုပ်ခိုင်းပါ။ နိုင်ငံခေါင်းဆောင်များက လည်း ဘာသာရေးမှာ သက်ဆိုင်ရာဌာနများ၊ ဝန်ကြီးဌာန တာဝန် ပေးတဲ့အတိုင်း လုပ်ခိုင်းပါ။ ဦးနုကဲ့သို့ သမ္မတ၊ ဝန်ကြီးချုပ် ဘာသာ ရေးခုတုံးအဖြစ်သုံးကာ နိုင်ငံရေးခေါင်းဆောင်မျိုးကို မြန်မာအစိုး

ရပိုင်းမှာ ရှိနေသရွေ့ ပြဿနာပိုမိုကြီးကျယ်လာ၍ နိုင်ငံတော်အာဏာလက်လွတ်သောအခါ စစ်တပ်လက်သို့ ပြန်လည်ထားရမှာဖြစ်သည်။

**(၄) ဘာသာရေး အမှတ်အသား ၉၆၉ နှင့် ရ၈၆ ဘာလဲ။**

ထက်မြက်ရေးသော (ပြည်သူ့ဆန္ဒဂျာနယ်၊ အတွဲ ၁/အမှတ် ၄၀/၁၉–၁၂–၂၀၁၃ စာ–၁၉) ဆောင်းပါးမှ ကောက်နုတ်ချက်ပြန်လည်ဖော်ပြလိုပါသည်။

**လူ့ရုပ်ကိုကြည့်ခြင်းဖြင့် ယူဆပုံမှားတတ်ခြင်း –**

မိုးကုတ်မြန်မာနိုင်ငံ စာရေးဆရာများ သမဂ္ဂ၏ နာယကတစ်ဦးဖြစ်သူ ကလောင်နာမည် သရော်ဂါလေး ဂေါ်ရခါး လူမျိုး၊ မြန်မာနိုင်ငံသား၊ ဗုဒ္ဓဘာသာကိုးကွယ်သူဖြစ်သည်။ ရခိုင်ပြည်ပြဿနာ နောက်ပိုင်းမှစ၍ ဗမာ လူမျိုးများက သူတို့ရုပ်ကြည့်ကာ ဂေါ်ရခါးလူမျိုးများ ကုလားရုပ်ဖြစ်သောကြောင့် ဗုဒ္ဓဘာသာဝင်များဖြစ်သော်လည်း အစ္စလာမ်ဘာသာဝင်များဟုထင်၍ ပစ္စည်းရောင်းကောင်းခြင်းမရှိပါ။ ဂေါ်ရခါးတစ်ယောက် ယုဇနပလာဇာတွင် လျှပ်စစ်ပစ္စည်းဆိုင်ရှင်က သူ့ဆိုင်နဖူးစည်းတွင်း **"၉၆၉"** ဂဏန်းကို စာလုံးကြီးကြီးရေးပြီး ကပ်ထား၍ ဗုဒ္ဓဘာဝင် တစ်ချို့ကရုပ်ကိုကြည့် ခြင်းဖြင့် မူဆလင်ဘာသာဝင်ဟုထင်ကာ "၉၆၉" ဂဏန်းမကပ်နှင့် ဟုပြောလိုက်သေး သည်ဟုဆိုသည်။ ၉၆၉

ဂဏန်း (နံပါတ်) ပေါ်ကတည်းက ကျွန်တော်ဘဝင်မကျခဲ့ပါ။ သံဃာ့မဟာနာယက အဖွဲ့က ဂဏန်း ၉၆၉ အဖွဲ့ကို ဖျက်သိမ်းဖို့ အမိန့်ထုတ်ထား၏။ ၉၆၉ ဆိုသည်မှာ မွတ်ဆလင်ဘာသာဝင်တို့၏ **၇၈၆** ဆိုသည်ကို တန်ပြန်လုပ်ခဲ့ခြင်းဖြစ်သည်။ ၉၆၉ ဆိုသည်မှာ ယခင်တည်းက ရှိခဲ့ခြင်းမဟုတ်၊ ကျွန်တော် ငယ်ငယ်ကတည်းက လည်းမရှိခဲ့ပါ။ ထို ၉၆၉ အရှုပ်တော်ပုံကြောင့် ရခိုင်ပြည်နယ်နှင့် ဒေသတစ်ချို့တွင် ဘာသာရေးနွယ်သော အဓိကရုဏ်းများ ဖြစ်ခဲ့ရသည်။ အလွန်ကြေကွဲဖွယ်ကောင်းသော သေဆုံးမှုများ ထိခိုက် ဒဏ်ရာရမှုများ၊ အိုးအိမ်ပျက်ဆီးမှုများဖြစ်ခဲ့ရသည်။

အရှင် ဝီရသူ (Face of Buddhis Terror, Time Magazine - 2013)သည် မျိုးစောင့်ဥပဒေကို ဦးဆောင်သူ၊ ဒေါ်အောင်ဆန်း စုကြည်နှင့် NLD ပါတီဆန့်ကျင်ပြီး ပြည်ခိုင်ဖြိုးခေါင်းဆောင်များကို အသားပေးရွေးချယ်သည်ကို ယခုမှကြားဖူးလိုက်သဖြင့် အလွန်စိတ်ပျက်သွားမိပါသည်။ မိမိနှင့်မဆိုင်သော လောကီရေးတွင် ဝင်ရောက်စွက်ဖက်နေသည့် ဗုဒ္ဓသာသနာပြုပုဂ္ဂိုလ်တစ် ယောက်အ ကြောင်း အလွန်အံ့သြမိလေသည်။

ယနေ့ထက်တိုင်အောင် ရခိုင်အရေးအခင်းဖြစ်ပေါ်မှု၊ မိတ္ထီလာတွင် လူမျိုးရေး၊ ဘာသာရေး၊ အဓိကရုဏ်းများ ဖြစ်ပေါ်မှု၌ နောက်ကွယ်ကသွေးထိုးသော လျှို့ဝှက်အဖွဲ့အစည်းများရှိသည်ကို ဦးဝင်းထိန် (မိတ္ထီလာ NLD အမတ်) နှင့် ၈၈ မျိုးဆက်ကျောင်းသား များက သိလေသည်။ ထို့ကြောင့် ၉၆၉ ကို ဖော်ပြီး ၇၈၆ ကို

တိုက်မည့်သူများ၊ သာသာရေးခွဲခြားမှုနှင့် ဒီမိုကရေစီကျင့်စဉ်များကို ဖျက်ဆီးနေသူများမှာ မည်သူဖြစ်နိုင်ပါသလဲ။

**စာရေးသူ ဟန်နာဘီချ်က –**

ရခိုင်အရေးအခင်းမှာ ဗုဒ္ဓဘာသာနှင့် အစ္စလာမ်အရေးအခင်း ဟု ကချင်ပြည်နယ်စစ်ပွဲလည်း ခရစ်ယာန်နှင့် ဗုဒ္ဓဘာသာစစ်ပွဲဟု သီရိလင်္ကာတွင် တမီးလ်ကျားလက်နက်ကိုင်အဖွဲ့နှင့် စစ်တပ်တိုက်ပွဲကျ ဗုဒ္ဓဘာသာနှင့် ဟိန္ဒူ စစ်ပွဲဟု ထိုင်းနိုင်ငံတောင်ပိုင်းမှ မူဆလင်ခွဲထွက်ရေးသမားများနှင့် ထိုင်းအစိုးရတပ်မတော်စစ်ပွဲကို ဗုဒ္ဓဘာသာနှင့် အစ္စလာမ်ဘာသာတိုက်ပွဲဟု နေရာတိုင်းမှာ ဗုဒ္ဓဘာသာများက ဘာသာရေးအဓိကရုဏ်းများဖန်တီးသည်ဟု ဆိုလိုခြင်းဖြစ်သည်။

စာရေးသူ ထက်မြက်က အမှန်မှာ ထိုသို့ မဟုတ်ပေ။ ဗုဒ္ဓဘာသာဝင် သံဃာများသည် တစ်ဖက်သားကို နိမ့်ချစော်ကားခြင်းမျိုး၊ နိုင်ငံရေးအရ မိမိတို့လိုချင်သော ပုဂ္ဂိုလ်ကို အမွှန်းတင်ပြောဆိုပြီး တခြားတစ်ဖက်ကို နှိမ့်ချ ပြောဆိုခြင်းမရှိပေ။ မြန်မာနိုင်ငံသည် လွတ်လပ်သော ကိုးကွယ်ခွင့်ပေးထားသော နိုင်ငံဖြစ်လေသည်။ လွတ်လပ်စွာကိုးကွယ်ခွင့်ရှိသည်ဆိုကာ မိမိတို့ သာသာတရားအတွက် အမြတ်ထုတ်ခြင်း၊ ဗုဒ္ဓဘာသာကို စော်ကား ခြင်းများအားလည်း တရားဥပဒေအရ အရေးယူပါသည်ဟု ဂေါ်ရခါးပညာသင်

ထောက်ပံ့ရေးအဖွဲ့မှ ဗုဒ္ဓဘာသာဝင် ဂေါ်ရခါး လူငယ်များကို ရဲရဲသာနေပါဟု တိုက်တွန်းခဲ့ပါသည်။ စာရေးသူ ထက်မြက်က အထက်ပါရေးခဲ့သော အကြောင်းကို ကျွန်တော်ကလက်ခံသည်။ သို့သော် မည်သည့်ဘာသာမဆို သံဃာတော်၊ ဆရာတော်၊ ဘုန်းကြီး၊ သင်းထောက်ဆရာပဲဖြစ်ဖြစ် ဘုရားသခင်မဟုတ်ဘူး။ လူဖြစ်သည်။ ထို့ကြောင့် ဟန်ဆောင်နေသော ဘာသာရေးခေါင်း ဆောင်တစ်ချို့လည်းရှိသည်။ ရခိုင်၊ မိတ္ထီလာ၊ လားရှိုး ပြ ဿနာမှာ ဘာဖြစ်လို့ရဲ မတိုင်တာလဲ၊ ဘာဖြစ်လို့ ဟိန္ဒူဘုရားကျောင်း၊ ခရစ်ယာန်ဘုရားကျောင်း မီးမရှို့တာလဲ။ ဗုဒ္ဓဘာသာဝင်များပစ်မှတ်မှာ အစ္စလာမ်ဘာသာဝင်များသာ ဖြစ်သလားဟု မေးခွန်းထုတ်လိုပါသည်။

## (၅) နိုင်ငံရေးနှင့် သာသာရေးခွဲခြားခြင်း

၁၉၅၁ ခုနှစ်တွင် လွတ်လပ်ရေးရရှိပြီး (၁၉၄၈) နောက်ပိုင်း၊ ပါလီမန်ဒီမိုကရေစီ ပထမအကြိမ် ရွေးကောက်ပွဲ ကျင်းပနိုင်ခဲ့သည်။ ထိုအချိန်တွင် ပါလီမန်အမတ်တစ်ဦးဦးသည် ဒုလ္လဘရဟန်းဝတ်လျှင် အမတ် (လွှတ်တော်ကိုယ်စား လှယ်) အဖြစ်မှ အလိုအလျောက် ပျက်ပြယ်နိုင်ခြင်းရှိမရှိပြဿနာတစ်ရပ် ဖြစ်ပေါ်လာသည်။

မွန်းသန်းခေါ် ဦးဘဘေ (သထုံခရိုင်၊ ပေါင်မြို့နယ်သား) သည် ၁၉၅၁ ခုနှစ်ပါလီမန်ရွေးကောက်ပွဲတွင် ဖဆပလအဖွဲ့ချုပ်မဲဆန္ဒမှ ပြည်သူ့လွှတ်တော်အမတ် ကျောက်ပန်းတောင်းနယ်မှအ

မတ်အဖြစ် ရွေးချယ်ခြင်းခံသည်။ မွန်းသန်းက အနိုင်ရသောကြောင့် (ပြိုင်ဘက်မရှိသောင်းကျန်းသူများ၍ တခြားပါတီမဝင်) ဝမ်းသာအား ရဖြင့် ဒုလ္လဘရဟန်းဝတ်သည်။ အလှူပြုသည်။ အကျွေးမွေးများဖြင့် ညွှေ့ခံသည်။ မွန်းသန်းရဟန်းဝတ်ခြင်းသည် ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ငြိစွန်းကြောင်း အတိုက်ခံပါတီများက ထောက်ပြကြသည်။

၁၉၄၇ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၇၆၊ အပိုဒ်ငယ် (၄) အရ ဟုဆိုသည်။ ပုဒ်မ ၂၁၊ ပုဒ်မခွဲ (၃) ၌ မည်သို့ပါရှိစေကာမူ အမတ်ရွေးကောက်ပွဲများတွင် မဲဆန္ဒမပေးစေရန် (သို့မဟုတ်) လွှတ်တော်အမတ်ဖြစ်စေရန် မည်သည့်သာသနာ့ဝန်ထမ်းကိုမဆို တရားဥပဒေဖြင့် တားမြစ်နိုင်သည်ဟုပါရှိသည်ဆို၏။ ပါလီမန်ရွေးကောက်ပွဲဆိုင်ရာ အရွေးမခံစေရ၊ အမတ်အဖြစ်နှင့်လည်း တည်မနေစေရဟု ပါရှိကြောင်း ထောက်ပြသည်။ ပြဿနာက ထင်သည်ထက်ပို၍ ကြီးကျယ်သွားသည်။ အတိုက်အခံတို့က ဖဆပလပါတီ ထိုးနှက်ကြသည်။ အမတ်တစ်ဦးသည် အမတ်အဖြစ်မှ ကန့်ကွက်လိုက်သည်နှင့် တပြိုင်နက် ယင်းနေရာအတွက် ကြားဖြတ်ရွေးကောက်ပွဲ ကျင်းပမည် ဖြစ်ကြောင်း အတိုက်အခံတို့က ထောက်ပြကြသည်။ နောက်ပိုင်း ယင်းဥပဒေစာပိုဒ်များ မည်သို့မည်ပုံ ပြောင်းလဲသွား သည်တော့မသိ။ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု ကိုယ်တိုင် ဒုလ္လဘရဟန်းခံခဲ့ဖူးကြောင်းသိရှိရပါသည်။ (တင်နိုင်တိုး – ပါလီမန်အမတ်နှင့် ဒုလ္လဘကိစ္စ၊ ပြည်သူ့ဆန္ဒဂျာနယ် အတွဲ(၁)/အမှတ်

၄၀/၁၉-၁၂-၂၀၁၃-စာ-၁၄) ဤအကြောင်းနှင့်ပတ်သက်၍ ဝန်ကြီးချုပ် (ဟောင်း) ဦးနုက ဗီတိုအာဏာရှိပြီး၊ သူ့ကြိုက်သလို ဖွဲ့စည်းပုံ အခြေခံဥပဒေ ပြင်ဆင်သောကြောင့် ပြည်တွင်းဆူပူမှုဖြစ် ပေါ်လာသည်ဟု သိရှိရသည်။ ဦးနု ကဲ့သို့ လက်ရှိသမ္မတ ဦးသိန်းစိန် က ဗီတိုအာဏာမရှိဟု အောက်ပါအတိုင်းတွေ့ရသည်။

**၆။စစ်ဗိုလ်ချုပ်ရာထိုးတိုးမြှင့်ခြင်းမတူသောခေါင်းဆောင်ကြီး (၄)ဦး**

(၁) ဗိုလ်ချုပ်အောင်ဆန်း ၁၉၄၇ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ရက်နေ့ပင်လုံ စာချုပ်လက်မှတ်မရေးထိုးမှီ ၁၉၄၁မှစ၍ ဂျပန်ခေတ်အစိုးရ လက်ထက်တွင် ဗိုလ်ချုပ်ရာထူးအဖြစ်သော်လည်းကောင်း၊ ၁၉၄၅ ခုနှစ် ဗြိတိသျှ ခေတ်က ဗိုလ်ချုပ်အဖြစ် တပ်မတော်ဦးစီး ချုပ်နှင့် ကာကွယ်ရေး ဝန်ကြီးတာ ဝန်ထမ်းဆောင်ခဲ့ဘူးသည်။ နိုင်ငံခြားသား များက ပေးအပ်သော ဗိုလ်ချုပ်ရာထိုး ဖြစ်မည်ဟုယူဆပါသည်။

(၂) ဒုတိယဗိုလ်မှူးကြီးနေဝင်း (အလယ်ပိုင်းတိုင်းမှူး)ကို ၁၉၅၈-၁၉၆၀ခုနှစ်အထိ အိမ်စောင့်အစိုးရ တာဝန်ယူ၍ ဝန်ကြီး ချုပ်ဦးနုက ၁၉၄၈ခုနှစ်၊ ဩဂုတ်လ ၁ ရက်နေ့တွင် ဒုတိယကာ ကွယ်ရေးဦးစရာထူးတိုးမြှင့်ပေး၍၊ ၁၉၄၉ ဖေဖော်ဝါရီလ ၁ ရက်နေ့ မှစ၍ ကာကွယ်ရေးဦးစီးချုပ် ဗိုလ်ချုပ် စမစ်ဒွန်း ရာထူးမှ နုတ်ထွက် သောကြောင့် ဗိုလ်ချုပ်နေဝင်းသည် ကာကွယ်ရေး စစ်ဦးစီးချုပ်ဖြစ် လာခဲ့၍ ၁၉၄၉ ခုနှစ် မတ်လ ၃ ရက်နေ့တွင် ဒုတိယဗိုလ်မှူးကြီး

ရာထူးတိုးမြှင့်ခဲ့သည်။ ၁၉၅၉ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့တွင် ဗိုလ်ချုပ်ကြီးရာထူးတိုးမြှင့်ခဲ့သည်။ (သန်းဝင်းလှိုင် ၂၀၁၃)။

(၃) ဗိုလ်ချုပ်ကြီးစောမောင်က ၁၉၈၈ခုနှစ်၊ အောက်တိုဘာလ ၁၈ရက်နေ့မှစ၍ ၁၉၉၁ခုနှစ်၊ ဧပြီလ ၂၀ရက်နေ့အထိ နအဖကောင်စီ ဥက္ကဋ္ဌတာဝန်ယူခဲ့သည်။ ဗိုလ်ချုပ်ကြီးနေဝင်း (ဟောင်း)ရာထိုးတိုးမြှင့်သော ဗိုလ်ချုပ်ကြီးလား၊ စစ်ဗိုလ် ချုပ်တချို့က ဗိုလ်ချုပ်ကြီးခန့်ထားလား မသိပါ။ ဗိုလ်ချုပ်ကြီးအငြိမ်းစားတစ်ယောက်ခန့် ထားခြင်းဖြစ်မည်။ တက္ကသိုလ်စိန်တင်က ၁၈-၃-၁၉၉၀ တွင် ဗိုလ်ချုပ်မှူးကြီး စောမောင်အဖြစ် ခန့်ထားခဲ့သည်ဟု ဖော်ပြသည်။ (ပြည်မြန်မာဂျာနယ်အတွဲ ၁ အမှတ် ၁၈၁၊ ၂၀၁၄၊ စာ-၁၅)။

(၄) ဗိုလ်ချုပ်မှူးကြီး သန်းရွှေ ၁၉၉၁ခုနှစ်၊ ဧပြီလ ၂၀ရက်နေ့မှစ၍ ၂၀၁၁ခုနှစ်၊ မတ်လ ၂၀ရက်နေ့အထိ နအဖ ကောင်စီ ဥက္ကဋ္ဌတာဝန်ယူ၍ စစ်အငြိမ်းစားယူခဲ့သည်။ ဗိုလ်ချုပ်ကြီးရာထူးတိုးမြှင့်ခြင်းကို ဗိုလ်ချုပ်မှူးကြီးစောမောင်က ရာထူးတိုးမြှင့်ခြင်းပေးမည်ဟု ယူဆပါသည်။ သို့သော် မီဒီယာများအရဗိုလ်ချုပ်ကြီးစော မောင်ကျန်းမာရေးဆိုးရွား ၍ကုတင်ပေါ်မှာ အိပ်နေတဲ့အချိန်မှာဦးသန်းရွှေ ဗိုလ်ချုပ်ကြီးရာထူးတိုးမြှင့်ပေးတာလား ဗိုလ်ချုပ်မှူးကြီးရာထူးတိုး မြှင့်ပေးတာလား စဉ်းစားစရာတခုဖြစ်သည်။

(၅) ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင်ကို ၂၀၁၁ခုနှစ်၊ မတ်လ ၂၀ရက်နေ့တွင် ဗိုလ်ချုပ်မှူးကြီးသန်းရွှေက သမ္မတဦးသိန်းစိန် တာဝန်ပေးတဲ့နေ့မှာ တပ်မတော်ဒီမိုကရေစီစနစ်ဖြင့် အုပ်ချုပ်ခဲ့၍ ကာကွယ်ရေး

ဦးစီးချုပ်အဖြစ် ယနေ့ (၂၀၁၃)ခုနှစ် ဒီဇင်ဘာလ (၂၀)အထိ တာဝန်ယူခဲ့သည်။ ဗိုလ်ချုပ်မှူးကြီးမင်းအောင်လှိုင်သည် ဗိုလ်ချုပ်မှူးကြီးသန်းရွှေကရာထူးခန့်တာလား တခြားစစ်ဗိုလ်ချုပ်ကြီးများက ဗိုလ်ချုပ်မှူးကြီးအဖြစ်ရွေးချယ်တာလား မသိပါ။ မေးခွန်းထုတ်စရာတစ်ခုဖြစ်သည်။ ၁၉၄၈ ခုနှစ် လွတ်လပ်ရေးရပြီးနောက်ပိုင်းမှ ယနေ့ (၂၀၁၄) အထိ တပ်မတော်ကာကွယ်ရေးဦးစီးချုပ် (၈)ဦးရှိသည်။ ၁။ ဗိုလ်ချုပ်လက်ျာ ၂။ ဗိုလ်ချုပ်ကြီး စမစ်ဒွန်း၊ ၃။ ဗိုလ်ချုပ်ကြီးနေဝင်း ၄။ ဗိုလ်ချုပ်ကြီးတင်ဦး ၅။ ဗိုလ်ချုပ်ကြီးကျော်ထင်၊ ၆။ ဗိုလ်ချုပ်ကြီးစောမောင်၊ ၇။ ဗိုလ်ချုပ်ကြီး သန်းရွှေ ၈။ ဗိုလ်ချုပ်မှူးကြီး မင်းအောင်လှိုင်ဖြစ်သည်။ (တက္ကသိုလ်စိန်တင်– ၁၅ မြန်မာ့သမိုင်းနိုင်ငံတော်အဆင့်တွင် ဗိုလ်ချုပ်ဆိုလျှင် ဗိုလ်ချုပ်အောင်ဆန်း၊ ဗိုလ်ချုပ်ကြီးဆိုရင် ဗိုလ်ချုပ်ကြီးနေဝင်း၊ ဗိုလ်ချုပ်မှူးကြီးဆိုရင် ဗိုလ်ချုပ်မှူးကြီးစောမောင်ဟု ကန့်ကွက်သူမရှိပါက ဂုဏ်ပြုသောအားဖြင့် ခေါ်ဆိုသင့်သည်။ ချင်းသမိုင်းတွင်လည်း ချင်းအမျိုးအသားအသင့် မင်းကြီးဆိုရင် ပိုထောင်းကျင့်ထန်၊ ကာလ်နယ်ဆိုရင် ပိုဒါလ်းဇကမ်း၊ ကပ္ပိတိန်ဆိုရင် ပိုမန်တုန်းနုန်း၊ သံအမတ်ကြီးဆိုရင် ပို ဗုမ်းခေါ်ပောက်ဟု ဂုဏ်ပြုခေါ်ဆိုမည်။

ဗိုလ်ချုပ်အောင်ဆန်းသည် သူ့ကို ဗိုလ်ချုပ်တိုးမြှင့်ပေးသူကို သူ့ထက်ရာထူးကြီးသောစစ်အကြီးအကဲ များဖြစ်သည်။ အမျိုးသားတပ်မတော်တည်ထောင်သူဦးစီးချုပ် အာဇာနည်ခေါင်းဆောင် လွတ်လပ်ရေးဖခင်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် (စတုတ္ထမြန်မာ) တည်ထောင်သူလည်းဖြစ်သည်။

ဗိုလ်ချုပ်ကြီးနေဝင်းမှ ဗိုလ်ချုပ်မှူးကြီးသန်းရွှေအထိ စစ်ဗိုလ်ချုပ်ကြီး၊ ဗိုလ်ချုပ်မှူးကြီးများဖြစ်သော်လည်း စစ်ဗိုလ်ချုပ်ကြီး(သို့)ဗိုလ်ချုပ်မှူးကြီး တစ်ယောက်မှ မရှိတဲ့အချိန်၊ စစ်အရာရှိများမဟုတ်သောရာထူးတိုးမြှင့်ခြင်းများ ဖြစ်သကဲ့သို့စစ်အင်အားနှင့် အာဏာသိမ်းပိုက်သူများဖြစ်သည်။ ထို့ကြောင့်ဗိုလ်ချုပ်အောင်ဆန်း၏ ရုပ်ပုံနှင့် နာမည်ကို တခြားစစ်ဗိုလ်ချုပ်ကြီး၊ မှူးကြီးများ၏ ရုပ်ပုံနှင့်နာမည် လုံးဝမတူသောပြည်သူများ၏ အတိုင်းအတာဖြစ်သည်။

**(၇)နိုင်ငံတော်သမ္မတက ဗီတိုအာဏာမရှိ၊ လွှတ်တော်မှာအာဏာမရှိ "အာ" သာရှိသည်ဟုဆို –**

၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ပတ်သက်၍ လွှတ်တော်ကိုယ်စားလှယ်တစ်ယောက် ဒေါက်တာအေးမောင်က "သမ္မတမှာလည်း ဗီတိုအာဏာမရှိဘူးလို့ပြောတယ်။ လွှတ်တော်ဘက်ကလည်း သမ္မတ လက်မှတ်မထိုးလို့ ကြန့်ကြာတယ်ဟုပြောတယ်။

အစိုးရကဏ္ဍတွင် ပြုပြင်ပြောင်းလဲလုပ်လိုသူ တစ်ထောင်လောက်သာရှိကြောင်း ထုတ်ဖော်ပြောကြားသလို အာဏာရပါတီအတွင်း၌ အုပ်စုဖွဲ့မှုများရှိကြောင်းလည်း ဝေဖန်သံများထွက်ပေါ်လာသည်။ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ဦးခိုင်မောင်ရည်က "အုပ်ချုပ်ရေးဘက်၊ ဥပဒေပြုရေးဘက်၊ စစ်တပ်ဘက်၊ ဘက်သုံး

ဘက်က အကြီးအကဲတွေက တိုင်းပြည်အရုပ်ဆိုးအောင်လုပ်ချင်တဲ့ ဆန္ဒမရှိဘူးလို့မြင်တယ်" ဟု သုံးသပ်ပြောဆိုတယ်။ သမ္မတရုံးက ဖွဲ့စည်းပုံအခြေခံဥပဒေမှာ အမေရိကန်သမ္မတလို ဗီတိုအာဏာသုံးခွင့်မရှိဘူးလို့ တုန့်ပြန်လိုက်သည်ဟု သိရှိရသည်။ (တင်မောင်ထွေး၊ လူထုပုံရိပ် အတွဲ ၂/အမှတ်–၁၁၊ နိုဝင်ဘာလ ၁၃၊ ၂၀၁၃ – စာ–၃) ဦးအောင်သိန်းလင်း ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းက "အာနဲဏာ ဆိုတဲ့ (အာဏာ) နေရာမှာ ပြည်သူနဲ့ အစိုးရပူပေါင်းရမှာပါ။ ဒီမိုကရေစီနည်းအရဆိုရင် ပြည်သူမှာ အာဏာရှိတယ်။ အစိုးရအနေနဲ့ ပြည်သူ့အသံနားထောင်ရာမှာ ကျွန်တော်တို့က ကြားခံပစ္စည်းတစ်ခုပါ။ ဒေါ်ခင်ပိုင်းကြည်က "ကျွန်မတို့အနေနဲ့ ပြည်သူ့အသံတင်မက ပြည်သူတွေဖြစ်သင့်တဲ့အရာတွေကိုပါ တင်ပြနေတာပါ။ ဒါပေမယ့် အကျိုးသက်ရောက်မှုက ထိထိရောက်ရောက်မရှိတာတွေ့ရတယ်။ လွှတ်တော်ထဲမှာ အဲဒီမထိရောက်မှုတွေနဲ့ ပတ်သက်ပြီး ပိုပြီးအသံကျယ် လာနိုင်တယ်" ဟုဆိုသည်။ ဦးခိုင်မောင်ရည် – အလုံမြို့ယ်နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်က လွှတ်တော်မှာ အာဏာမရှိ "အာ"သာရှိ၍ "ဏာ"မရှိဟုပြောသည်။ (လူထုပုံရိပ် Vol. (2),No.(11) Nov.13,2013-P.11)

ကျွန်တော် စာရေးသူအမြင်မှာ ဦးနုကဲ့သို့ လက်ရှိသမ္မတ ဗိုလ်အာဏာမရှိတာ၊ လွှတ်တော်မှာ အာဏာမရှိ တာကို ဒီမိုကရေစီစနစ်လည်းဖြစ်သည်။ ပြည်သူလူထုက အာဏာလည်း မရှိကြောင်း ဒီမိုကရေစီစနစ်နှင့် ဆန့်ကျင် သည်။ နိုင်ငံသား လူနည်းစု များက ဦးနုကဲ့သို့ ဗိုလ်အာဏာမရှိသမ္မတ ဝန်ကြီးချုပ်လိုလားသည်။ လူထုပုံရိပ်ဂျာနယ်က ရည်ညွှန်းခြင်းကို သမ္မတနှင့် လွှတ်တော်၏ နောက်ကွယ်မှာ တပ်မတော်က ကြိုးကိုင်၍ အာဏာရှိသည်ဟု ဆိုလိုခြင်း ဖြစ်သည်။ မြန်မာနိုင်ငံသားများ ၇၅% က ဒီမိုကရေစီ စနစ်ကို နားလည်သဘောပေါက်မှ စစ်မှန်သောဒီမိုက ရေစီ စနစ်သို့ ဦးတည်သွားရမှာဖြစ်သည်။ ယခုလက်ရှိနိုင်ငံရေးမှာ မြန်မာနိုင်ငံလူဦး ရေ ၂၀% ထက်နည်းသော ပြည်သူလူထုကသာ ဒီမိုကရေစီစနစ်ကို သိရှိနားလည်၍ စစ်မှန်သော ဖွဲ့စည်းပုံဥပဒေ ဒီမိုကရေစီစနစ် တောင်းဆိုတာထက် အိမ်ထောင်မိသားစုအရေး၊ လူမျိုးရေးကို တောင်းဆိုတာများသည်။ နိုင်ငံသားအားလုံးအရေး တောင်းဆိုမှု ပြည်သူ့ အသံမှ ကြားသောအခါ ၂၀၀၈ ဖွဲ့စည်းပုံအခြေခံ ဥပဒေမှ တပ်မတော် (၂၅%) ဖျက်သင့်သည်။ တစ်ဘက်မှာ ယခုလက်ရှိ အုပ်ချုပ်ရေးကို တပ်မတော်က ချုပ်ကိုင်တာ လူနည်းစု အတွက် အကျိုးရှိတဲ့နေရာ အများကြီးရှိပါသည်။

**၁၄။ ကသဲလက်နက်ကိုင် သူပုန်များကို နိုင်ငံတော်မှ နှင် ထုတ်ပေးပါ။**

ပထမအကြိမ်အမျိုးသားလွှတ်တော်အစည်းအဝေး နဝမ ကြိမ်မြောက် တတိယနေ့ ၂၀-၁-၂၀၁၄ (တနင်္လာနေ့) ချင်းပြည် နယ် မဲဆန္ဒနယ်အမှတ် (၇)မှ ဦး နိန်းခင်းပေါင်၏ "အိန္ဒိယ-မြန်မာ နိုင်ငံနယ်စပ်ဒေသမှ တဆင့် မြန်မာနိုင်ငံအတွင်းသို့ လူမျိုးခြား စိမ်း ဝင်ရောက်ရှိနေခြင်း၊ မသမာနည်းဖြင့် နိုင်ငံသားစိစစ်ရေးကပ်ပြား ကိုင်ဆောင်ထားခြင်းများကို ဥပဒေစိုးမိုးရေးအတွက် အမျိုးသားရေး တာဝန်အဖြစ် အထူးစီမံချက်တစ်ရပ်ချမှတ်၍ တားဆီးဟန့်တား ဆောင်ရွက်ရန် အစီအစဉ်ရှိ/မရှိ မေးခွန်းနှင့်စပ်လျဉ်း၍ လူဝင်မှုကြီး ကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးကျော် ဝင်းက "နယ်စပ်တလျှောက်ရှိ ကျေးရွာအုပ်ချုပ်ရေးမှူးများနှင့် ပူး ပေါင်း၍ စုံစမ်းထောက်လှမ်းအရေးယူဆောင်ရွက်လျက်ရှိပါကြောင်း နိုင်ငံခြားသားများ တရားမဝင် ဝင်ရောက်မှုမရှိစေရန် မြန်မာနိုင်ငံ နယ်စပ်တလျှောက်တွင် မတရားဝင်ရောက်မှု ကာကွယ်ရေးအဖွဲ့ (မကဖ)-၂၃ ဖွဲ့စည်းတာဝန်ထမ်းဆောင်လျက်ရှိပါကြောင်း" ဖြေရှင်း သည် (ကြေးမုံသတင်းစာ- ၂၁-၁-၂၀၁၄၊ စာ ၇)။ ချင်းပြည်နယ် မြောက်ပိုင်းနှင့် စစ်ကိုင်းတိုင်း မြန်မာ-အိန္ဒိယနယ်စပ်မြန်မာနိုင်ငံအ တွင်းမှာ ခိုလှုံနေသော ကသဲလက်နက်ကိုင်တပ်ဖွဲ့များကို မှတ်ပုံတင်

ရဖို့ရန် ရပ်ကွက်အုပ်ချုပ်ရေးမှူးများနှင့် လဝကရုံးဝန်ထမ်းများကူ ညီပေးသောကြောင့် နယ်စပ်တွင် သာမကပဲ မြန်မာနိုင်ငံမြို့ကြီးများ တွင် နေထိုင်ခွင့်ရသည်။ စစ်အစိုးရခေတ်ကစ၍ ခွင့်ပြုနေထိုင်သော လက်နက်ကိုင် တပ်ဖွဲ့များဖြစ်သည်။ သူတို့နေထိုင်သောဒေသများ တွင် ဘိန်းစိုက်ခင်းများ တွေ့ရသည်။ ဤကိစ္စနှင့်ပတ်သက်၍ သတင်း အမှန်ကို ဝန်ကြီးဌာနသို့ ဝန်ကြီးများက သိမည်မဟုတ်ပါ။ အကြောင်း က ဒေသခံအုပ်ချုပ်ရေးမှူးများ၊ ဒေသကွက်ကဲရေးမှူးများနှင့် စစ် ဘက်ဆိုင်ရာအကြီးအကဲများ၏ အစီရင်ခံစာအတိုင်း လွှတ်တော်မှာ ဝန်ကြီးများက ပြန်လည်ဖြေကြားချက်အစိုးရသတင်းစာမှာ မပြည့် စုံသောသတင်းအမှားဖြင့် ဖော်ပြသည်ကို တွေ့ရသည်။

၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေက ပါတီစုံနှင့်ဈေးကွက်စီးပွါး ကိုယ်စားပြုသည်။ ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေက တစ်ပါတီ စနစ်နှင့် စစ်အာဏာရှင်စနစ်ကိုယ်စားပြုသည်။ ၂၀၀၈ ဖွဲ့စည်းပုံအ ခြေခံဥပဒေက စည်းမျဉ်းသတ်စစ်အာဏာရှင်စနစ်ပါတီစုံဖြင့် ရွေး ချယ်သော ဖွဲ့စည်းပုံဖြစ်သည်။ လွတ်လပ်ရေးခေတ် ၆၅ နှစ်အတွင်း ၁၉၄၇၊ ၁၉၅၂၊ ၁၉၅၆၊ ၁၉၆၀ တွင် ရွေးကောက်ပွဲကျင်းပပြီး ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေကျင့်သုံးသော ပါတီစုံအင်္ဂလိစနစ်ဖြစ်သည်။ ၁၉၅၉ ခုနှစ်တွင် ပါတီအတွင်း ပြဿနာဖြစ်ပေါ်လာသောကြောင့် ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၁၁၆ ကို ပြင်ဆင်ပြီး ၁၂ လ

ဗိုလ်ချုပ်ကြီးနေဝင်းက အိမ်စောင့်အစိုးရ ဖွဲ့စည်းတာဝန်ယူသည်။ ၁၉၆၂–၁၉၆၄ ခုနှစ်မတ်လ ၂၈ ရက်နေ့အထိ ပါတီစုံစနစ်ရှိနေသေးသည်။ အောက်တိုဘာ ၂၇ ရက်၊ ၁၉၈၈ မှစပြီး နဝတ/နအဖ ကောင်စီ စစ်အစိုးရက အာဏာသိမ်းသည်။ ၂၀၁၀ ရွေးကောက်ပွဲလည်း ပါတီပြိုင်ပွဲကြီး အနိုင်ရလို့ထားသည့်အစိုးရဖြစ်သည်ဟု ဆိုသည်။

# နိဂုံး

ဤစာအုပ်အားအစက အဆုံးဖတ်ခဲ့လျှင် အရေးပါသော အချက် (၄)ချက်ဟု ခွဲခြားထားသည်ကို တွေ့ရမည် ဖြစ်သည်။ (၁) လူမျိုးအမည်အရင်းအမှန်ဖော်ပြခြင်း(၂) ပြည်ထောင်စုဖွဲ့စည်းပုံ အခြေခံဥပဒေ

(၁၉၄၇၊ ၁၉၇၄၊ ၂၀၀၈) မှ ကောက်နုတ်ချက်

(၃) ၂၀၀၈ ဖွဲ့စည ်းပုံအခြေခံဥပဒေမှ အရေးပါသော လူနည်းစုများအရေး

(၄) ပင်လုံစာချုပ်အနှစ်သာရ

မြန်မာနိုင်ငံ၊ ချင်းတွင်မြစ်ဝှမ်းတွင်နေထိုင်ခဲ့ကြသော "KUKI-CHIN-LUSHAI" တို့ကို ဗြိတိသျှတို့က ယခုအခါ မြန်မာ၊ အန္ဒိယ၊ ဘင်္ဂလား၊ ချင်းလူမျိုးများ ဟု ခေါ်ဆိုသည်။

သို့သော် သမိုင်းလေ့လာသည့်အခါ ပြည်ထောင်စုမြန်မာနိုင်ငံတွင် CHIN အစား ZOMI ရွေးချယ်၍ LAIMI, KHUMI, MIZO လက်ခံသူ ရှိသည်။ ထိုသူတို့ အမျိုးမှာ Chin အစား Zomi, Mizo, Khumi, Kuki ရာခိုင်နှုန်းပြည့် လက်ခံနှစ်သက်သော လူမျိုး

လေးမျိုးဖြစ်သည်။ Hakha ကလည်း ၂၀၁၄ ခုနှစ်သန်းခေါင်း စာရင်းကောက်ယူရာတွင် Hakha အစား Laimi ရေးသားထည့်သွင်းခြင်းတောင်းဆိုသည်ဟု သိရသည်။ Zomi ကလည်း တောင်းဆိုခဲ့ပြီးဟု သိရှိရသည်။

စာရေးသူက Zomi လည်း ချင်း၊ ချင်းလည်း Zomi ဖြစ်သည်။ သို့သော် Zomi နာမည်ဖြင့် အစိုးရ အသိအမှတ်ပြုလိုလားသည်။ ကိုယ့်နာမည်မှန်၊ ကိုယ်လူမျိုးနာမည် မှန်ကို ကြိုက်သည်။ ယခင်က နာဂလူမျိုးများက ယခုအခါ ချင်း မကြိုက် Lusei ကလည်း Chin မကြိုက် Mizo သာ ကြိုက်သည်။ ချင်းအစား Zomi အယူဝါဒကို နိုင်ငံရေးသမားနှင့် ပါတီခေါင်းဆောင်များ လိုအပ်ချက်တစ်ခုဖြစ်သည်။ စာရေးသူက သမိုင်းလေ့လာသူ တစ်ယောက်ဖြစ်၍ မိတ်ဆက် ပေးခြင်းသာ ဖြစ်၍ Chin ကြိုက်ရင် ရွေးပိုင်ခွင့်ရှိသည်။ Zomi ကြိုက်ရင် ရွေးပိုင်ခွင့်ရှိ၍ လူ့အခွင့်အရေးလည်း ဖြစ်သည်။

၁၉၄၇ ၊ ၁၉၇၄၊ ၂၀၀၈၊–ဖွဲ့စည်းပုံအခြေခံဥပဒေမှ ကောက်နှုတ်ချက်များ ကို လေ့လာသောအခါ အနာဂတ်ကာလမှာ လူနည်းစုများ အခွင့်အရေးနှင့် ကိုက်ညီသော ဥပဒေပြ ဌာန်းချက် ပြင်ဆင်ခြင်းရှိရင် ကောင်းမယ်ဟု ရင်ဖွင့်ပြောတာ ဖြစ်သည်။

၂၀၀၈ ဖွဲ့စည်းပုံအခြေခံဥပဒေမှ လူနည်းစုများအတွက် အရေးပါသော အချက် (၄)ချက်ကို လေ့လာသောအခါ ဘာသာရေး၊

စာပေမြှင့်တင်ရေး၊ ရုံးသုံးစာကို မည့်သည့် ဒေသမဆို နေထိုင်ခွင့်ပြုရေး ဖြစ်သည်။ လူနည်းစုအခွင့် အရေး မပေးဘူးဆိုရင် လူနည်းစုမျိုးနွယ်များပေါင်းမှ လူမျိုးကြီးစု၊ နိုင်ငံတော်ဖြစ်ပေါ်လာခြင်း ဖြစ်ပါသည်။ ပြဿနာကို လူနည်းစုကစ၍ လူများစုက ဖြေရှင်းပေး သောထုံးစံဖြစ်သည်။

ချင်းပြည်နယ်သည် အဆင်းရဲဆုံး ပြည်နယ်ဖြစ်သည်။ ရှက်လို့ ပြောမည်ဆိုရင် ချင်းလူမျိုးဖြစ်ရတာ ရှက်တယ်လို့ ပြောရမယ်။ သို့သော် ချင်းလူမျိုးများ ကိုလည်း ဘုရားသခင်က ဖန်ဆင်းသောလူမျိုးများ၊ ဘုရားသားများ ဖြစ်၍ မြန်မာ နိုင်ငံသား၊ မြန်မာပြည်သား၊ ပြည်ထောင်စုတိုင်းရင်းသားများဖြစ်သောကြောင့် ဆင်းရဲသော်လည်း ကံကောင်းသည်ဟု ဆိုရမည်။ ဘာဖြစ်လို့လဲဆိုတော့ ကိုလိုနီနိုင်ငံ တစ်ခုလက်အောက်မှာ မဟုတ်ဘဲ လွတ်လပ်သော ပြည်ထောင်စု နယ်မြေ၊ ပြည်နယ်မှာ နေထိုင်သောလူမျိုးများဖြစ်၍ သူတို့လိုအပ်သမျှကို ပြည်ထောင်စု အစိုးရသို့ တောင်းဆိုခွင့်ရှိသည်။ မျှော်လင့်ချက် အများကြီးရှိသည်။ ချင်းလူမျိုးများ က သူတို့၏ ဒေသမဲဆန္ဒနယ်လွှတ်တော်ကိုယ်စားလှယ်အတွက် မဲပေးသောအခါ သတိရသိရှိရန် လိုအပ်သောအချက်တစ်ခုရှိသည်။ မိမိရွေးချယ်သော ကိုယ်စား လှယ်က အထက်လွှတ်တော်မှာ မိမိတို့ဒေသအတွက် ဘာမှမတင်ပြဘူးဆိုရင် အကျိုးမရှိပါ။ ထို့ကြောင့်

ပညာရေးနိမ့်လွန်းသူ၊ မြန်မာစကားမကျွမ်းကျင်သူများကိုလည်း လွှတ်တော် ကိုယ်စားလှယ်များအတွက် မရွေးချယ်သင့်ပါ။ လူတချို့က ချင်းပြည်နယ် အဆင်းရဲဆုံးလက်အောက်မှာ နေတာထက် စစ်ကိုင်း တိုင်းထဲမှာ နေရင် တိုးတက်မယ်၊ အိန္ဒိယနိုင်ငံဘက်မှာ နေရင်တိုးတယ်မယ်ဟု ပြောလေ့ရှိသည်။

ဤသမိုင်းစာတမ်းကို အကောင်းမြင်ဝါဒနှင့် ကြည့်ပါ။ မကြိုက်တာကို ပြောမိခဲ့လျှင် ကျွန်တော့်အားနည်းချက်ဖြစ်သည်ဟု ယူဆပါ။ ကျေးဇူးတင်ပါတယ်။ **ချင်းပြည်နယ်သည် ခရစ်တော်နှင့် ချင်းလူ မျိုးများအတွက်သာ ဖြစ်သည်။**

## နောက်ဆက်တွဲများ
## ကြေငြာချက် (၁)

ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်

**နိုင်ငံတော်ကောင်စီ**

ကြေငြာချက်

အမှတ် ၁၃/၈၈

ရန်ကုန်မြို့ ၁၃၅၀ ပြည့်နှစ်၊ တော်သလင်းလဆန်း ၁ ရက်

(၁၉၈၈ ခုနှစ်၊ စက်တင်ဘာလ ၁၁ ရက်)

**ပါတီစုံစနစ်ဖြင့် ထွေထွေရွေးကောက်ပွဲ ကျင်းပရေးနှင့် စပ်လျဉ်း၍ ပြည်သူ့လွှတ်တော်က ဆုံးဖြတ်ခြင်း**

၁၃၅၀ ပြည့်နှစ်၊ တော်သလင်းလဆန်း (၁) ရက် (၁၁–၉–၈၈) နေ့တွင် ကျင်းပသည့် စတုတ္ထ အကြိမ် ပြည်သူ့လွှတ်လတော် အရေးပေါ်အစည်းအဝေး၌ နိုင်ငံတော်အေးချမ်းတည်ငြိမ်လာစေရေး၊ ပြည်သူများ စိတ်အေးချမ်းသာရှိလာရေးနှင့် ထူးခြားသော အခြေအနေတစ်ရပ်ကို ဖြေရှင်းနိုင်ရေးတို့အတွက် အခြေခံဥပဒေ ခွင့်ချက်ပြုပြီး ပါတီစုံစနစ်ဖြင့် အထွေထွေရွေးကောက်ပွဲ ကျင်းပနိုင်ရန် အောက်ပါတို့ကို ပြည်သူ့လွှတ်တော်က ဆုံးဖြတ်သည်။

၁။ ပါတီစုံစနစ်ဖြင့် အထွေထွေရွေးကောက်ပွဲ ကျင်းပပေးရန်၊

၂။ ပါတီစုံစနစ်ဖြင့် အထွေထွေရွေးကောက်ပွဲ ကျင်းပ နိုင်ရေး အတွက် အဟန့်အတားဖြစ်နေသော အခြေခံဥပဒေပါ သက်ဆိုင်ရာ ပြဋ္ဌာန်းချက်များနှင့် အခြားဥပဒေ၊ နည်းဥပဒေများ ပယ်ဖျက်ပေးနိုင်ရေးအတွက် ပြည်သူ့လွှတ်တော်က နိုင်ငံတော်ကောင်စီသို့ လွှဲအပ်ရန်၊

၃။ အခြေခံဥပဒေ ပုဒ်မ ၄၃၊ ပုဒ်မခွဲ (က) အရ စတုတ္ထ အကြိမ် ပြည်သူ့လွှတ်တော်၏ ပုံမှန်သက်တမ်း သည် အထွေထွေရွေး ကောက်ပွဲကျင်းပပြီး၍ ပြည်သူ့လွှတ်တော်အသစ် စတင်စည်း ဝေးသည့် နေ့အထိသာ ဖြစ်ကြောင်း လျှော့ပေါ့သတ်မှန်ရန်၊

၄။ စတုတ္ထအကြိမ် ပြည်သူ့လွှတ်တော် ပဉ္စမအစည်း အဝေးက ဖွဲ့စည်းပေးထားသော ရွေးချယ်တင်မြှောက်ပွဲကျင်းပရေး ကော်မရှင်ကို ဖျက်သိမ်းပေးရန်၊

၅။ တရားမျှတသော အထွေထွေရွေးကောက်ပွဲ အောင်မြင်စွာ ကျင်းပနိုင်ရေးအတွက် ရွေးကောက်ပွဲကော်မရှင်တွင် အောက်ဖော်ပြပါ ပုဂ္ဂိုလ်များကို ရွေးချယ်တာဝန်ပေး အပ်ရန်

(၁) ဦးဘဌေး.... အငြိမ်းစားဘဏ္ဍာတော်မင်းကြီး

(၂) ဦးကျော်ညွန့်.... အငြိမ်းစား ကနေဒါနိုင်ငံဆိုင်ရာ မြန်မာသံအမတ်ကြီး

(၃) ဦးစန်းမောင် .... အငြိမ်းစား ချော်တာစုဆောင်းရေးနှင့် အာမခံစာချုပ်များမင်းကြီး

(၄) ဦးစောကြာဒိုး .... အငြိမ်းစား ဗိုလ်မှူးချုပ်

(၅) ဆရာချယ် .... ယခင်ပါလီမန်အမတ်နှင့် ယခင်ပြည်သူ့
လွှတ်တော်ကိုယ်စားလှယ်

၆။ ရွေးကောက်ပွဲကော်မရှင်တွင် အဖွဲ့ဝင်ဦးရေတိုးခြင်း၊ လစ်လပ်သည့်နေရာတွင် အစားထိုးခြင်းကိစ္စများ ဆောင်ရွက်ပိုင်ခွင့်ကို ပြည်သူ့လွှတ်တော်က နိုင်ငံတော် ကောင်စီသို့ လွှဲအပ်ရန်၊

၇။ ပါတီအဖွဲ့အစည်းများကို မှတ်ပုံတင်ခြင်း၊ ရွေးကောက်ပွဲစည်းမျဉ်းစည်းကမ်းများနှင့် လုပ်ငန်းတာဝန်များရေးဆွဲပြဋ္ဌာန်းပေးခြင်းတို့ကို ကော်မရှင်နှင့် ညှိနှိုင်းဆောင်ရွက် ပေးရေးအတွက် ပြည်သူ့လွှတ်တော်က နိုင်ငံတော် ကောင်စီသို့ လွှဲအပ်ရန်၊

၈။ အထွေထွေရွေးကောက်ပွဲကို ပြည်သူ့လွှတ်တော်အတွက်သာ ကျင်းပရန်၊

၉။ အထွေထွေရွေးကောက်ပွဲ ကျင်းပမည့်နေ့သည် ယနေ့မှစ၍ ၃ လပြည့်နေ့ဟု သတ်မှတ်ပေးရန်၊ သို့သော ပေါ်ပေါက်လာမည့် ပါတီအဖွဲ့အစည်းများက ရွေးကောက်ပွဲကော်မရှင်သို့ အကြံပြုချက်အရ ယနေ့မှစ၍ တစ်လခွဲပြည့်သောနေ့ထက် မစောဘဲ ဖြစ်စေ၊ ၃ လ ကျော်လွန်သည့်အခါဖြစ်စေ ပြင်ဆင်သတ်မှတ် ကျင်းပနိုင်သည့် လုပ်ပိုင်ခွင့်ကို ပြည်သူ့လွှတ်တော်က နိုင်ငံတော် ကောင်စီသို့ လွှဲအပ်ရန်။

မောင်မောင်
ဥက္ကဋ္ဌ
နိုင်ငံတော်ကောင်စီ

***(ညွှန်း – ၁၉၇၄ ခုနှစ် ဖွဲ့စည်းပုံအခြေခံဥပဒေ)***

ကြေညာချက်

နယ်စပ်ဒေသ လူဝင်မှုစစ်ဆေးရေး ကွပ်ကဲမှုဌာနချုပ်အား
ဖျက်သိမ်းခြင်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး
အမိန့်ကြော်ငြာစာ
အမှတ်၊ ၅၉ /၂၀၁၃
၁၃၇၅ ခုနှစ်၊ ဝါဆိုလဆန်း ၅ ရက်
(၂၀၁၃ ခုနှစ်၊ ဇူလိုင်လ ၁၂ ရက်)

နယ်စပ်ဒေသ လူဝင်မှုစစ်ဆေးရေး ကွပ်ကဲမှုဌာနချုပ်အား
ဖျက်သိမ်းခြင်း

နယ်စပ်ဒေသလူဝင်မှုစစ်ဆေးရေးကွပ်ကဲမှုဌာနချုပ်အား
ယနေ့မှစ၍ ဖျက်သိမ်းလိုက်သည်။

ပုံ
သိန်းစိန်
နိုင်ငံတော်သမ္မတ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ကြေငြာချက် (၃)

### သတင်းထုတ်ပြန်ချက် (၇/၂၀၁၃)
### ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
### သတင်းထုတ်ပြန်ရေးအဖွဲ့
### သတင်းထုတ်ပြန်ချက်(၇/၂၀၁၃)
### ၁၃၇၄ခုနှစ်၊ တပေါင်းလဆန်း၊ ၁၄ရက်
### ၂၀၁၃ ခုနှစ်၊ မတ်လ ၂၅ ရက်

၁။ အစိုးရအဖွဲ့အနေဖြင့် လူမျိုးရေး၊ ဘာသာရေး၊ အကြမ်းဖက်ရန် လှုံ့ဆော်မှုများအပါအဝင်အကြမ်းဖက်မှု အားလုံးကို အများပြည်သူ အကျိုးစီးပွားအလို့ငှာဖွဲ့စည်းပုံ အခြေခံဥပဒေ၊ တည်ဆဲဥပဒေများနှင့်အညီ အစွမ်းကုန် တားဆီးကိုင်တွယ်ဆောင်ရွက်သွားမည်။

၂။အကြမ်းဖက်မှု၊ မီးလောင်ကျွမ်းမှုနှင့် အဓိကရုဏ်းများကြောင့် အိုးအိမ်စွန့်ခွာခဲ့ရသော ဒုက္ခသည်ပြည်သူလူထု၏ အရေးပေါ် စားဝတ်နေရေး၊ လုံခြုံရေးကို အပြည့်အဝကူညီဆောင်ရွက်သွားမည်။

၃။ လုံခြုံရေးအခြေအနေ တည်ငြိမ်လာသည်နှင့်သမျှဒုက္ခသည်များ ပြနလည်နေရာချထားရေးကို အမြန်ဆုံးဆောင် ရွက်သွားမည်။

၄။ လိုအပ်သော လူသားချင်းစာနာသည့် အကူအညီများကို ပေးနိုင်ရန်အတွက် လူထုအခြေပြု လူ့အ

ဖွဲ့အစည်းများ၊ ပုဂ္ဂလိကများ၊ နိုင်ငံတကာ အဖွဲ့အစည်းများနှင့် လက်တွဲဆောင်ရွက်သွားမည်။

၅။ ပဋိပက္ခကြောင့် ခံစားထိခိုက်ခဲ့ရသည့် လူ့အဖွဲ့အစည်းများအကြား ယုံကြည်မှုပြန် လည်တည်ဆောက်နိုင်မည့် ဆွေးနွေးမှုများနှင့် စိတ်ခံစားချက်များကို ကုစားနိုင်သည့် အလုပ်ရုံဆွေးနွေးပွဲများကို အကောင်အထည်ဖော် ဆောင်ရွက်သွားမည်။

၆။ယခုအခါ နိုင်ငံတော်သည် ဒီမိုကရေစီ ပြုပြင်ပြောင်းလဲရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများကို အရှိန်အဟုန်မြှင့်၍လုပ်ဆောင်နေသည်ဖြစ်ရာယင်း လုပ်ငန်းများကို ထိခိုက်မည့် အကြမ်းဖက်မှုများ၊ ဘာသာရေး၊ အစွန်းရောက်မှုများကို ရှောင်ရှားကြပါရန် ပြည်သူများကို တိုက်တွန်းအပ်ပါသည်။

သတင်းထုတ်ပြန်ရေးအဖွဲ့
နေပြည်တော်

# ကြေငြာချက် (၄)

## ကြေညာချက်

ကချင် အရေး အစိုးရ သတင်းထုတ်ပြန်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
သတင်းထုတ်ပြန်ရေးအဖွဲ့
သတင်းထုတ်ပြန်ချက် ( ၃ / ၂၀၁၃ )
၁၃၇၄ ခုနှစ်၊ ပြာသိုလဆန်း ၇ ရက်
( ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက် )

၁။ ကချင်ပြည်နယ်၊ လဂျားယန်ဒေသတွင် KIO/KIA လက်နက်ကိုင် တပ်ဖွဲ့များက လဂျားယန် တပ်မတော်စခန်းအား ၂၀၁၂ ခုနှစ် မတ်လမှစတင်ပြီး ဝန်းရံ ပိတ်ဆို့ထားခြင်း၊ လဂျားယန် စခန်းသို့ ရိက္ခာပို့ဆောင်သည့် တပ်မတော်စစ်ကြောင်းများကို ချုံခို တိုက်ခိုက်ခြင်း၊ မြစ်ကြီးနား-ဗန်းမော် ပြည်ထောင်စု လမ်းမကြီးကို အများပြည်သူများ အသုံးမပြုနိုင်အောင် ပိတ်ဆို့ထားခြင်း၊ တံတားများကို မိုင်းခွဲဖျက်ဆီးခြင်းများအား ပြုလုပ်ခဲ့သည့် အတွက် ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်မှ စတင်၍ ပွိုင့် ၇၇၁ တောင်ကုန်း အပါအဝင် လဂျားယန်ဒေသရှိ KIO/KIA ခြေကုတ် စခန်းများအား တပ်မတော် စစ်ကြောင်းများမှ ရှင်းလင်း တိုက်ခိုက်မှုများ ပြုလုပ်ခဲ့ရသည်။

၂။ ၂၀၁၁ ခုနှစ် ဇွန်လ၌ တပ်မတော်နှင့် KIO/KIA ကြားတိုက်ခိုက်မှုများ ပြန်လည် ဖြစ်ပွားချိန်မှစပြီး တပ်မတော်အ

နေဖြင့် နိုင်ငံတော်သမ္မတ၏ ညွှန်ကြားချက် အတိုင်း မိမိကိုယ်မိမိ ခုခံကာကွယ်နိုင်ရန် အတွက်သာ ပစ်ခတ်မှုများ ပြုလုပ်ခဲ့သည်။ သို့သော် KIO/KIA လက်နက်ကိုင် တပ်ဖွဲ့များအနေဖြင့် လဂျားယန်စခန်းရှိ တပ်မတော်သားများ ထံသို့ ရိက္ခာ ပို့ဆောင်သည့် တပ်မတော် စစ်ကြောင်းများကို သုံးကြိမ် ချုံခို တိုက်ခိုက်ခဲ့သည့် အတွက် တပ်မတော်သား (၃၅)ဦး ကျဆုံးကာ (၁၉၀)ဦး ဒဏ်ရာရရှိခဲ့သည်။ အဆိုပါ လဂျားယန်စခန်းမှာ ၁၉၉၄ ခုနှစ် အပစ်အခတ် ရပ်စဲရေးမတိုင်မီ (KIO/ KIA တို့၏ လိုင်ဇာစခန်းမရှိမီ) ကပင် တပ်မတော်က အခြေစိုက်၍ နယ်မြေ လုံခြုံရေး ဆောင်ရွက်ခဲ့ သည့် စခန်းဖြစ်ပြီး ထိုစခန်းသို့ ရိက္ခာများ ပို့ဆောင်မည် ဖြစ်ကြောင်းကိုလည်း KIO/KIA အဖွဲ့သို့ ကြိုတင် အသိပေးပြီးမှ ဆောင်ရွက်ခဲ့သည့်တိုင် KIO/KIA အဖွဲ့က ကြားဖြတ် တိုက်ခိုက်ခဲ့ခြင်း ဖြစ်သည်။ ထိုကဲ့သို့ ရိက္ခာပို့ဆောင်နိုင်ခြင်း မရှိသည့်အတွက် စခန်းအတွင်းရှိ တပ်မတော်သား စစ်သည်များအနေဖြင့် စားနပ်ရိက္ခာများ ပြတ်လပ်ပြီး အသက်အန္တရာယ် စိုးရိမ် ရသည့် အခြေအနေ ကို ရောက်ရှိလာသောကြောင့် စစ်သည်များ အသက်ဆုံး ရှုံးမှုမှ ကာကွယ်နိုင်ရန်အတွက် အထက်ပါ နယ်မြေ ရှင်း လင်းမှုများကို တပ်မတော်က မလွှဲမရှောင်သာ ဆောင်ရွက် ခဲ့ရခြင်း ဖြစ်သည်။

၃။ လေကြောင်းပစ်ကူ ရယူခဲ့ရခြင်းမှာလည်း KIO/KIA တပ်စခန်းပစ်မှတ်များကိုသာ တိတိကျကျ ထိမှန်ချေမှုန်းနိုင်ရန်နှင့် စစ်ပွဲနှင့် မသက်ဆိုင်သော အရပ်သား ပစ်မှတ်များကို ရှောင်လွှဲ လိုသောကြောင့်ဖြစ်သည်။ KIO/KIA တပ်များသည် လဂျားယန်စခန်းအား အပြင်မှ သံဆူးကြိုးခတ်၍ အဆက်အသွယ် ဖြတ်တောက် ထားသောကြောင့် တပ်စခန်း အတွင်းရှိ တပ်မတော်သား စစ်သည်များအတွက် ရိက္ခာပို့ရန်၊ စစ်ရေးအရ တိုက်ခိုက်ရန်သာရှိသဖြင့် မလုပ်မဖြစ် လုပ်ခဲ့ရခြင်း ဖြစ်သည်။ တပ်မတော်သည် ငြိမ်းချမ်းရေး စကားဝိုင်းမှ တစ်ဆင့် မိမိတပ်စခန်းများကို ရွှေ့ပြောင်းပေးရန် ဆုံးဖြတ် ထားခဲ့သော်လည်း တစ်ဘက်လက်နက်ကိုင် အဖွဲ့အစည်း ဖြစ်သည့် KIO/KIA မှ လာရောက်ခြင်း မရှိဘဲ နိုင်ငံတော်အစိုးရမှ ကမ်းလှမ်းချက်ကို ပယ်ချခဲ့ခြင်းနှင့် ရွှေလီ ဆွေးနွေးပွဲကို ပျက်ပြားစေခဲ့ခြင်း စသည့်အကြောင်းအချက်များသည် ယခုတိုက်ပွဲများကို ဖိတ်ခေါ်သကဲ့သို့ ဖြစ်လာစေသည်။

၄။ ယခုအခါ တပ်မတော် အနေဖြင့် လဂျားယန်စခန်းရှိ စစ်သည်များ လုံခြုံရေးနှင့် မြစ်ကြီးနား-ဗန်းမော် ပြည်ထောင်စု လမ်းမကြီး လုံခြုံရေးအတွက် လိုအပ်သည့် ကန့်သတ် ရည်မှန်းချက်များကို ရရှိပြီး ဖြစ်သောကြောင့် ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက် ၀၆၀၀ နာရီမှ စတင်ပြီး

လဂျားယန် ဒေသရှိ နယ်မြေရှင်းလင်းမှု စစ်ဆင်ရေးများကို ရပ်ဆိုင်းမည် ဖြစ်ကြောင်း သိရှိရသည်။

၅။ တပ်မတော်အနေဖြင့် နိုင်ငံတော်သမ္မတ၏ ညွှန်ကြားချက် ဖြစ်သည့် မိမိကိုယ်မိမိ ခုခံ ကာကွယ်ရန်မှအပ ပစ်ခတ်တိုက်ခိုက်မှုများ မပြုလုပ်ရန် ဆိုသည့် အချက်ကို တိကျစွာ လိုက်နာ သွားမည်ဖြစ်ကြောင်း တပ်မတော် ကာကွယ်ရေး ဦးစီးချုပ်က ထပ်မံအတည်ပြု ပြောကြားသည်။ သို့သော် လက်နက်ကိုင် ပဋိပက္ခတစ်ခုတွင် တင်းမာမှု အရှိန် လျော့ကျစေရန် အတွက် နှစ်ဘက်လုံးက တိုက်ခိုက်မှုများကို ရပ်ဆိုင်းထားရန် လိုအပ်မည် ဖြစ်သည်။ ထို့ကြောင့် KIO/KIA အနေဖြင့်လည်း တပ်မတော်တပ်ဖွဲ့များကို စတင်တိုက်ခိုက်မှု မပြုရေး လက်အောက် တပ်ဖွဲ့များကို ညွှန်ကြား ကြပ်မတ်သွားရန် တိုက်တွန်းသည်။ ပြီးခဲ့သော ဖြစ်စဉ်များကို ပြန်လည် လေ့လာပါက မိမိကိုယ်ကို ခုခံကာကွယ်ရုံမှအပ ချီတက်ထိုးစစ်ဆင် တိုက်ခိုက်ခြင်းမပြုရန် နိုင်ငံတော် သမ္မတရုံး၏ ညွှန်ကြားချက် ရရှိခဲ့သည့် ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်မှ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၁၅ ရက် အထိ KIO/KIA အဖွဲ့အနေဖြင့် လမ်းတံတား ဖောက်ခွဲဖျက်ဆီးမှု(၁၂၂)ကြိမ်၊ မိမိ တပ်စခန်းများအား လာရောက်နှောင့်ယှက် ပစ်ခတ်ခြင်း(၆၄)ကြိမ်၊ အရပ်သားများ မိုင်းနင်းမိခြင်း (၃၀)ကြိမ်၊ လုယက် ဖျက်ဆီးခြင်း (၆၀)ကြိမ်၊

လူသစ် စုဆောင်းခြင်းနှင့် အဓမ္မ ဖမ်းဆီးခြင်း (၂၈)ကြိမ်ရှိခဲ့ပြီး မိမိတပ်များနှင့် ထိတွေ့မှုပေါင်း (၁၀၉၅)ကြိမ် ဖြစ်ပွားခဲ့ကာ ၎င်းဖြစ်စဉ်များတွင် အရာရှိ စစ်သည် အများအပြား ကျဆုံးခြင်း၊ ဒဏ်ရာရခြင်း များရှိခဲ့သည်။

၆။ ထို့ပြင် ကချင်ပြည်နယ်အတွင်း ပြန်လည် ဖြစ်ပွားလာသည့် တိုက်ပွဲများကြောင့် ဒုက္ခ ရောက်နေရသည့် ပြည်သူများကို စာနာထောက်ထားသောအားဖြင့် အများပြည်သူ အသုံးပြုနေသည့် ကားလမ်း၊ ရထားလမ်းများကို ပိတ်ဆို့ခြင်း၊ မိုင်းခွဲ တိုက်ခိုက်ခြင်းများ မပြုလုပ်ရန်လည်း လိုအပ်မည်ဖြစ်သည်။ လက်ရှိအချိန်တွင် KIO/KIA လက်နက်ကိုင် အဖွဲ့များက မန္တလေး-မြစ်ကြီးနား ရထားလမ်းတွင် မိုင်းခွဲတိုက်ခိုက်မှု (၅၆)ကြိမ်၊ မြစ်ကြီးနား- ဆွမ်ပရာဘွမ် ပူတာအို လမ်းတွင် မိုင်းခွဲ တိုက်ခိုက်မှု(၁၅)ကြိမ်၊ မြစ်ကြီးနား- ဗန်းမော် ကားလမ်းတွင် မိုင်းခွဲ တိုက်ခိုက်မှု (၄၂)ကြိမ် ပြုလုပ်ခဲ့သည့် အတွက် ပြည်သူများ ထိခိုက်ဒဏ်ရာရ အသက်ဆုံးရှုံးမှုများရှိသကဲ့သို့ လမ်းပန်းဆက်သွယ်ရေးများလည်း ပြတ်တောက် ခဲ့ရသည်။ ထိုကဲ့သို့ တိုက်ခိုက်မှုများကြောင့် ကချင်ပြည်နယ်တွင် ကုန်ဈေးနှုန်းများ ကြီးမြင့်လာခဲ့ပြီး အထူးသဖြင့် ပူတာအိုဒေသရှိ ပြည်သူများ အနေဖြင့် စားနပ်ရိက္ခာ ရှားပါးမှုနှင့် ရင်ဆိုင်

နေရသဖြင့် တပ်မတော် လေယာဉ်များနှင့်ပါ ရိက္ခာများ ကူညီ ပို့ဆောင် ပေးလျက် ရှိသည်။ တပ်မတော်အနေဖြင့် အရပ်ဘက် ပစ်မှတ်များကို လုံးဝတိုက်ခိုက်ခြင်း မပြုရန် ညွှန်ကြားထားပြီး ဖြစ်သဖြင့် KIO/KIA လက်နက်ကိုင် အဖွဲ့အနေဖြင့်လည်း အများ ပြည်သူ သွားလာနေသည့် ရထားလမ်း၊ ကားလမ်းများကို နှောင့်ယှက် တိုက်ခိုက် နေခြင်း များအား ရပ်ဆိုင်းရန် လိုအပ်မည်ဖြစ်သည်။ သို့မှသာ လက်နက်ကိုင် တိုက်ခိုက်မှုများ အရှိန်လျော့ကျ လာသည့်နှင့်အမျှ ဒေသခံ ပြည်သူများ အတွက် စီးပွားရေး၊ လူမှုရေး အကူအညီများနှင့် ပြန်လည် ထူထောင်ရေး လုပ်ငန်းများကို ပိုမို ဆောင်ရွက်ပေးနိုင်မည် ဖြစ်သည်။

၇။ နိုင်ငံတော် အစိုးရသည် အမျိုးသားပြန်လည် စည်းလုံး ညီညွတ်ရေးနှင့် တိုင်းရင်းသား စည်းလုံး ညီညွတ်ရေးတို့ အတွက် တိုင်းရင်းသား လက်နက်ကိုင် အဖွဲ့အစည်း အားလုံးနှင့် ထာဝရ ငြိမ်းချမ်းရေး တည်ဆောက်နိုင်အောင် အပစ်အခတ် ရပ်စဲရေးမှတစ်ဆင့် ခိုင်မာ သည့် နိုင်ငံရေး ဆွေးနွေးမှုများကို ဆက်လက် လုပ်ဆောင်သွားမည် ဖြစ်သည်။ KIO/KIA နှင့်လည်း ငြိမ်းချမ်းရေး ဆွေးနွေးမှုများ ဆက်လက် ပြုလုပ်မည် ဖြစ်သည်။ နောင်တွေ့ဆုံ ဆွေးနွေး မှုများတွင် KIO/KIA လက်နက်ကိုင်အဖွဲ့မှ တပ်ပိုင်း

ဆိုင်ရာများကို အဆုံးအဖြတ် ပေးနိုင်သည့် ပုဂ္ဂိုလ်များက တပ်မတော် နှင့် တွေ့ဆုံ ဆွေးနွေး ညှိနှိုင်းရန် လိုအပ်သည်။

၈။ နိုင်ငံတော် အစိုးရသည် ကချင်ပြည်နယ်အတွင်း ငြိမ်းချမ်းရေးနှင့် တိုင်းရင်းသား စည်းလုံး ညီညွတ်ရေးကို တည်ဆောက်နိုင်ရန်အတွက် KIO/KIA အပါအဝင် တိုင်းရင်းသား ပြည်သူ အားလုံးနှင့် လက်တွဲ ဆောင်ရွက် သွားရန် အသင့်ရှိကြောင်း သတင်း ထုတ်ပြန်အပ်ပါသည်။

သတင်းထုတ်ပြန်ရေးအဖွဲ့




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**နိုင်ငံတော်သမ္မတရုံး**

## ကြေငြာချက် (၅)

# နိုင်ငံရေးဆွေးနွေးမှုဖြင့် ငြိမ်းချမ်းရေးတည်ဆောက်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## နိုင်ငံတော်သမ္မတရုံး
## နိုင်ငံတော်သမ္မတက
## တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများ၏
## လိုင်ဇာအစည်းအဝေးသို့ ပေးပို့သည့်သဝဏ်လွှာ

၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၂၉ ရက်

လိုင်ဇာအစည်းအဝေးသို့ တက်ရောက်လာသော တိုင်းရင်းသားညီနောင်များအား ခင်မင်ရင်းနှီးစွာဖြင့် နှုတ်ခွန်း ဆက်သအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ထာဝရတည်တံ့ခိုင်မြဲသည့် ငြိမ်းချမ်းရေးတည်ဆောက်ရန် ရည်မှန်းချက်ဖြင့် တိုင်းရင်းသားလက်နက်ကိုင်ခေါင်းဆောင်များ ကချင်ပြည်နယ်လိုင်ဇာတွင် အစည်းအဝေး ကျင်းပနေသည်ကို သိရှိရပါသည်။

အဆိုပါအစည်းအဝေးတွင် ဆွေးနွေးဆုံးဖြတ်ချက်များ၊ သဘောတူညီချက်များနှင့် ရှေ့တွင် ဆက်လက်ဆောင် ရွက်မည့်လုပ်ငန်းစဉ်များ ချမှတ်ခြင်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ငြိမ်းချမ်းရေး ပြန်လည် ဖော်ဆောင်နိုင်ရေးအတွက် နိုင်ငံလုံးဆိုင်ရာ အပစ်အခတ်ရပ်စဲခြင်း သဘောတူညီချက်လက်မှတ်ရေးထိုးနိုင်ရန် နိုင်ငံရေးဆွေးနွေးမှု မူဘောင်ချမှတ်နိုင်ရန်နှင့် နိုင်ငံရေးဆွေးနွေးမှုဖြင့် ငြိမ်းချမ်းရေး တည်ဆောက်ရန်တို့အတွက် အထောက်အကူဖြစ်စေမည်ဟု ယုံကြည်ပါသည်။

ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေးနှင့် အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲ ရေးတို့အတွက် နိုင်ငံအတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားအားလုံးက စည်းလုံးညီညွတ်စွာဖြင့် လက်တွဲ ဆောင်ရွက်မှသာ အောင်မြင်စွာ အကောင်အထည်ဖော်ဆောင်နိုင်မည်ဟု ယုံကြည်ပါကြောင်းနှင့် အစည်းအဝေးအောင်မြင်ပါစေကြောင်း ဆုမွန်ကောင်းတောင်း၍ သဝဏ်လွှာပေးပို့လိုက်ပါသည်။

ပုံ
သိန်းစိန်
နိုင်ငံတော်သမ္မတ

(ညွန်းကြေးမုံသတင်း –၁၁–၂၀၁၃–စာ ၁)

## ကြေငြာချက် (၆)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ပြည်ထောင်စုလွှတ်တော်
## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ဖွဲ့စည်းပုံအခြေခံဥပဒေ
## လေ့လာသုံးသပ်ရေးပူးပေါင်းကော်မတီ
## သတင်းထုတ်ပြန် (၃/၂၀၁၃၊ ၄/၂၀၁၃)

၁၃၇၅ ခုနှစ်၊ နတ်တော်လဆန်း (၄) ရက်
(၂၀၁၃ ခုနှစ်၊ ဒီဇင်လာလ ၆ ရက်/၃၁ ရက်

## ဖွဲ့စည်းပုံအခြေခံဥပဒေ (၂၀၀၈ ခုနှစ်)နှင့် ပတ်သက်၍ အကြံပြုချက်တောင်းခံခြင်းအပေါ် ဌာန၊ အသင်းအဖွဲ့၊ပါတီအသီးသီးနှင့် ပုဂ္ဂိုလ်များထံမှရရှိမှုအခြေအနေ သတင်းထုတ်ပြန်ခြင်း

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေလေ့လာသုံးသပ်ရေး ပူးပေါင်းကော်မတီမှ သတင်း ထုတ်ပြန်ချက် (၁/၂၀၁၃)ဖြင့် ဥပဒေပြုရေးမဏ္ဍိုင်၊ အုပ်ချုပ်ရေးမဏ္ဍိုင်၊ တရားစီရင်ရေးမဏ္ဍိုင်များထံမှ လေ့လာသုံး သပ်ချက်များနှင့် အကြံပြုချက်

များကို ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်နေ့ မတိုင်မီပေးပို့နိုင်ကြောင်း သတင်းထုတ် ပြန်ခဲ့ပါသည်။

၂။သို့သော်လည်း ပြည်သူများ၊ အဖွဲ့အစည်းများ၊ ဌာနအသင်းအဖွဲ့ပါတီများမှ ကျယ်ကျယ်ပြန့်ပြန့် အကြံပြုစာများ ရရှိရန်အလို့ငှာ (၃/၂၀၁၃) ပူးပေါင်းကော်မတီအစည်းအဝေးကို ၃၁–၁၀–၂၀၁၃ တွင် ကျင်းပခဲ့ပြီး ပြည်ထောင်စုလွှတ်တော်သို့ တင်ပြသဘော တူညီချက်ဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေ လေ့လာပူးပေါင်းရေး ကော်မီတီမှ သတင်းထုတ်ပြန်ချက် (၂/၂၀၁၃)ဖြင့် ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက် မတိုင်မီ ပေးပို့နိုင်ပါ ကြောင်း သတင်းထုတ် ပြန်ခဲ့ပါသည်။

၃။သတင်းထုတ်ပြန်ချက်အရ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၇ ရက်နေ့ မတိုင်မီထိ အကြံပြုစာပေါင်း (၁၂၄)စောင် ရှိခဲ့ပါသည်။

၄။ (၃/၂၀၁၃) ထုတ်ပြန်ချက် (၆–၁၂–၂၀၁၃)တွင် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၈) ရက်နေ့မှ ဒီဇင်ဘာ (၅) ရက်နေ့အထိ အကြံပြုစာပေါင်း (၃၁၆)စောင် ရရှိခဲ့ ပါသည်။

၅။သို့ပါ၍ ၁–၁–၂၀၁၄ သတင်းထုတ်ပြန်ချက် (၄/၂၀၁၃) တွင် ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ (၃၁)ရက်နေ့ (၁၆း၃၀ ည)နာရီအထိ အကြံပြုစာပေါင်း (၂၈၂၄၇)စောင် ရရှိခဲ့ပြီး ပါတီအဖွဲ့အစည်း နှင့် အသင်းအဖွဲ့အသီးသီးမှ – (ဒီဇင်ဘာလ ၅ရက်နေ့မှ ဒီဇင်ဘာလ ၃၁ ရက်အထိ)

(က) အခန်း (၁)တွင် အကြံပြုချက် (၅၉၀)ချက်၊– ၁၂၀၆၂၄
(ခ) အခန်း (၂)တွင် အကြံပြုချက် (၃၆) ချက်၊ – ၁၀၀
(ဂ) အခန်း (၃)တွင် အကြံပြုချက် (၂၆၁) ချက်၊ – ၃၃၆၉
(ဃ) အခန်း (၄)တွင် အကြံပြုချက် (၃၀၉) ချက်၊ –၂၄၃၉၈
(င) အခန်း (၅)တွင် အကြံပြုချက် (၄၃၈) ချက်၊ – ၁၀၇၈၃
(စ) အခန်း (၆)တွင် အကြံပြုချက် (၁၇၉) ချက်၊ – ၄၆၉
(ဆ) အခန်း (၇)တွင် အကြံပြုချက် (၂၈) ချက်၊ – ၇၂၄၂
(ဇ) အခန်း (၈)တွင် အကြံပြုချက် (၁၂၀)ချက်၊ – ၂၀၇၇
(ဈ) အခန်း (၉)တွင် အကြံပြုချက် (၄၉) ချက်၊ – ၂၁၃
(ည) အခန်း (၁၀)တွင် အကြံပြုချက် (၂၀) ချက်၊ – ၄၃
(ဋ) အခန်း (၁၁)တွင် အကြံပြုချက် (၈၃) ချက်၊ – ၃၃၈
(ဌ) အခန်း (၁၂)တွင် အကြံပြုချက် (၂၁၈) ချက်၊ –၁၀၅၂၃၃
(ဍ) အခန်း (၁၃)တွင် အကြံပြုချက် (၁၁) ချက်၊ – ၂၉
(ဎ) အခန်း (၁၄)တွင် အကြံပြုချက် (၂၂) ချက်၊ – ၅၉
(ဏ) အခန်း (၁၅)တွင် အကြံပြုချက် (၁၂) ချက်၊ –၂၆
(တ) ဇယား (၁)တွင် အကြံပြုချက် (၅၉) ချက်၊ – ၈၁
(ထ) ဇယား (၂)တွင် အကြံပြုချက် (၄၅) ချက်၊– ၇၈
(ဒ) ဇယား (၃)တွင် အကြံပြုချက် (၁၀) ချက်၊ – ၁၁
(ဓ) ဇယား (၄)တွင် အကြံပြုချက် (၁) ချက်၊ – ၅
(န) ဇယား (၅)တွင် အကြံပြုချက် (၂၁) ချက်၊ –၂၆

(ပ) ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ပေးရန် သီးသန့်အကြံပြုထားသော အကြံပြုချက်စောင်ရေ (၂၇၉၀၆)ချက်

၆။ စုစုပေါင်း အကြံပြုချက် (၃၂၃၁၁၀)ရရှိပြီးဖြစ်ကြောင်းနှင့် ဆက်လက်၍လည်း အကြံပြုစာများ ရောက်ရှိလျက်ရှိ ကြောင်း သတင်းထုတ်ပြန်အပ်ပါသည်။

ဖွဲ့စည်းပုံအခြေခံဥပဒေလေ့လာသုံးသပ်ရေးပူပေါင်းကော်မတီ

(ညွှန်း – ကြေးမုံသတင်းစာ – ၈–၁၂–၂၀၁၃ စာ – ၉/ ၁–၁–၂၀၁၄ စာ– ၂၄၊၇)။

မှတ်ချက်။ ။ အထက်ပါ လက်ျာဘက်နံပါတ်များသည် နောက်ဆုံး စာရင်းဖြစ်သည်။

# ကြေငြာချက် (၇)

**နိုတြီပဗ္ဗလစ်ရှေ့နေ၏ လက်မှတ်မှန်ကန်ကြောင်း ထပ်ဆင့်ထောက်ခံချက်နှင့်ပတ်သက်၍ နိုင်ငံခြားရေးဝန်ကြီးဌာနမှ အများပြည်သူထံ အသိပေးကြေညာချက်**

၁။မြန်မာနိုင်ငံသားများ ပြည်ပတွင်အသုံးပြုရန် ဘွဲ့လက်မှတ်များ၊ အောင်လက်မှတ်များ၊ အိမ်ထောင်စုစာ ရင်း၊ နိုင်ငံသားစိစစ်ရေးကတ်ပြား၊ လက်ထပ်စာချုပ်၊ ယာဉ်မောင်းလိုင်စင်၊ ကျမ်းကျိန်လွှာ အစရှိသည့် စာရွက်စာ တမ်းများကို ပြည်ထောင်စုရှေ့နေချုပ်ရုံးက အသိအမှတ် ပြုထားသည့် နိုတြီပဗ္ဗလစ်ရှေ့နေမှ အင်္ဂလိပ်ဘာသာဖြင့် တရားဝင်ပြန်ဆိုချက်အပေါ် နိုင်ငံခြားရေးဝန်ကြီးဌာနမှ ယင်းနိုတြီပဗ္ဗလစ်ရှေ့နေ၏ လက်မှတ် မှန်ကန်ကြောင်းကို ထပ်ဆင့်ထောက်ခံပေးခြင်းနှင့်ပတ်သက်၍ အများပြည်သူများ လွယ်လင့်တကူ သိရှိနိုင်စေရန်နှင့် ကိုယ်ကျိုးရှာ အမြတ်ထုတ်လိုသူများ၏ ပယောဂမှ ကင်းဝေးနိုင်စေရန် နိုင်ငံခြားရေးဝန်ကြီးဌာနတွင် နိုတြီထောက်ခံချက် ပြုလုပ်ရာ၌ အောက်ဖော်ပြပါစာရွက်စာတမ်းများ မပျက်မကွက် ယူဆောင်လာရပါမည်-

(က) နိုတြီဘာသာပြန်ဆိုထားသည့် စာရွက်စာတမ်း (မူရင်း)

(ခ) နိုတြီပြုလုပ်လိုသော စာရွက်စာတမ်း၏မူရင်း (မူရင်း+မိတ္တူ)

(ဂ) နိုတြီတစ်စောင်လျှင် ကျပ်(၅၀၀) နှုန်းဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာန၏ ငွေစာရင်းသို့ ပေးသွင်းထားသည့်ဘဏ်ချလန်(မူရင်း)

(ဃ) နိုင်ငံသားစိစစ်ရေးကတ်ပြား (သို့မဟုတ်) သက်သေခံကတ်ပြား(မူရင်း)

(င) အိမ်ထောင်စုစာရင်း(မူရင်း)

၂။နိုတြီထောက်ခံချက် ပြုလုပ်လိုသူများ အနေဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာန၊ နေပြည်တော်သို့ ကာယကံရှင် ကိုယ်တိုင် လာရောက်ဆောင်ရွက်ရပါမည်။ အကြောင်းအမျိုးမျိုးကြောင့် ကိုယ်တိုင်မလာရောက်နိုင်ပါက အိမ်ထောင်စုစာရင်းဝင်တစ်ဦးဦးမှ ကိုယ်စားလာရောက် ဆောင်ရွက်နိုင်ပါသည်။ (နိုင်ငံသားစိစစ်ရေးကတ်ပြား (မူရင်း)ယူဆောင်လာရပါမည်။ ကိုယ်စားလာရောက်ဆောင်ရွက်ပါက နိုင်ငံသားစိစစ်ရေးကတ်ပြားနှင့် အိမ်ထောင်စုစာရင်း(မူရင်း)တို့အား မပျက်မကွက်ယူဆောင် လာရပါမည်။)

၃။နိုင်ငံခြားရေးဝန်ကြီးဌာနအနေဖြင့် နိုတြီထောက်ခံ ချက်များကို စာရွက်စာတမ်းပြည့်စုံမှန်ကန်မှုရှိပါက နေ့ချင်း ပြီးဆောင်ရွက်ပေးလျက်ရှိပါသည်။ နိုတြီတစ်စောင်အတွက် နိုင်ငံခြားရေးဝန်ကြီးဌာန၏ ငွေစာရင်းသို့ ကျပ်(၅၀၀)ပေး သွင်းရန်နှင့် နိုတြီ(၃)စောင်အတွက် လျှောက်ထားနိုင်သော လျှောက်လွှာပုံစံ(၁)စောင်လျှင် ကျပ်(၅၀၀)ကုန်ကျရန်မှအပ အခြားမည်သည့်အခကြေးငွေမျှ ပေးဆောင်ရန်မရှိ (မရှိ)ပါ။

၄။ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အသိအမှတ်ပြုထားသော နိုတြီပဗ္ဗလစ်ရှေ့နေ စုစုပေါင်း ၈၁ ဦးရှိပြီး ယင်း စာရင်းတွင်မပါရှိသော ရှေ့နေများ၏ လက်မှတ်၊ တံဆိပ်တုံးများကို ထပ်ဆင့်ထောက်ခံပေးခြင်းမပြုပါ။ နိုင်ငံခြားရေး ဝန်ကြီးဌာနအနေဖြင့် နိုတြီပဗ္ဗလစ်ရှေ့နေမှ အင်္ဂလိပ် ဘာသာသို့ ပြန်ဆိုထားသည့် စာရွက်စာတမ်းများကိုသာ ထပ်ဆင့်ထောက်ခံပေးမည်ဖြစ်ပြီး မြန်မာဘာသာအပါ အဝင် အခြား မည်သည့်ဘာသာဖြင့် ရေးသားထားသည့် စာရွက်စာတမ်းကိုမျှ ထောက်ခံပေးမည်မဟုတ်ပါ။

၅။ ကျမ်းကျိန်လွှာနိုတြီစာရွက်စာတမ်းပြုလုပ်သူများအနေဖြင့် တရားရုံးမှ ခန့်အပ်ထားရှိသည့် ကျမ်းကျိန်သူ အရာရှိများမှသာ လက်မှတ်ရေးထိုးဆောင်ရွက်သည့် နိုတြီစာရွက်စာတမ်းများကို ထပ်ဆင့်ထောက်ခံပေးပါသည်။

၆။နိုင်ငံခြားရေးဝန်ကြီးဌာနအနေဖြင့် အောက်ဖော်ပြပါ စာရွက်စာတမ်းများအား ထပ်ဆင့်ထောက်ခံချက်ဆောင် ရွက်ပေးမည်မဟုတ်ပါ-

(က) အပျို/လူပျိုဖြစ်ကြောင်း စာရွက်စာတမ်းများ

(ခ) မြန်မာနိုင်ငံသားကလေးများအား နိုင်ငံခြားသားများမှ အမွေစားအမွေခံ(ကိတ္တိမ)အဖြစ် မွေးစားခြင်းများ၊

(ဂ) ပြည်ပမှရရှိလာသော အောင်လက်မှတ်များဘွဲ့လက်မှတ်များ၊

(ဃ) ကိုယ်ပိုင်အသေးစားလုပ်ငန်းများ (အပ်ချုပ်လုပ်ငန်း၊ ပုံနှိပ်လုပ်ငန်း၊ ကုန်စုံဆိုင်လုပ်ငန်း အစရှိသည့် အလုပ်အကိုင်ပြုလုပ်ခြင်းနှင့် သက်ဆိုင်သော စာရွက်စာတမ်းများ၊

(စ) သက်တမ်းကုန်ဆုံးနေသော စာရွက်စာတမ်းများ

(ဆ) တရားမဝင်သော စာချုပ်စာတမ်းများ၊

(ဇ) နိုတြီရှေ့နေ၏ထောက်ခံချက်သက်တမ်း (၆)လ ကျော်လွန်နေသည့် စာရွက်စာတမ်းများ

၇။နိုင်ငံခြားရေးဝန်ကြီးဌာနတွင် နိုတြီထောက်ခံချက် ရယူရာ၌ အဆင်ပြေချောမွေ့စေရန် နိုင်ငံခြားရေးဝန်ကြီးဌာန၊ ကောင်စစ်ရေးရာနှင့် ဥပဒေရေးရာဦးစီးဌာနရှိ နိုတြီ ဌာနစိတ်နှင့်သာ တိုက်ရိုက်ဆက်သွယ်ဆောင်ရွက်သွားပါရန် အကြံပြုတိုက်တွန်းအပ်ပါသည်။ အကယ်၍စာရွက် စာတမ်းများ မမှန်မကန်ပြုလုပ်ထားမှုများ (သို့မဟုတ်) အတုအပပြုလုပ်ထားမှုများအားစိစစ်တွေ့ရှိပါက နိုတြီထောက်ခံချက်အားဆောင်ရွက်ပေးမည်မဟုတ်သည့်အပြင် တည်ဆဲဥပဒေများနှင့်အညီ အရေးယူခံရမည်ဖြစ်ပါကြောင်း အသိပေးဖော်ပြအပ်ပါသည်။

**နိုင်ငံခြားရေးဝန်ကြီးဌာန**

***ကြေးမုံ - အောက်တိုဘာ ၃၀/၂၀၁၃***

## ကြေငြာချက် (၈)

## CNF နှင့် အစိုးရ သဘောတူညီစာချုပ်

ချင်းပြည်နယ်အစိုးရနှင့် ချင်းအမျိုးသားတပ်ဦး
တို့အကြားပြည်ထောင်စု မြန်မာနိုင်ငံအတွင်း
ထာဝရငြိမ်းချမ်းမှုဖော်ဆောင်နိုင်ရေး
ပဏာမ သဘောတူညီချက်
*ထာဝရတည်တံ့သော ငြိမ်းချမ်းမှုကို*
*ဖော်ဆောင်နိုင်သောအလို့ငှါ...*

( ၁ ) ချင်းပြည်နယ်အစိုးရ၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့ သည် ဤသဘောတူညီချက် လက်မှတ်ရေးထိုးသည့်အချိန်မှစပြီး စစ်ရေးအပါ အဝင် ရန်လိုမှုတိုက်ခိုက် ပစ်ခတ်မှုများကို နှစ်ဦးနှစ်ဖက် ချက်ခြင်းရပ်ဆိုင်းရန် သဘောတူသည်။

( ၂ )ချင်းပြည်တယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ဆွေးနွေး

ရေးအဖွဲ့တို့သည် ဤ သဘောတူညီချက်ပါ အကြောင်းအရာများကို အရှိန်အဟုန်မြှင့် ဆောင်ရွက်နိုင် ရန် ချင်းပြည်နယ် ထန်တလန် မြို့တွင် ဆက်ဆံရေးရုံးဖွင့်ရန် သဘောတူသည်။ တီးတိန်နှင့် မတူပီမြို့များတွင် ဆက်သွယ်ရေးရုံးများ ဖွင့်လှစ်ရန် ကိစ္စနှင့် ပတ်သက် ပြီး သက်ဆိုင်ရာ သို့တင်ပြပြီး အကြောင်းပြန်ကြားမည် ဖြစ်ပါသည်။ ပစ်ခတ်တိုက် ခိုက်မှုများ ရပ်ဆိုင်းထားစဉ်ကာလအတွင်း ချင်းအမျိုးသားတပ်ဦး/တပ်မတော်တို့သည် ထန်တလန်မြို့နယ် တလန်ပီးကျေးရွာအုပ်စု၊ ဒွန်းကျေးရွာအုပ်စုနှင့် ဇန်တလန်ကျေး ရွာအုပ်စု (၃) အုပ်စုဝန်းကျင်တွင် ယာယီအခြေပြုနေထိုင်ရန် သဘော တူသည်။ ၎င်း အပြင်၊ တီးတိန်မြို့နယ် ဇိမ်ပီးကျေးရွာအုပ်စု၊ ဘုတ် ဖိရ် ကျေးရွာအုပ်စုနှင့် ပလက်ဝမြို့နယ် ကုန်ပြင်ကျေးရွာအုပ်စု၊ ပါရာကျေးရွာအုပ်စု၊ ပထိန်တလန်ကျေးရွာအုပ်စု တို့တွင် နေထိုင်ရန် ကိစ္စနှင့်ပတ်သက်ပြီး သက်ဆိုင် ရာ သို့တင်ပြအကြောင်းပြန်ကြားမည် ဖြစ်သည်။

( ၃ ) ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေး ရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့်ငြိမ်းချမ်း ရေးဆွေးနွေးရေးအဖွဲ့တို့ သည် လက်နက်ကိုင်ဆောင်ခြင်းမပြုသော ချင်းအမျိုးသားတပ်ဦးအဖွဲ့ဝင်များနှင့် ချင်းအမျိုးသားတပ်မတော် တပ်ဖွဲ့ဝင်များအား ပြည်ထောင်စုအတွင်း မည်သည့် နေရာ၌မဆို

လွတ်လပ်စွာ ခရီးသွားလာခွင့်ပြုရန် သဘောတူသည်။

( ၄ ) ချင်းပြည်နယ်အစိုးရပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့်ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့သည် ပြည်ထောင်စုအစိုးရနှင့် ချင်းအမျိုးသားတပ်ဦးစတို့ ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးမှုများ ပြုလုပ်နိုင်ရန်အတွက် အချိန်နှင့်နေရာများ သတ်မှတ်နိုင်ရေး ထပ်မံတွေ့ဆုံမှုများကို အလျှင်အမြန် ပြုလုပ်ရန် သဘောတူသည်။ ထိုသို့ ပြည် ထောင်စုအဆင့်တွေ့ဆုံဆွေးနွေးမှုများ ပြုလုပ်ရာတွင် အခြေခံများအဖြစ် ဒို့တာ ဝန်အရေးသုံးပါးအပြင်၊ ပြည်ထောင်စုအရေး တိုင်းရင်းသားများအရေးနှင့် ဒီမို ကရေစီထွန်းကားရေးတို့အား အခြေခံလျှက် တွေ့ဆုံဆွေးနွေးခြင်း ပြုလုပ်ရန် မူအားဖြင့် သဘောတူသည်။

( ၅ )ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့သည် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးမှုများပြုလုပ်ရာတွင် ချင်းပြည်သူများ၏ သဘောထားကို အခြေခံလျက် ဆွေးနွေးခြင်းများ ပြုလုပ်နိုင်ရေး ဤသဘောတူညီချက်လက်မှတ်ရေးထိုးပြီးသည်နှင့်တပြိုင်နက် ချင်းအမျိုးသား တပ်ဦးနှင့် ချင်းအမျိုးသား တပ်မတော်သားများအား ပြည်တွင်းပြည်

ပရှိ ချင်းပြည်သူများနှင့်လွတ် လပ်စွာ တွေ့ဆုံဆွေးနွေးခြင်း (Public Consultation)ကို ပြုလုပ်ခွင့်ပြုရန် သဘော တူသည်။

( ၆ )ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ချင်းပြည်သူပြည်သားများ ရင်ဆိုင်နေသည့် အစားအစာပြတ်လပ်မှု၊ ဆေးဝါးပြတ်လပ်မှု၊ သန့်ရှင်းသောသောက်သုံးရေးများ ပြတ်လပ်မှု စသည်ပြဿနာများအား ဖြေရှင်းနိုင်ရန် နိုင်ငံတကာမှ အစိုးရမဟုတ်သည့် ပရဟိတအဖွဲ့ (Non-Governmental Organization)များအား အဆိုပါကိစ္စများကို ချင်းပြည်နယ်အတွင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း အထက်ဖော်ပြပါလုပ်ငန်းများအား တည်ဆဲဥပဒေ နှင့်အညီ လွတ်လပ်စွာ လုပ်ဆောင်ခွင့်ပြုရန် သဘောတူသည်။

( ၇ )ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့သည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း အဆင်းရဲဆုံး ပြည်နယ်တခုဖြစ်သည့် ချင်းပြည်နယ်အား၊ ခေတ်မီတိုးတက်သည့် ပြည်နယ်တခုသို့ပ အသွင်ကူးပြောင်း နိုင်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ၏ ထောက်ပံ့မှုဖြင့် စီးပွါးရေးအထူး ဇုံ (Special Economic Zone -here in after SEZ)ကို

ချင်းအမျိုးသားတပ်ဦးမှ (SEZ) ဥပဒေနှင့်အညီ ဦးဆောင်လုပ်ဆောင်ရန် သဘောတူသည်။ အဆိုပါ စီး ပွါးရေးအထူးဇုံ ထူထောင်ရေးကို ချင်းအမျိုးသားတပ်ဦးနှင့် ပြည်ထောင်စုအစိုးရတို့အကြား လုပ်ငန်းဖော်ဆောင်မှု ဆွေးနွေးလုပ်ဆောင်ရန် သဘောတူသည်။

( ၈ )ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ တို့သည် ချင်းပြည်နယ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် ချင်းအမျိုးသားတပ်ဦးနှင့် ချင်းပြည်နယ်အစိုးရတို့သည် အပြန်အလှန်အကြံပေးခြင်း၊ ပူးတွဲလုပ်ဆောင်ခြင်း ညှိနှိုင်းဖလှယ်ခြင်းများကို လုပ်အပ်လျှင်လိုအပ်သကဲ့သို့ ပူးတွဲလုပ်ဆောင်ရန် သဘောတူသည်။

( ၉ )ချင်းပြည်နယ်အစိုးရ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ နှင့် ချင်းအမျိုးသားတပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ တို့သည် ချင်းပြည်နယ်မြောက်ပိုင်းတွင် ဘိန်းခင်းများ၊ ဘိန်းလုပ်ငန်းများ၊ ဘိန်း ကုန်ကူးခြင်းစသည်များကို အမြစ်ပြတ်ချေမှုန်းရေး ချင်းအမျိုးသားတပ်ဦးနှင့် ချင်းပြည်နယ်အစိုးရတို့ အပြန်အလှန်ပူးပေါင်းလုပ်ဆောင်သွားရန် သဘောတူ သည်။

ဤသဘောတူညီချက် (၉) ချက်ကို ချင်းပြည်နယ်၏ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ချင်းအမျိုးသား

တပ်ဦး၏ ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့သည် ပြည်ထောင်စုမြန်မာ နိုင်ငံတော်သမ္မတကြီး သိန်းစိန်ဖွဲ့စည်းတာဝန်ပေးထားသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေး နွေးရေးအဖွဲ့၊ အဖွဲ့ခေါင်းဆောင် ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးအောင်မင်း၊ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး၊ ဆွေးနွေးရေးအဖွဲ့၊ အဖွဲ့ဝင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ပြည်ထောင် စုဝန်ကြီး ဦးဝင်ထွန်း၊ ချင်းပြည်နယ်ဝန်ကြီးချုပ် ဦးဟုန်းငိုင်းနှင့်၊ ချင်းငြိမ်းချမ်းရေး အကျိုးတော်ဆောင်အဖွဲ့တို့၏ ရှေ့မှောက်တွင် ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ (၆)ရက်နေ့၌ နှစ်ဦးနှစ်ဖက်သဘောတူ လက်မှတ်ရေးထိုးလိုက်သည်။

| | |
|---|---|
| ချင်းပြည်နယ် | ချင်းအမျိုးသားတပ်ဦး |
| ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ | ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့ |
| X | X |
| ဗိုလ်မှူးကြီး ဇော်မင်းဦး | ဒေါက်တာ ရှေခါးရ် |
| ဝန်ကြီး | လက်ထောက်အတွင်းရေးမှူးချုပ်(၂) |
| လုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီးဌာန | ချင်းအမျိုးသားတပ်ဦး |
| X | X |
| ဦးကပ္ပတီအယ်လ် | H.C. ရာလ်နှင်း |
| ပြည်နယ် ဥပဒေချုပ် | (အဖွဲ့ဝင်) အဓိပတိကောင်စီ |
| ချင်းပြည်နယ်အစိုးရအဖွဲ့ | ချင်းအမျိုးသားတပ်ဦး |

X

ဒုတိယ ဗိုလ်မှူးကြီး ကိုကိုကြီး
စစ်ဦးစီးမှူး(ပထမတန်း) စစ်ဆင်ရေး
အနောက်မြောက်ပိုင်းစစ်ဌာနချုပ်

X

ဦးကျော်ဇင်အောင် (ဦးစီးအရာရှိ)
ပြည်နယ်ဒေသဖွံ့ဖြိုးမှုကြီးကြပ်ရေးရုံး
(ချင်းပြည်နယ်)

X

ဦးနေဝင်း
အတွင်းရေးမှူး
ချင်းပြည်နယ်အစိုးရအဖွဲ့

X

ဒေါက်တာ အင်ဒရူး ငွန်ကျုံးလျန်
ဥက္ကဌ၊ ဇဟိုတရားသူကြီးအဖွဲ့
ချင်းအမျိုးသားတပ်ဦး

X

ဗိုလ်မှူးကြီး ဆော်လမွန်
အတွင်းရေးမှူး စစ်ရေးရာကော်မတီ
ချင်းအမျိုးသားတပ်ဦး

X

ပူ ရှိခေါ်မာ
အတွင်းရေးမှူး၊ စီးပွါးရေးနှင့်ကုန်သွယ်ရေးဌာန
ချင်းအမျိုးသားတပ်ဦး

X

ပူ ထက်နီ
အတွင်းရေးမှူး၊ ပြည်သူ့ရေးရာဌာန
ချင်းအမျိုးသားတပ်ဦး

X

ပူ၊ လှထွန်း
ဗဟိုကော်မတီဝင်
ချင်းအမျိုးသားတပ်ဦး

X

ပူ၊ ငိုင်ကြားထန်
ဗဟိုကော်မတီဝင်
ချင်းအမျိုးသားတပ်ဦး

X
ဆလိုင်းပီတာ
ဗဟိုကော်မတီဝင်
ချင်းအမျိုးသားတပ်ဦး
X
အရာခံဗိုလ် ခင်မောင်လေး
စာရေးကြီး (စစ်ရုံးချုပ်)
ချင်းအမျိုးသားတပ်မတော်
X
ဦးအောင်မင်း
ပြည်ထောင်စုအဆင့်ငြိမ်းချမ်းရေး
ဆွေးနွေးရေးအဖွဲ့
ပြည်ထောင်စုဝန်ကြီး
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
X
ဦး ဝင်းထွန်း
ပြည်ထောင်စုအဆင့်ငြိမ်းချမ်းရေး
ဆွေးနွေးရေးအဖွဲ့
ပြည်ထောင်စုဝန်ကြီး
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
X
ဦးဟုန်းငိုင်း
ဝန်ကြီးချုပ်
ချင်းပြည်နယ်အစိုးရအဖွဲ့
X
သိက္ခာတော်ရဒေါက်တာ လါလ်အုပ်
ဥက္ကဋ္ဌ
ချင်းငြိမ်းချမ်းရေးအကျိုးတော်
ဆောင်အဖွဲ့
X
သိက္ခာတော်ရ တလွန်ကျဲအို
အတွင်းရေးမှူး
ချင်းငြိမ်းချမ်းရေးအကျိုးဆောင်
တော်အဖွဲ့

ကြေငြာချက် (၉)

# ဇိုမီး လူငယ်များ ညီလာခံ

Zosuan Tuailai Khawmpi

၂၀၁၃ ခုနှစ် ဖွန်လ ၉ ရက်၊ တနင်္ဂနွေနေ့

**တီးတိန်မြို့၊ ခုပ် ရာပြည့် ခန်းမ (CCJ Hall)**
**ပထမဆုံးအကြိမ် ဇိုမီး လူငယ်များညီလာခံ၏**
**တီးတိန်မြို့သဘော ထားကြေငြာချက်**

ပြည်ထောင်စု မြန်မာနိုင်ငံနွယ်ဖွား ဇိုမီးတိုင်းရင်းသားလူငယ်များမှချင်းပြည်နယ်မြောက်ပိုင်း တီးတိန်မြို့တွင်၂၀၁၃ ခုနှစ်၊ ဇွန်လ ၅ ရက်နေ့မှ ၉ ရက်နေ့အတွင်း ကျင်းပပြုလုပ်သော ပထမဆုံးအကြိမ်ဇိုမီးလူငယ်များ ညီလာခံကြီးအား အောင်မြင်စွာ ကျင်းပရာမှ အောက်ပါ သဘောထား ကြေညာချက် (၇) ရပ်ကို ထုတ်ပြန်လိုက်သည်။

၁။ မြန်မာနိုင်ငံအတွင်း အဆင်းရဲဆုံးပြည်နယ် အဖြစ်သတ်မှတ်ခံရသည့်ချင်းပြည်နယ်အတွက် အထူးဘက်စုံဖွံ့ဖြိုးရေး စီမံကိန်းတစ်ရပ်ကို ပြည်ထောင်စု အစိုးရမှ ဖော်ဆောင်ပေးရန်။

၂။ မြန်မာနိုင်ငံအတွင်း တက္ကသိုလ်ဝင်တန်း အောင်ချက်ရာခိုင်နှုန်း အနိမ့်ဆုံးဖြစ်သောချင်း ပြည်နယ်အတွက် ပညာရေး အထူးမြင့်တင်ရေး အစီအမံများဖော်ဆောင်ပေးပါရန်နှင့်စာမတတ် မြောက်သူ ဦးရေဒုတိယအများဆုံးမြို့နယ်ဖြစ် သော တီးတိန်မြို့နယ်အတွက် ရေရှည်သဘော ဆောင်သောပညာရေးအထူး စီမံကိန်းတစ်ရပ် စီစဉ်ဆောင်ရွက်ပေးပါရန်။

၃။ ချင်းပြည်နယ်တွင် လူဦးရေအများဆုံးဖြစ်သော တီးတိန်မြို့နယ်အား ချင်းပြည်နယ် မြောက်ပိုင်း တစ်ခုလုံး၏ အုပ်ချုပ်ရေးဆိုင်ရာ လုပ်ငန်းစဉ် များပိုမိုလျင်မြန် သွက်လက်စေရေးနှင့်ဘက်စုံ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ခရိုင်အဆင့် သတ် မှတ်ပေးပါရန်။

၄။ ချင်းပြည်နယ် အတွင်းရှိ မြေတောင်နီကယ် သတ္တုစီမံကိန်းအား ဒေသခံလူထု၏ဆန္ဒသဘောထားနှင့်အညီဆိုင်းငံ့ပေးပါရန်။

၅။ ဒေသခံပြည်သူလူထုများ၏ တည်ငြိမ်အေးချမ်းရေးကိုထောက်ရှုသောအားဖြင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့နှင့်တပ်မတော်မှအပ အခြားမည်သည့်လက်နက်ကိုင်အဖွဲ့အစည်းများ၏ ဆက်ဆံရေးရုံး ဖွင့်ခြင်းသွားလာလှုပ်ရှားခြင်း များအားအမြန်ဆုံးဖယ်ရှားပေးပါရန်။

၆။ ချင်းပြည်နယ် အစိုးရ၏စီမံချက်တစ်ခုဖြစ်သည့်ဘိန်းစိုက်ပျိုးမှုပပျောက်ရေးဆောင်ရွက်မှုများအားပိုမ ိုထိရောက်မြန်ဆန်စွာ ဆောင်ရွက်ပေးနိုင်ရန်။

၇။ တိုင်းရင်းသားစာပေ သင်ကြားခွင့်အား သင်ရိုးညွှန်းတမ်းတစ်ခုအဖြစ်သတ်မှတ်ပြီးကျောင်းချိန်တွင်းဘာသာရပ်တစ်ခုအဖြစ် သင်ကြားခွင့်ပြုပါရန်။(Sian'Sawmpi USA).

## ကျမ်းကိုးကားချက်များ


- သမ္မာကျမ်းစာ (Holy Bible) The Eagle Edition, 2006, Translated By Rev. Dr. Judson D.D.
- မှန်နန်းရာဇဝင် ပထမအကြိမ် သုံးတွဲပေါင်းချုပ် (ရန်ကုန် ၂၀၀၈)
- ဒေါက်တာသန်းထွန်း ခေတ်ဟောင်းမြန်မာရာဇဝင် (ရန်ကုန်၊ မုံရွေးစာပေ၊ စတုတ္ထပုံနှိပ်၊ ၂၀၀၈)
- ဒေါက်တာသန်းထွန်း၊ မြန်မာ့သမိုင်းပုံ (ရန်ကုန်၊ မုံရွေးစာပေ၊ ၂၀၀၄)
- ဦးအောင်သိန်းဟန်၊ မြန်မာ့နိုင်ငံသမိုင်းသစ်၊ ရန်ကုန်ဝင်းမြင့်ပုံနှိပ်တိုက်၊ ၂၀၀၈။
- ကမ္ဘာ့သမိုင်း၏ မှတ်တိုင်များ–ပထမတွဲ၊ (ရန်ကုန်–မြန်မာ့ဆိုရှယ်လစ်ပါတီ ပုံနှိပ်၊ ပဥ္စမပုံနှိပ်၊ ၁၉၇၅) မိုလ်ချုပ် ကြီးနေဝင်းခေတ်
- ဦးသိန်းဖေမြင့် ချင်းဝိသေသတိုင်းသမိုင်းအစ (ရန်ကုန် – ၁၉၆၇)
- တိုင်းရင်းသားလူမျိုးများအရေးနှင့် ၁၉၄၇ ဖွဲ့စည်းပုံအခြေခံဥပဒေ(မူကြမ်း) ရန်ကုန်၊ မြန်မာ့အလင်းပုံနှိပ်တိုက် ၁၉၈၉။
- ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းပုံ အခြေခံဥပဒေ၊ ၁၉၄၇။

- ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ ၁၉၇၄။
- ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအ ခြေခံဥပဒေ ၂၀၀၈။
- ဦးကျော် (အောင်မြတ်ကျော်) မြန်မာနိုင်ငံအုပ်ချုပ်ရေးနယ်မြေများ ဖွဲ့စည်းမှုသမိုင်း၊ ရန်ကုန်၊ ကျော်စာပေ၊ ၂၀၁၂။
- ဦးစီထန်ဇသွင်း၊ ချင်းလူမျိုးများ၏သမိုင်းဖြစ်စဉ်နှင့် ရိုးရာယဉ်ကျေးမှုဓလေ့ ထုံးစံများအကျဉ်း၊ ရန်ကုန်၊ ချင်းသ မိုင်းပြုစုရေးကော်မတီ၊ ၂၀၀၁။
- သန်းဝင်းလှိုင်၊ အာဏာရှင် ဗိုလ်နေဝင်း၏ဇာတ်သိမ်းခန်း၊ ရန်ကုန်၊ မုံရွေးစာပေ။ ၂၀၁၃။
- သောမတ်စ်ထန်နိုး၊ ချင်းအမျိုးသားတပ်ဦးနှင့် ကျွန်ုပ်၏တော်လှန်ရေး အတွေ့အကြုံ၊ ရန်ကုန်၊ အေဘောနေဇာ ပုံနှိပ်တိုက်၊ ၂၀၁၃။
- Zolai / English

  **Sing Khaw Khai**, The Culture Meaning Of The Racial Name "Zomi". Edited by Dr. Tual Cin Neihsial, Zogam News. Research Publications, Appollo Veng,Lamka, 1984.
- **J.Gin Za Tuang,** Zomi Innkuan, Tedim, 1986.
- **Rev. Dr. Thawng Go Thang,** Khamtung Mite Ciim Le Khul, TANGKO. Lom-36, Hawm 4, TTBA, Tonzang, 2013, P. 12-13.

- **Dr. George Abraham Grieson**, Superintendent Linguistic Survey of India Culcutta, 1904. *He was writen Chin as "Kyang"*
- **Prof. Dr. C. Thang Za Tuan**, Zolus Journal; Vol. 16, 2012.
- **Prof. Dr. C. Thang Za Tuan**, TTBA. Silver Jubilee Laibu, Tonzang, 1975-2000, p. 4, Source:- Major Ba Shan leh Taw Sein, 1932,
- **Khoi Lam Thang**, 2013. *Zokam leh Zolai,* Zolai Simbu kum 100 Cin ciaptehna, (1913-2013).Kalaymyo, ZCLS. 2013.
- **Col. Kam Pum**, Chin National Day, Golden Jubilee Commemorative Magazine-(1941-1998) Laimai, 152-157).
- **Than Shwe**:- Unmasking Burma's Tyran, Silkworm Books, Thailand, Bankok, 2013.
- **Khup Zo Go**- Leivui pan Gwahati, CLC, 2004.
- **Dam Khaw Nang**, Suan Khup Khang Tangthu Kanna, Raangon, 2009.
- **Lal Zuala Colney**, MIZO Chipeng Hrang Hrang, Mizo Academy of Letter, Aizawl, No.8, RTM, Press, 1997.
- **Zam Khan Suan**, Voice of Zomi, Lom 1, hawm 4, ZCD,Tedim, October 24, 2013.
- **R. Savunga & Valpuia Pa**, ZOFATE CHENNA LEH A CHEHVEL A MITE AD 1260-1933, Aizawl: CLB Press, 1988.
- **Major, C.M. Enriquez,** Race of Burma, Delhi: Manager of Publication, 2nd Print 1993.
- **W.J.S. Carrapiate**, The Kachin Tribes of Burma, Rangon: Government printing, 1929.

**ဆက်သွယ်စုံစမ်းရန်**

ဖြန့်ချိရေးတာဝန်ခံ– ဦး ကျင့်ဇခိုင် (Cosmo) (ရန်ကုန်)
ဖုန်း– ၀၉၄၅၀၀၀ ၁၅၃၉

ဆရာဇမ်းဘွိုင်း (သန်လျင်)
ဖုန်း– ၀၉၄၂၀၀ ၇၇၀၂၄

ဆရာ ဇမ်လမ့်ထန် (ဒေးဗစ်) (ယုဇန)
ဖုန်း– ၀၉၃၁ ၃၄၄ ၇၀၄

ဆရာမ ကျင်းဆန်းမန်း(ကလေးမြို့)
ဖုန်း– ၀၉၄၀၀ ၅၃၄၇၇၂
တာန် အိုင်းလွန်းကပ် (တာဟန်း၊ ကလေးမြို့)
၀၉၂၅၀ ၂၁၄ ၂၄၆

# Unity is Love and Peace


1948 - 1974 Union Flag


1948- Union Seal


1974- 2010 Union Flag


2010- Union Seal


2010- Union Flag


Chin State Flag


Chin National Birds & Flowers


C N F Flag


CNF - National Flag


Indian Flag


Mizo National Flag


M N F Logo


Mizo Israel Flag


Ka Chin National Flag


K N O logo


Zomi- Z R A National Flag


Zomi International Flag


Z I A ZOMI


Z I A Flag


Z I A Logo



KUKI KNO Logo


KUKI National Flag


Naga Army NPRN


Naga National Flag GPRN


Naga GPRN NSCN



Naga GPRN Flag



Naga NSCN Flag


World Christian Flag



ZBCM Zomi -Flag


World Buddist Flag

Compiled by Kham Lam Tuang, 2013